စိတ်ကူးချိုချိုအနုပညာ

# THE CASTLE

## FRANZ KAFKA

# နတ်နွယ် ရဲတိုက်ကြီး

မြန်မာပြန်



WHISPER OF WORDS

# ပုံနှိပ် မှတ်တမ်း

ရဲတိုက်ကြီး၊ နတ်နွယ်
စာမျက်နှာ ၂၆၄ မျက်နှာ၊ ၁၃ စင်တီ× ၂၀.၅ စင်တီ
ဆရာနတ်နွယ်၏စာမူ၊စာအုပ်များမူပိုင် - စိတ်ကူးချိုချို
ထုတ်ဝေသူ - ဦးစန်းဦး၊ စိတ်ကူးချိုချိုစာပေ(၀၀၅၃၈)၊ ၈၅၊ ၁၆၄လမ်း၊ တာမွေ၊
ရန်ကုန်။ ၂၀၂၀၊ ဒီဇင်ဘာလ၊ တတိယအကြိမ်၊ အုပ်ရေ ၅၀၀၊
ပုံနှိပ်သူ - ဒေါ်ဝင်းမာ၊ စိတ်ကူးချိုချိုပုံနှိပ်တိုက်(၁၀၄၁၂)၊ ၁၁၇၉၊ မစိုးရိမ်လမ်း၊
ရန်ကင်း။
၂၀၁၅ စိတ်ကူးချိုချို၏ဒုတိယအကြိမ်မူ၊
ရောင်းဈေး ၃ ၅ ၀ ၀ ကျပ်

ကေ ရောက်ရှိသွားသောအခါ မိုးချုပ်နေပြီ။ ရွာသည် နှင်းမြူထဲတွင် မြုပ်ဝင်နေသည်။ အမှောင်နှင့် နှင်းမြူများ ဖုံးကွယ်ထားသဖြင့် ရဲတိုက်ကြီး တည်ရှိရာ တောင်ကို မတွေ့မြင်ရပါ။ ထိုအရပ်တွင် ရဲတိုက်ကြီးတစ်ခုရှိကြောင်း ပြသသည့် အလင်းရောင်ပင် မရှိပါ။ ကေသည် ရွာသို့သွားရာ လမ်းမကြီးပေါ်ရှိ သစ်သားတံတားပေါ်တွင် ရပ်ကာ သူ့အထက်ဘက်ရှိ လှည့်ဖြားတတ်သော လဟာပြင်ကြီးကို အတန်ကြာ ငေးမောလျက် ရှိတော့သည်။

ထို့နောက် သူသည် ထိုညအဖို့ အိပ်စက်ရန်နေရာ ရှာဖွေဖို့ ထွက်ခွာသွားသည်။ တည်းခိုခန်းသည် သက်ဝင်လှုပ်ရှားဆဲ ဖြစ်သည်။ ညအချိန်မတော်တွင် မမျှော်လင့်ဘဲ ရောက်ရှိလာသော ဧည့်သည်အတွက် အခန်းတစ်နေရာ ပေးစရာမရှိသဖြင့် တည်းခိုခန်း ပိုင်ရှင် ကသိကအောက် ဖြစ်နေရသော်လည်း သူ့ကို ဧည့်ခန်းတွင် ကောက်ရိုးအိတ် တစ်လုံးပေါ်၌ အိပ်ခွင့်ပြုခဲ့သည်။ လယ်သမားအချို့သည် ဘီယာသောက်နေကြဆဲ ဖြစ်သော်လည်း ကေသည် ၎င်းတို့နှင့် စကားပြောလိုစိတ် မရှိသဖြင့် ကောက်ရိုးအိတ် တစ်လုံးကို အပေါ်ထပ်မှ သူကိုယ်တိုင် သယ်ယူခဲ့ပြီး မီးဖိုနံဘေးတွင် လဲလျောင်းလိုက်တော့သည်။ နေရာက ပူနွေးပြီး လယ်သမားများက တိတ် တိတ်ဆိတ်ဆိတ် ရှိကြသဖြင့် သူသည် နွမ်းနယ်သော မျက်လုံးများဖြင့် ၎င်း တို့ကို ကြည့်နေရင်းမှာပင် အိပ်ပျော်သွားတော့သည်။ သို့သော် သိပ်မကြာခင်မှာပင် သူ နိုးလာသည်။ မျက်ခုံးထူထူ၊ မျက်ပေါက် ကျဉ်းကျဉ်း၊ သရုပ်ဆောင်တစ်ဦး၏ မျက်နှာဖြင့် မြို့သားတစ်ယောက်လို ဝတ်ဆင်ထားသော လူရွယ်တစ်ဦးသည် တည်းခိုခန်းပိုင်ရှင်နှင့်အတူ သူ့နံဘေးတွင် မတ်တတ် ရပ်လျက်ရှိသည်။ လယ်သမားများသည် အခန်းထဲတွင် ရှိနေကြဆဲဖြစ်ပြီး တချို့က ပိုပြီး ကြားသာ မြင်သာအောင် သူ တို့၏ကုလားထိုင်များကို လှည့်လိုက်ကြသည်။

လူရွယ်သည် ကေကို နိုးရသည့်အတွက် အထူးပင် ယဉ်ကျေးသိမ်မွေ့စွာ တောင်းပန်လိုက်ပြီးနောက် သူသည် ရဲတိုက်မှူးကြီး၏ သားဖြစ်ကြောင်း သူ့ ကိုယ်သူ မိတ်ဆက်ပါသည်။ ထို့နောက် သူက ပြောဆိုသည်မှာ

"ဒီရွာကို ရဲတိုက်ကြီးက ပိုင်တယ်။ ဒါကြောင့် ဘယ်သူပဲဖြစ်ဖြစ် ဒီရွာမှာ နေရင်ဖြစ်ဖြစ်၊ ဒါမှမဟုတ် ဒီရွာမှာ ညအိပ်ရင်ဖြစ်ဖြစ် ပြောရမယ်ဆိုရင် ရဲတိုက်ကြီးမှာ နေတာနဲ့ အတူတူပဲ။ မင်းကြီးရဲ့ ခွင့်ပြုချက် မရဘဲ ဘယ်သူမှ အဲဒီလိုမျိုး နေခွင့်မရှိဘူး။ ခင်ဗျားမှာလည်း အဲဒီလိုမျိုး ခွင့်ပြုချက်မရှိဘူး။ ဒါမှမဟုတ် ခင်ဗျားအနေနဲ့ ဘာခွင့်ပြု ချက်ကိုမှ မတင်ပြနိုင်ဘူး"

ကေသည် အိပ်နေရာမှ အနည်းငယ်ထလိုက်ပြီး ဆံပင်ကို လက်ဖြင့်သပ် ကာ သူ့ဘေးတွင် ရပ်နေသူ နှစ်ဦးကို မော့ကြည့်လိုက်သည်။ ထို့နောက်

"အခု ကျွန်တော်ရောက်နေတာ ဘာရွာလဲ။ ဒီရွာမှာ ရဲတိုက်ကြီးတစ်လုံး ရှိသလား"

"အသေအချာရှိတာပေါ့။ ကျွန်တော့်ရဲ့သခင် မင်းကြီး ဝက်စ်ဝက်စ်ရဲ့ ရဲတိုက်ကြီးပဲပေါ့"

ကေ၏စကားကြောင့် ဟိုနေရာ သည်နေရာမှ ခေါင်းများ လှုပ်ယမ်းလိုက်ကြစဉ်တွင် လူရွယ်က ဖြည်းလေးစွာ ပြန်လည်ပြောဆိုသည်။

"လူတစ်ယောက်ဟာ ဒီမှာအိပ်ဖို့ ခွင့်ပြုချက်လိုသလား"

သူကြားလိုက်ရသည်မှာ အိပ်မက်တစ်ခု မဟုတ်ကြောင်း သေချာစေလိုသည့် သဘောဖြင့် ကေက မေးလိုက်သည်။

"လူတစ်ယောက်မှာ ခွင့်ပြုချက် လက်မှတ်တစ်ခု ရှိရမယ်"

လူရွယ်က ယင်းသို့ ဖြေကြားလိုက်ပြီးနောက် ကေကို မထီတရီ လှောင်ထေ့သည့် အမူအရာမျိုး ပြလိုက်ပြီးနောက် အခန်းတွင်းရှိ လူများကို မေးလိုက်သည်။

"ခွင့်ပြုချက်တစ်ခု မရှိရဘူးတဲ့လား"

"ဟုတ်ပြီ၊ ဒါဆိုရင် ကျွန်တော် ခွင့်ပြုချက်တစ်ခု သွားယူမယ်"

ကေက အိပ်ရာမှထရန် စောင်ကို တွန်းဖယ်လိုက်ပြီး သမ်းဝေရင်း ပြောသည်။

"ဘယ်သူ့ဆီက သွားယူမှာလဲ"

လူရွယ်က မေးသည်။

"မင်းကြီးဆီကပေါ့။ ဒီနည်းပဲ လုပ်စရာရှိတာပဲ"

ကေက ပြန်ဖြေသည်။

"ညလယ်ကောင်ကြီးမှာ မင်းကြီးဆီက ခွင့်ပြုချက် သွားယူမယ်တဲ့လား"

လူရွယ်က နောက်တစ်လှမ်းဆုတ်ရင်း ရွတ်ဆိုလိုက်သည်။

"အဲဒါ မဖြစ်နိုင်ဘူးလား"

ကေက ခပ်အေးအေးပင် မေးလိုက်သည်။

"ဒါဖြင့်ရင် ခင်ဗျား ကျွန်တော့်ကို ဘာဖြစ်လို့ နှိုးရတာလဲ"

ဤတွင် လူရွယ် အမျက်ဒေါသ ချောင်းချောင်းထသွားသည်။

"ကလေကချေအပေါက်တွေ လာလုပ်မနေနဲ့။ မင်းကြီးရဲ့ အမိန့်အာဏာကိုလေးစားပါ။ ခင်ဗျားကို ကျုပ် နှိုးတာက မင်းကြီးရဲ့နယ်ထဲကနေ ခင်ဗျား အခုချက်ချင်း ထွက်သွားဖို့ပဲ"

သူက အော်ပြောသည်။

"ဒီအချိုးမျိုးတွေ မလုပ်ပါနဲ့"

ကေက လေသံအေးအေးဖြင့် ပြန်ပြောလိုက်သည်။ ထို့နောက် ပြန်လည် လဲလျောင်းကာ စောင်ကို ဆွဲခြုံလိုက်ပြီး

"ဒီမယ် ကိုယ့်လူ၊ ခင်ဗျားပြောတာ နည်းနည်းတော့ လွန်တယ်။ မနက်ဖြန်

ကျမှ ခင်ဗျားအပြုအမူနဲ့ ပတ်သက်ပြီး ပြောဦးမယ်။ လိုအပ်ရင် ဒီက တည်းခိုခန်းပိုင်ရှင်နဲ့ ဟောဟိုလူကြီးမင်းတွေက ကျုပ်ကို ထောက်ခံကြလိမ့်မယ်။ ခင်ဗျားကို ကျုပ် ပြောမယ်။ ကျုပ်ဟာ မင်းကြီးမျှော်နေတဲ့ မြေတိုင်းစာရေးပဲ။ ကျုပ်ရဲ့ လက်ထောက်နှစ်ယောက်ဟာ မနက်ဖြန်ကျရင် ပစ္စည်း ကိရိယာတွေနဲ့အတူ မြင်းရထားနဲ့ ရောက်လာကြလိမ့်မယ်။ ကျုပ်က နှင်းတောထဲမှာ လမ်းလျှောက်ချင်လို့ လျှောက်လာခဲ့တယ်။ ဒါပေမဲ့ ကံမ ကောင်းချင်တော့ ခဏခဏလမ်းပျောက်ပြီး အခုလို အများကြီးနောက်ကျ ပြီးမှ ရောက်လာရတာပဲ။ ရဲတိုက်ကြီးမှာ သတင်းပို့ဖို့ အများကြီး နောက်ကျ နေပြီဆိုတာ ခင်ဗျား မပြောခင်ကတည်းက ကျုပ်သိတယ်။ ဒါကြောင့် ဒီမှာ ကျုပ် အိပ်နေရတာပဲ။ ဒါကြောင့်မို့ ခင်ဗျားအနေနဲ့ ကျုပ်ကို အခုလို ယဉ်ကျေးသိမ်မွေ့မှုမရှိဘဲ နှောင့်ယှက်ခွင့် ရတာပဲ။ ကျုပ်ပြောစရာ ဒါ အကုန်ပဲ။ ကောင်းသောညပါ လူကြီးမင်း"

ယင်းသို့ပြောပြီး ကေက မီးဖိုဘက်သို့ စောင်းလိုက်သည်။

"မြေတိုင်းစာရေးတဲ့လား"

သူ၏ကျောဘက်မှ ဆုတ်ဆိုင်းသော မေးခွန်းသံကို ကြားလိုက်ရသည်။

ထို့နောက် အားလုံး တိတ်ဆိတ်သွားသည်။ သို့ရာတွင် လူရွယ်သည် များမကြာမီမှာပင် သတိပြန်ဝင်လာပြီး ကေ အိပ်နေသည်ကို သတိထားပုံနှင့် အသံကိုတိုးပြီး သို့သော် ကောင်းစွာကြားသာသော အသံကျယ်ကျယ်ဖြင့် တည်းခိုခန်းပိုင်ရှင်ကို ပြောလိုက်သည်။

"ကျုပ် ဖုန်းဆက်ပြီး စုံစမ်းမယ်"

ယင်းသို့ဆိုလျှင် ဤရွာတည်းခိုခန်းတွင် တယ်လီဖုန်း ရှိချေသလား။ သူတို့မှာ ရှိရသည့် အရာများအားလုံး ရှိသည်ပဲ။ တစ်ခဏတော့ ကေ အံ့အားသင့် သွားသည်။ သို့သော် ခြုံလိုက်လျှင်မူ ဤအတိုင်းပဲ သူ မျှော်လင့်ထားသည်။ တယ်လီဖုန်းက သူ့ခေါင်းပေါ်လောက်မှာပင် ရှိနေသည်။ သူ အိပ်ချင်မူးတူး နှင့်မို့ မမြင်ခဲ့ခြင်းဖြစ်သည်။ အကယ်၍ လူရွယ်သည် ဖုန်းဆက်ရမည်ဆို လျှင် သူ့တွင် အဘယ်မျှ စိတ်ကောင်း ရှိစေကာမူ ကေကို အနှောင့်အယှက်မ ပေးဘဲ မနေနိုင်ပါ။ ပြဿနာက ကေအနေနှင့် သူ့ကို ဖုန်းဆက်ခွင့် ပြု မပြု ပင် ဖြစ်သည်။ ကေက ခွင့်ပြုရန် ဆုံးဖြတ်လိုက်သည်။ ယင်းသို့ဆိုလျှင် သူ့ အနေနှင့် အိပ်ချင်ယောင် ဆောင်နေရန် မလိုပါ။ ယင်းကြောင့် သူက နောက်ဘက်သို့ လှည့်လိုက်သည်။

လယ်သမားကြီးများ ခေါင်းချင်းဆိုင်နေကြသည်ကို သူ မြင်ရသည်။ မြေတိုင်း စာရေးတစ်ယောက် ရောက်ရှိလာခြင်းသည် သေးငယ်သော ကိစ္စ မဟုတ်ပါ။ မီးဖိုဆောင် တံခါး ပွင့်လာသည်။ အပေါက်ဝတွင် ရပ်နေသော တည်းခိုခန်း ပိုင်ရှင်ကတော်၏ ရောမ ကိုယ်လုံးကြီးက တံခါးပေါက်တစ်ခု လုံးကို ပိတ်နေသည်။ တည်းခိုခန်းပိုင်ရှင်က ဘာတွေ ဖြစ်နေသည်ကို ပြောပြရန် အမျိုးသမီးကြီးထံသို့ ခြေဖျားထောက်ပြီး လျှောက်သွားသည်။

ယခုအခါ တယ်လီဖုန်းတွင် စကားပြောနေသံ ကြားရသည်။ ရဲတိုက်မှူး ကြီး

အိပ်နေသည်။ လက်ထောက် ရဲတိုက်မှူးတွေရှိသည့်အနက် ဟာဖရစ်အမည်ရှိသော လက်ထောက် ရဲတိုက်မှူး တစ်ယောက်နှင့် အဆက်အသွယ် ရသည်။ လူရွယ်က သူ့ကိုယ်သူ ရှဝါဇာ ဟု ပြောသည်။ ကေကို တွေ့ရှိကြောင်း သတင်းပို့သည်။ သုံးဆယ်ကျော်အရွယ် ဖြစ်ကြောင်း၊ ကောက်ရိုး အိတ် တစ်လုံးပေါ်တွင် ငြိမ်သက်စွာ အိပ်နေကြောင်း၊ ခေါင်းအုံး အဖြစ် သုံး ရန် ပခုံးလွယ်အိတ် ပါသည်ကို မတွေ့ရကြောင်း၊ အနီးအနားတွင် လက်ကိုင် တုတ်တစ်ချောင်းကိုလည်း မတွေ့ရကြောင်း၊ ထိုသတ္တဝါကို သူ့အနေနှင့် မသင်္ကာကြောင်း၊ တည်းခိုခန်းပိုင်ရှင်က ၎င်း၏အလုပ်ကို ပျက်ကွက်ခဲ့သဖြင့် သူ(ရှဝါဇာ)က မေးမြန်း စုံစမ်းရကြောင်း၊ ထိုလူကို သူက နှိုးပြီး မေးမြန်း ကြောင်း၊ ဤဒေသသည် မင်းကြီး၏နယ်ပယ် ဖြစ်သည်ကို သတိပေးရ ကြောင်း၊ ယင်းကို ထိုလူက ကောင်းမွန်စွာ လက်ခံပုံ မရကြောင်း၊ နောက်ဆုံးတွင် ထိုလူက သူသည် မင်းကြီးက ငှားထားသော မြေတိုင်းစာရေး ဖြစ်သည်ဟု ပြောဆိုကြောင်း၊ ယင်းကြောင့် ယင်းပြောဆို ချက်ကို တရားဝင် အတည်ပြုချက်ရယူဖို့လိုကြောင်း၊ ထို့ကြောင့် မြေတိုင်းစာရေးကို မျှော်လင့် စောင့်စားနေခြင်း ရှိ မရှိကို ဗဟိုဌာနကြီးသို့ စုံစမ်းမေးမြန်းပေးရန် ဟာဖရစ်ကို ရှဝါဇာ တောင်းခံသည်။ ချက်ချင်း တယ်လီဖုန်းပြန်ဆက်ရန် ပြောဆိုသည်။

ဖရစ်က စုံစမ်းမေးမြန်းမှု ပြုလုပ်ပြီး လူရွယ်က အဖြေကို စောင့်စားနေ ချိန်တွင် တိတ်ဆိတ်လျက် ရှိသည်။ ကေက အနေအထား မပြောင်းပါ။ တစ်ကြိမ်မျှ လှည့်ကြည့်ခြင်း မရှိပါ။ ဥပေက္ခာပြုထားဟန်ဖြင့် လေဟာပြင် ထဲကိုသာ ငေးစိုက်လျက်ရှိသည်။ ရှဝါဇာ၏ သတင်းပို့မှုတွင် အာဃာတနှင့် လိမ္မာပါးနပ်မှု ရောယှက်နေသဖြင့် ရဲတိုက်ကြီးရှိ ရှဝါဇာ တို့လို လက်အောက်ငယ်သားများ ပင်လျှင် သံတမန်အတတ်ပညာ ကြွယ်ဝကြောင်း ကေ သဘောပေါက်မိသည်။ ထိုမျှသာမက ၎င်းတို့သည် လုံ့လဝီရိယအမှုတွင် ပေါ့ဆခြင်းလည်း မရှိကြချေ။ ဗဟိုဌာနကြီးတွင် ညဆိုင်းတာဝန် ချထားသည်။ စုံစမ်းမေးမြန်း သည်များကိုလည်း ချက်ချင်းပင် ဖြေကြားဟန်ရှိသည်။ ဖရစ်က ဖုန်းပြန်ဆက်သည်။ သူ၏ဖြေကြားချက်က တိုတိုတုတ်တုတ်ပင် ဖြစ်ဟန်ရှိသည်။ ရှဝါဇာက တယ်လီဖုန်းကို ချက်ချင်း ပင် ချထားလိုက်သည်။ ထို့နောက် ဒေါသတကြီးဖြင့် ...

"ကျုပ်ပြောတဲ့အတိုင်းပဲ။ မြေတိုင်းစာရေးအကြောင်း ဘာအစအနမှ မရှိဘူး။ သာမန်လူ တစ်ယောက်ပဲ။ ကလေကချေ လူလိမ်ပဲ။ ဒါ့ထက်တောင် ဆိုးနိုင်သေးတယ်"

ကေ၏စိတ်ထဲတွင် သူတို့အားလုံးကို တွေးလိုက်မိသည်။ ရှဝါဇာ၊ လယ်သမား ကြီးများ၊ တည်းခိုခန်းပိုင်ရှင်၊ ပိုင်ရှင်ကတော်။ သူတို့အားလုံး တစုတဝေးကြီး သူ့ကို ဝိုင်းပြီး တိုက်ကြပေတော့မည်။ ၎င်းတို့၏ ပထမ အသုတ် တိုက်ခိုက်မှုမှ လွတ်မြောက်စေရန် ကေသည် စောင်အောက်သို့ တိုးဝင်လိုက်သည်။ ထိုစဉ်မှာပင် တယ်လီဖုန်းသံ ထွက်ပေါ်လာပြန်သည်။ အထူးတလည်

ထပ်ဆက်ခြင်းဟု ကေထင်မိသည်။ ဖြည်းလေးစွာ ခေါင်း ဖော်လိုက်သည်။ ဤဖုန်းသည် ကေနှင့် ပတ်သက်ဖွယ်ရာ မဖြစ်နိုင် သော်လည်း အားလုံးပင် တုံ့ဆိုင်းသွားကြသည်။ ရှဝါဇာက တယ်လီဖုန်း ခွက်ကို ကောက်ယူလိုက် ပြန်သည်။ တစ်ဖက်က တော်တော်ရှည်ရှည် ကလေး ပြောနေသည်ကို သူ နားထောင်သည်။ ထို့နောက် ခပ်တိုးတိုး ကလေး ပြောသည်။

"မှားယွင်းမှုတစ်ခု ဟုတ်လား။ အဲဒီလိုကြားရတာ ကျွန်တော် စိတ်မကောင်းဘူး။ ဌာနကြီးမှူးကိုယ်တိုင် အဲဒီလိုပြောသလား။ သိပ်ထူးဆန်းတာပဲ။ သိပ်ထူးဆန်းတာပဲ။ ဒီအကြောင်းတွေ အားလုံးကို မြေတိုင်းစာရေးကို ကျွန်တော် ဘယ်လိုရှင်းပြရမလဲ"

ကေ နားစွင့်လိုက်သည်။ ယင်းသို့ဆိုလျှင် ရဲတိုက်ကြီးက သူ့ကို မြေတိုင်းစာရေးအဖြစ် အသိအမှတ် ပြုချေပြီ။ သို့သော် တစ်နည်းအားဖြင့် ဤအချက်သည် သူ့အဖို့ အတိတ်နိမိတ်ကောင်း မဟုတ်ပါ။ အကြောင်းမှာ ဤအချက်သည် ရဲတိုက်ကြီးက သူ့အကြောင်း ကောင်းကောင်း သိနေသည်ဟု ဖြစ်သည်။ ဖြစ်ပေါ်လာနိုင်သည့် အခြေအနေများကို မှန်းဆပြီးနောက် သူက စိန်ခေါ်မှုကို အပြုံးဖြင့် လက်ခံလိုက်သည်။ သို့သော် နောက်တစ်နည်း ပြော ရလျှင်တော့ ဤအချက်သည် သူ့အဖို့ အတိတ်နိမိတ်ကောင်း ဖြစ်သည်။ အကြောင်းမှာ သူတို့က သူ၏ စွမ်းပကားကို လျှော့တွက်နေကြသည် ဟူသော သူ၏ယူဆချက် မှန်နေသည်။ သူ၏ လုပ်ဆောင်မှုများကို သူ မျှော် လင့်ထားသည်ထက် ပိုပြီး လွတ်လွတ်လပ်လပ် လုပ်ဆောင်ရသည်။ ၎င်းတို့၏ ကြီးမြင့်မှုဖြင့် သူ့အား မြေတိုင်းစာရေး တစ်ယောက်အဖြစ် အသိအမှတ်ပြုလိုက်ခြင်းသည် သူ့ကို ခြောက်လှန့်လိုက်ခြင်းပင် ဖြစ်သည် ဟု ယူဆလျှင် ၎င်းတို့ အမှားကြီး မှားပေမည်။ ဤအသိကြောင့် သူ အနည်းငယ် ကြက်သီးမွေးညင်း ထသွားသည်။

သူ့ထံသို့ စိုးရွံ့စွာ ချဉ်းကပ်လာသော ရှဝါဇာကို သူက လက်ယမ်းပြလိုက်သည်။ ၎င်းက သူ့အား တည်းခိုခန်းပိုင်ရှင်၏ အခန်းသို့ ပြောင်းရွှေ့ရန် အရေးတကြီး ပြောဆိုသည်ကို သူက ငြင်းလိုက်သည်။ သူက တည်းခိုခန်း ပိုင်ရှင်ထံမှ ပူပူနွေးနွေး သောက်စရာ တစ်ခွက်နှင့် ပိုင်ရှင်ကတော်ထံမှ ရေဇလုံတစ်လုံး၊ ဆပ်ပြာတစ်ခဲနှင့် မျက်နှာသုတ်ပဝါ တစ်ထည်တို့ကိုသာ လက်ခံသည်။ သူက အခန်းကို ရှင်းပေးဖို့ပင် မတောင်းဆိုရပါ။ အကြောင်း မှာ လူအားလုံးသည် မနက်ဖြန်ကျလျှင် မှတ်မိစရာ မရှိနိုင် လောက်အောင် ပင် ၎င်းတို့၏ မျက်နှာများကို လွှဲဖယ်ကာ အစုလိုက် အပြုံလိုက်ကြီးပင် ထွက်သွားကြသောကြောင့် ဖြစ်သည်။ မှန်အိမ်ကို ငြှိမ်းလိုက်သည်။

နောက်ဆုံးတွင် သူသည် ငြိမ်းချမ်းစွာ ကျန်ရစ်ခဲ့တော့သည်။ တစ်ခါ နှစ်ခါတွင် ကြွက်များ ဖြတ်လျှောက် သွားသည်မှအပ သူသည် နံနက်မိုးလင်းသည် အထိ အိပ်မောကျသွားရသည်။

နံနက်စာ စားပြီးသောအခါ(ယင်းနံနက်စာနှင့်တကွ အခြားသော

စားသောက် မှုနှင့် တည်းခိုခ စသည့် ကုန်ကျစရိတ်အားလုံးကို ရဲတိုက်က ကျခံမည်ဖြစ်ကြောင်း တည်းခိုခန်းပိုင်ရှင်က ပြောသည်) ကေသည် ရွာထဲသို့ သွားရန် ချက်ချင်းပင် ပြင်ဆင်သည်။ သို့သော် ယမန်နေ့ညက ၎င်း၏ အပြုအမူများကြောင့် စိတ်တိုခဲ့ရသော တည်းခိုခန်း ပိုင်ရှင်သည် ယခုအခါ တောင်းပန် တိုးလျှိုးသည့် အမူအရာဖြင့် သူ၏အနီးတွင် တရစ်ဝဲဝဲ လုပ်နေ သဖြင့် ၎င်းအား သနားသွားပြီး ကေက ၎င်းအား ခဏထိုင်ရန် ပြောလိုက်သည်။

"မင်းကြီးကို ကျွန်တော် အခုအထိ မတွေ့ရသေးဘူး။ ဒါပေမဲ့ သူဟာ လခကောင်းကောင်း ပေးတတ်တယ် မဟုတ်လား။ ကျွန်တော့်လို အဝေးကြီးက လာရတဲ့လူ တစ်ယောက်ဟာ ပြန်တဲ့အခါ အိတ်ထဲမှာ တစ်ခုခုပါသွားဖို့ ကောင်းတယ်မဟုတ်လား"

ကေက ပြောလိုက်သည်။

"ဒါအတွက်တော့ လူကြီးမင်း ဘာမှ ပူပန်စရာ မရှိပါဘူး။ လခပေးတာ နည်းတယ်လို့ ဘယ်သူကမှ မတိုင်တန်းဖူးပါဘူး"

"ကောင်းတယ်။ ကျွန်တော်က ခင်ဗျားတို့လို ကြောက်တတ်တဲ့ သူတစ်ယောက် မဟုတ်ဘူး။ ပြောစရာရှိရင် မြို့စားကြီးပဲဖြစ်စေ၊ ဘွင်းဘွင်းရှင်းရှင်း ပြောတတ်တယ်။ ဒါပေမဲ့ ဘာပြဿနာမှ မရှိဘဲ အားလုံး ပြေလည်သွားတယ် ဆိုရင်တော့ ပိုကောင်းတာပေါ့"

တည်းခိုခန်းပိုင်ရှင်သည် ကေနှင့် မျက်နှာချင်းဆိုင်ရှိ ပြတင်းပေါက် ပေါင်စွန်းတွင် ထိုင်နေသည်။ သူက ပို၍သက်သောင့်သက်သာ ရှိသောနေရာသို့ မရွှေ့ရဲဘဲ သူ၏ ကြီးမားသော မျက်လုံးညိုညိုကြီးများ ဖြင့် ကေအား စိုးရိမ် ကြောင့်ကြစွာ ငေးစိုက်ကြည့်နေသည်။ ပထမတွင် သူသည် ကေနှင့် အဖော်ပြုလိုဟန်ရှိသည်။ သို့သော် ယခုမူ ကေ့အပါးမှ လွတ်မြောက်သွားလိုဟန် ရှိနေသည်။ မင်းကြီးအကြောင်း မေးမြန်း မည်ကို သူက စိုးရွံ့နေသည် လော၊ သို့မဟုတ် ကေဟု သူယူဆထားသော လူကြီးမင်း၏ အချင့်အချိန်မရှိပြုလုပ်မည်ကို ကြောက်လန့်နေသည်လော။ ၎င်း၏စိတ်အာရုံကို ကေက လွှဲပြောင်းပစ်ရမည်။ သို့ဖြင့် ကေက တိုင်ကပ်နာရီကို ကြည့်လိုက်ပြီး

"ကျူပ်လက်ထောက်တွေ မကြာခင် ရောက်လာကြလိမ့်မယ်။

ခင်ဗျား သူတို့ကို ဒီမှာ နေရာပေးနိုင်မလား"

"ပေးနိုင်ပါတယ်ခင်ဗျာ။ ဒါပေမဲ့ သူတို့က ဆရာနဲ့အတူ ရဲတိုက်ကြီးမှာ မနေကြဘူးလား"

ယင်းသို့ဆိုလျှင် တည်းခိုခန်းပိုင်ရှင်သည် အကျိုးရှိသော ဖောက်သည်များကို တကယ်ပင် လက်လွှတ်လိုက်ပြီလော၊ အထူးသဖြင့် ကေကို ရဲတိုက်ကြီး သို့ မလွဲမသွေ ပြောင်းပေးလိုက်ပြီလော။

"အဲဒါက အခုအထိတော့ မသေချာသေးပါဘူး"

ကေ ပြောလိုက်သည်။

"ကျွန်တော်လုပ်ရမယ့် အလုပ်က ဘယ်လိုအလုပ်မျိုးဆိုတာ ကျွန်တော် ပထမဆုံး သိဖို့လိုသေးတယ်။ ဆိုကြပါစို့ ကျွန်တော့်အလုပ်က ဒီမှာဆိုရင် ဒီမှာ တည်းတာက ပိုပြီး အဓိပ္ပာယ်ရှိလိမ့်မယ်။ ကျွန်တော်က ကိုယ့်နေရာ မှာ ကိုယ်လူကြီးပဲ ဖြစ်ချင်တယ်"

"ရဲတိုက်ကြီးအကြောင်း ဆရာ မသိဘူးပေါ့"

တည်းခိုခန်းပိုင်ရှင်က ပြောလိုက်သည်။

"ဟုတ်တယ် မသိဘူး။ သေသေချာချာ မသိဘဲနဲ့ ဘာမှကြိုမပြောသင့်ဘူး။ ရဲတိုက်ကြီးအကြောင်း လောလောဆယ် ကျွန်တော်သိတာတော့ အဲဒီကလူ တွေက မြေတိုင်းစာရေး ကောင်လေးတစ်ယောက်ကို ရွေးချယ်တတ်တယ် ဆိုတာပဲ။ ဒါပေမဲ့ တခြားကိစ္စတွေလည်း ရှိနိုင်သေးတယ်"

တည်းခိုခန်းပိုင်ရှင်ကို သူ့အနီးမှ လွတ်ကင်းစေလိုပြီ ဖြစ်သဖြင့် သူ ထိုင်ရာမှ တစ်ခုခု သူ ထင်မှတ်မိပေမည်။ သူမြင်ရသလောက်တော့ မျှော်စင်တစ်ခုသာ ရှိသည်။ နေအိမ်တစ်အိမ်၏ မျှော်စင်လော သို့မဟုတ် ဘုရားရှိခိုး ကျောင်းတစ်ခုလော ဆိုသည်ကိုမူ သူ မခွဲခြားနိုင်ပါ။ မျှော်စင်ပတ်ပတ်လည် ကျီးတွေ ဝဲပျံနေကြသည်။

ကေသည် ရဲတိုက်ကိုကြည့်ရင်း အခြား ဘာကိုမျှမကြည့်ဘဲ ဆက်လျှောက် သွားနေသည်။ သို့သော် အနီးသို့ ရောက်ရှိလာသောအခါ ကေသည် ရဲတိုက်ကြီးကို စိတ်ပျက်ရတော့သည်။ လက်စသတ်တော့ ရဲတိုက်ကြီးဆိုသည်မှာ အကျည်းတန်သော မြို့ကလေးတစ်မြို့သာ ဖြစ်သည်။ စုထားသော ကျေးလက်အိမ် များသာဖြစ်သည်။ အကယ်၍ ပြောမည်ဆိုလျှင် ပြောစရာ ဂုဏ်ပုဒ်တစ်ခုသာ ရှိသည်။ ကျောက်တုံးများဖြင့် ဆောက်ထားကြခြင်း ဖြစ်သည်။ သို့သော် အင်္ဂတေများ ကိုင်ထားသည်မှာ ကြာမြင့်လှပြီ ဖြစ်၍ အလွှာများ ကွာကျနေပြီး ကျောက်တုံးတွေက ကြေမွနေကြပြီ ဖြစ်သည်။

ကေက သူ၏ဇာတိမြို့ကလေးကို အမှတ်ရလိုက်မိသည်။ သူ၏မြို့ကလေးသည် ရဲတိုက်ကြီး ဆိုသည်ထက် အဆင့် မနိမ့်ကျပါ။ အကယ်၍ မြင်ကွင်း တစ်ခုကို ကြည့်ရှု ခံစားဖို့ရန်သာဆိုလျှင် ဤမျှခရီးအဝေးကြီး လာစရာမလိုပါ။ ကေ အနေနှင့် သူ မရောက် ဖြစ်သော သူ၏ ဇာတိမြို့ကလေးသို့သာ ပြန်သွားပေလိမ့်မည်။ သူ့အထက်ဘက်တွင် မြင်တွေ့နေရသော မျှော်စင်နှင့်အုတ်မြို့ကလေးမှ ဘုရားကျောင်း မျှော်စင်တို့ကို ကေ နှိုင်းယှဉ်ကြည့်နေ မိသည်။ ဘုရားကျောင်းမျှော်စင်က ပုံသဏ္ဌာန် ပီသသည်။ ယင်း၏ အထွတ်အထိပ်ဆီသို့ သွေဖည်ခြင်း အလျဉ်းမရှိဘဲ ငွားငွားစွင့်စွင့် မြင့်တက် သွား နေသည်။ အမိုးမှာ အပြန့်ကျယ်ပြီး အုတ်ကြွပ်နီနီ မိုးထားသည်။ မြေ ကမ္ဘာဆန်သော အဆောက်အအုံ တစ်ခုဖြစ်သည်။ သို့သော် သာမန် လူ နေအိမ်များထက် မြင့်မြတ်သော ရည်မှန်းချက်ပန်းတိုင် ရှိသည်။ ရှုပ်ပွေသော လောကီဘဝထက် ရှင်းလင်းထင်ရှားသော အနက်အဓိပ္ပာယ်ရှိသည်။

ယခု ဤမှာ သူ့အထက်တွင် မြင်တွေ့နေရသော တစ်ခုတည်းသော

မျှော်စင်က အိမ်တစ်အိမ်၏ မျှော်စင်ဖြစ်ကြောင်း ယခုအခါ သိသာထင်ရှားလာပြီ ဖြစ်သည်။ ပင်မ အဆောက်အအုံကြီး၏ မျှော်စင်ဖြစ်နိုင်သည်။ တစ် ပြေးညီညီ လုံးလုံးဝန်းဝန်းကြီး ဖြစ်သည်။ အချို့နေရာများတွင် တိုက်ကပ် နွယ်ပန်းများ ယဉ်ယဉ် ကြော့ကြော့ကလေး ဖုံးလွှမ်းလျက်ရှိသည်။ လေသာ ပြတင်းပေါက်ကလေးများ ရှိသည်။ ယင်းပြတင်းပေါက်ကလေး များက နေရောင်တွင် လင်းလက်နေကြသည်။ အထိန်းအချုပ်မရှိသော လင်း လက်မှု မျိုးဖြစ်သည်။ အပေါ်ဆုံးမှာ ခေါင်မိုးခန်းလိုမျိုး အခန်းတစ်ခန်းရှိသည်။ သူ့ရဲ့ခို အုတ်တံတိုင်းနှင့် ဖြစ်သည်။ ပုံသဏ္ဌာန်က မညီမညာ မသေမ သပ် ဖြစ်သည်။ ကလေးတစ် ယောက်၏ ကရော်ကမည် လက်ရာမျိုး ဖြစ်သည်။ အပြာရောင်နောက်ခံတွင် ထင်းထင်း ရှင်းရှင်းကြီး ရှိနေသည်။ ညှိုးငယ်နေသော စိတ္တဇ အိမ်ရှင်တစ်ဦး အနေနှင့် သူ၏အိမ်အပေါ် ဆုံးထပ်တွင် သော့ခတ်ပိတ်လှောင်နေပြီး ခေါင်မိုးမှ ဖောက်ထွက်ကာ ကမ္ဘာကြီး၏ ဝေးမောခြင်းကိုခံယူရန် သူ့ကိုယ်သူ မြှောက်တင်ထားသည့် သဘောမျိုး ဖြစ်သည်။

ကေ ရပ်တန့်လိုက်ပြန်သည်။ ငြိမ်သက်စွာ ရပ်နေခြင်းက သူ၏ ပိုင်းခြား ချင့်ချိန်နိုင်စွမ်း ပိုမို အားကောင်းလာသည့် အလားဖြစ်သည်။ သူရပ်လိုက်သည့်နေရာက ကျေးရွာ ဘုရားရှိခိုးကျောင်း၏ နောက်ဘက်တွင် ဖြစ်သည်။ တကယ်တော့ ဘုရားရှိခိုး ကျောင်းငယ်ကလေးသာ ဖြစ်သည်။ ကျေးရွာ သာသနာ နယ်ပယ်အတွင်းရှိ ဘုရားဝတ်ပြုလာသူများ စုဝေးနိုင်ရန် ဘုရားကျောင်းကလေးကို စပါးကျီလို အဆောက်အအုံများ ဖြင့် တိုးချဲ့ထားသည်။ ဤအဆောက်အအုံ များက တကယ်တော့ စာသင်ကျောင်း တစ်ကျောင်း ဖြစ်သည်။ နိမ့်နိမ့်ရှည်ရှည် အဆောက်အအုံကလေး ဖြစ်သည်။ ရှေးခေတ်နှင့် ကျေးလက်အသွင် ပေါင်းစပ်ထားသည်။ ဝင်းခတ်ထားသော ပန်းခြံ နောက်ကွယ်တွင် တည်ရှိသည်။ ပန်းခြံက ယခုအခါ ရေခဲပြင်ကြီး ဖြစ် နေသည်။

ကလေးများသည် ၎င်းတို့၏ဆရာနှင့်အတူ ကျောင်းထဲမှ ထွက်လာနေကြသည်။ ကလေးများသည် ဆရာကို ဘေးထားပြီး အားလုံးပင် ဆရာကိုကြည့်ကာ တရစပ် ပြောဆိုနေကြသည်။ စကားပြောပုံက မြန်လွန်းသဖြင့် သူတို့ ဘာတွေပြောနေ ကြသည်ကို ကေ လိုက်မမီပါ။ ကျောင်းဆရာမှာ အသက် ငယ်ငယ် လူ့ဖလံကလေး ဖြစ်သည်။ ရင်အုပ်သေးသေးနှင့် ဖြစ်သည်။ အမူအရာ တည်ငြိမ်သဖြင့် ရယ်ရွှင်ဖွယ် မဖြစ်ချေ။

သူ့မျက်လုံးများက အဝေးမှပင် ကေကို စူးစိုက်ပြီးကြည့်နေသည်။

ကလေးများမှလွဲပြီး အခြားသူ တစ်ဦးတစ်ယောက်မျှ မရှိပါ။

သူစိမ်းတစ်ယောက် ဖြစ်နေသည့်အလျောက် ကေကပင် စကား စတင်သည်။ သူ့ကို ကြည့်ရသည် မှာလည်း ဩဇာအာဏာရှိသူ တစ်ဦး ဟန်ပန်မျိုး ဖြစ်သည်။

"မင်္ဂလာနံနက်ခင်းပါခင်ဗျာ"

ကလေးများ တိတ်ဆိတ် သွားကြသည်။ ဆရာက စကားပြောရန်ရုတ်တရက် ငြိမ်သက်သွားပုံမျိုး ဖြစ်သည်။

"ရဲတိုက်ကြီးကို ခင်ဗျား ကြည့်နေတာလား"

သူက ကေ ထင်ထားသည်ထက် ပိုမိုယဉ်ကျေးသိမ်မွေ့စွာဖြင့် မေးသည်။ သို့သော် ကေ ရှိနေသည်ကို မကျေနပ်သည့် လေသံမျိုးဖြစ်သည်။

"ဟုတ်ကဲ့၊ ကျွန်တော်က ဒီမှာ လူစိမ်းတစ်ယောက်ပါ။ ကျွန်တော် ရွာကို မနေ့ညကမှ ရောက်ပါတယ်"

"ရဲတိုက်ကြီးကို ခင်ဗျား သဘောမကျဘူး မဟုတ်လား"

"ဘာပြောတယ်"

ကေ အနည်းငယ် အံ့အားသင့်သွားသည်။ ထို့နောက် သူ့မေးခွန်းကို ပြင်ပြီး မေးလိုက်သည်။

"ရဲတိုက်ကြီးကို သဘောကျသလား၊ ဟုတ်လား။ ရဲတိုက်ကြီးကို ကျွန်တော် မကြိုက်ဘူးလို့ ခင်ဗျား ဘယ်လိုတွက်သလဲ"

"သူစိမ်းတွေဟာ ဘယ်တုန်းကမှ မကြိုက်ကြဘူး"

ကျောင်းဆရာက ပြန်ပြောသည်။

အမှားအယွင်း မပြောမိရန် ရှောင်ရှားသည့်အနေဖြင့် အကြောင်းအရာ ပြောင်းလိုက်ပြီး မေးသည်။ ကေက

"မင်းကြီးနဲ့ ခင်ဗျား သိသလား"

"မသိဘူး"

ကျောင်းဆရာ တစ်ဖက်သို့လှည့်ရင်းဖြေသည်။ သို့သော် ကေကို ဖယ်ထုတ်၍ မရနိုင်ပါ။ ကေက ထပ်မေးလိုက်သည်။

"ဘာပြောတယ်၊ မင်းကြီးကို ခင်ဗျား မသိဘူး ဟုတ်လား"

"ကျွန်တော်က ဘာဖြစ်လို့ သိရမှာလဲ"

ကျောင်းဆရာက အသံတိုးတိုးဖြင့် ပြန်ပြောသည်။ ထို့နောက် အသံကို မြှင့်လျက် ပြင်သစ်လို ပြောသည်။

"ဘာမှ မသိနားမလည်တဲ့ ကလေးတွေ ရှိနေတယ်ဆိုတာ သတိထားပါ"

ကေက ထိုစကားကို အခွင့်ကောင်းယူပြီး

"ဒါဆိုရင် တစ်နေ့မှာ ဆရာ့အိမ်ကို လာလည်ရမလား။ ကျွန်တော် ဒီမှာ အတော် ကြာကြာကလေး နေရဦးမယ်။ အခုကိုပဲ အတော်ကလေးပျင်းနေပြီ။ ကျွန်တော်က လယ်သမားတွေနဲ့ သိပ်ခွင်မကျဘူး။ ရဲတိုက်ကြီးနဲ့လည်း ခွင်ကျမယ် မထင်ဘူး"

"လယ်သမားတွေနဲ့ ရဲတိုက်ကြီးက ဘာမှခြားနားမှုမရှိပါဘူး"

ကျောင်းဆရာက ပြန်ပြောသည်။

"ဖြစ်နိုင်ပါတယ်။ အဲဒီအတွက် ကျွန်တော့်အခြေအနေကို ဘာမှ ပြောင်းလဲနိုင်ပါဘူး။ တစ်နေ့နေ့မှာ ကျွန်တော် လာလည်ရမလား"

"ဘဲငန်းလမ်းက အမဲသားဆိုင်မှာ ကျွန်တော် နေတယ်"

ကျောင်းဆရာပြောလိုက်သည်က ဖိတ်ခေါ်သည်ထက် ထုတ်ဖော်ကြေညာသည့် သဘောမျိုး ဖြစ်သည်။ သို့သော် ကေက

"ဟုတ်ပြီ ကျွန်တော် လာခဲ့မယ်"

ကျောင်းဆရာ ခေါင်းညိတ်ပြီး ကလေးတစ်သိုက်နှင့် ထွက်သွားသည်။ ကလေးတွေ ပြန်လည် ဆူညံသွားကြသည်။ မကြာမီမှာပင် ၎င်းတို့သည် နိမ့်ဆင်းသွားသော လမ်းကြား တစ်ခုအတွင်းသို့ ဝင်ရောက် ပျောက်ကွယ်သွား ကြသည်။

ကေ ကသိကအောက်ဖြစ်ပြီး ကျုန်ရစ်သည်။ စကားပြောရသည့် အဖြစ်ကိုဒေါသ ဖြစ်နေသည်။ ဤအရပ်သို့ရောက်ရှိပြီးနောက် ပထမဆုံးအကြိမ် အဖြစ် ပင်ပန်း နွမ်းနယ်နေမိသည်။ သူ လျှောက်လှမ်းခဲ့ရသော ခရီးရှည် ကြီးက ပထမတော့ သူ့အပေါ် ဘာမျှဖိစီးခြင်းမရှိပါ။ သူက တစ်ရက်ပြီး တစ်ရက်၊ တဖြည်းဖြည်းချင်း လျှောက်လှမ်း ခဲ့ရခြင်းဖြစ်သည်။ သို့သော် ယခုအခါ ကြိုးပမ်း အားထုတ်ရမှု၏ အကျိုးဆက်များက သူ့အလိုလို ဖိစီး လာနေတော့သည်။ သူက အသိအကျွမ်းသစ်များ ရရှိလိုစိတ် ပြင်းပြခဲ့ရသည်။ သို့သော် တစ်ယောက်တည်းသော အသိအကျွမ်းသစ်က သူ၏ပင်ပန်း နွမ်းနယ်မှုကို တိုးမြှင့်စေတော့သည်။ သို့ဖြင့် လက်ရှိအခြေအနေတွင် သူ့အနေနှင့် ရဲတိုက်ကြီး တံခါးဝအထိ လျှောက်သွားသည် ဆိုမျှပင် သူ၏လုပ်ဆောင်ချက်သည် လိုအပ်သည် ထက်ပင် ပိုနေလေပြီ။

သို့ဖြင့် သူ ဆက်ပြီး လျှောက်သည်။ သို့သော် လမ်းက ရှည်လျားထွေပြား နေတော့သည်။ သူ လက်ရှိလျှောက်နေသော ရွာလယ်လမ်းက ရဲတိုက်တည်ရှိရာ တောင်ကုန်းသို့ မရောက်ပါ။ ယင်းက ရဲတိုက်ကြီးဆီသို့သာ ဦးတည်လျက်ရှိသည်။ ထို့နောက် တမင်တကာကြီးဆိုသလို ဘေးသို့ ရောက်သွားသည်။ သို့သော် ရဲတိုက်ကြီးနှင့် နီးမသွားသလို ရဲတိုက်ကြီးနှင့် ဝေးရာ သို့လည်း မဟုတ်ပါချေ။ အကွေ့တစ်ခုသို့ ရောက်တိုင်း ရဲတိုက်ကြီးဆီသို့ ပြန်ကွေ့သွားလိမ့်မည်ဟု ကေ ထင်ခဲ့သည်။ ယင်း ထင်မြင်ချက်ကြောင့်လည်း သူ ဆက်ပြီး လျှောက်နေခြင်းဖြစ်သည်။ သူက ပင်ပန်း နွမ်းနယ်နေပြီ ဖြစ်သော်လည်း ဤလမ်းကို ဖဲကြဉ်သွားလိုစိတ် လည်း လုံးလုံးမရှိပါချေ။ ထို့နောက် သူက ရွာကြီး ရှည်လျားနေသည်ကိုလည်း အံ့ဩနေမိသည်။ ရွာက အဆုံး မရှိသလိုပင် ဖြစ်သည်။ တစ်ပုံစံတည်းသော အိမ်ကလေးများ၊ နှင်းဖုံးနေသော ပြတင်း ပေါက်များ၊ နှင်းပွင့်များနှင့် လူတစ်ဦးတစ်ယောက် မျှ မတွေ့ရှိရခြင်းတို့ပင် ဖြစ်သည်။ သို့သော် နောက်ဆုံးတွင် သူသည် ရွာလယ်လမ်းမှ ဖဲကြဉ်ကာ လမ်းသွယ်လေးတစ်ခုသို့ ရောက်သွားသည်။ လမ်း မှာလည်း နှင်းများ သိပ်သည်းစွာ ဖုံးလွှမ်းလျက် ရှိသည်။ သူ့ခြေတစ်လှမ်း တစ်လှမ်းက ပင်ပန်းလှတော့သည်။ သူ ချွေးတွေပြန်လာပြီး ရုတ်ခြည်း ဆို သလို ရပ်သွားသည်။ ဆက်မလျှောက်နိုင်တော့ပါ။

တကယ်တော့ သူက လူသူမရှိသော ကျွန်းတစ်ကျွန်းပေါ်တွင် ရောက်

နေသည် မဟုတ်ပါ။ သူ၏ဝဲယာတွင် အိမ်ကလေးများ ရှိပါသည်။ သူက နှင်း တွေကို ဘောလုံး တစ်လုံးလို လုံးပြီး ပြတင်းပေါက် တစ်ပေါက်ကို ပစ်လိုက်သည်။ ရုတ်ခြည်းပင် တံခါးပွင့် သွားသည်။ ရွာရိုးတစ်လျှောက်တွင် ပထမဆုံး ပွင့်လာသော ပြတင်းပေါက်ဖြစ်သည်။ အညိုရောင်သားမွေး ဂျက်ကက် ဝတ်ထားသော လယ်သမားကြီး တစ်ယောက် ပေါ်ထွက်လာသည်။ ခေါင်း ကို တစ်ဖက်သို့ စောင်းငဲ့ထားသည်။ သနားကြင်နာတတ်ပုံရှိသည်။

"အိမ်ထဲကို ကျွန်တော် ခဏဝင်လာလို့ရမလား။ ကျွန်တော် သိပ်ကိုပင်ပန်း နေလို့ပါ"

ကေက ပြောလိုက်သည်။

အဘိုးကြီးပြန်ပြောသည့်စကားကို သူ မကြားလိုက်ရပါ။ သို့သော် ပျဉ်ချပ် တစ်ချပ် ပွင့်လာသည်ကို ကျေးဇူးတင်ရှိစွာ သူ တွေ့မြင်လိုက်ရသည်။ သူ့ကို နှင်းတောထဲမှ ကယ်တင်လိုက်ခြင်း ဖြစ်သည်။ ခြေလှမ်းအနည်းငယ် လျှောက်မိသောအခါ မီးဖိုချောင်ထဲသို့ သူ ရောက်ရှိသွားသည်။

ရောမ မီးဖိုချောင်ကြီးဖြစ်သည်။ မီးမှိန်မှိန်ကလေး လင်းနေသည်။

အပြင်မှ ဝင်လာသူ တစ်ယောက်အနေနှင့် ပထမ ဘာမှမမြင်ရပါ။ အဝတ်လျှော် ခွက်တစ်ခုကို ကေ ဝင်တိုက်မိသည်။ မိန်းမကြီးတစ်ယောက်က သူ့ကို ထိန်း မတ်ပေးလိုက်သည်။ အခန်းထောင့် တစ်နေရာမှ ကလေးငိုသံ ထွက် ပေါ်လာသည်။ အခြားတစ်နေရာမှ ရေနွေးငွေ့များ ထွက်ပေါ်လာသဖြင့် အလင်းရောင် မှိန်မှိန်ကလေး ပိန်းပိန်းပိတ် မှောင်သွားသည်။ ကေသည် တိမ်တိုက်တွေထဲတွင် ရပ်နေရသည့် အလား ဖြစ်သည်။

"သူ မူးနေပုံရတယ်၊ မင်း ဘယ်သူလဲ"

တစ်စုံတစ်ယောက်က မေးလိုက်သည်။ ထို့နောက် အဘိုးကြီးကို ပြောသည့် အနေဖြင့်

"ရှင် ဘာလို့ သူ့ကို အဝင်ခိုင်းရတာလဲ။ လမ်းပေါ်မှာ လျှောက်သွားနေတဲ့ လူတွေအားလုံးကို ကျုပ်တို့ လက်ခံရမှာလား"

"ကျွန်တော် မြို့စားကြီးရဲ့ မြေတိုင်းစာရေးပါ"

ကေ ပြောလိုက်သည်။

"အို သူက မြေတိုင်းစာရေးလား"

မိန်းမကြီး၏အသံ ထွက်ပေါ်လာသည်။ ထို့နောက် ပကတိ တိတ်ဆိတ် သွားသည်။

"ဒါဆိုရင် အဒေါ်ကြီး ကျွန်တော့်ကို သိသလား"

"သိတယ်"

ခပ်ပြတ်ပြတ်ပြောသံ။ သူက ထောက်ခံချက် မရရှိသူတစ်ဦးအဖြစ်။

နောက်ဆုံးတွင် ရေနွေးငွေ့များ ပါးသွားသဖြင့် ကေသည် အရာဝတ္ထုများ ကို တဖြည်းဖြည်းချင်း ကွဲပြားလာရသည်။ ပုံမှန် အဝတ်လျှော်သည့်နေ့ ဖြစ်ပုံရသည်။

အဝတ်တွေကို တံခါးအနီးမှာ လျှော်သည်။ သို့သော် ရေနွေးငွေ့တွေက တခြားထောင့်တစ်ထောင့်မှ လာနေသည်။ ထိုနေရာတွင် ယခင် ကေ မြင်ဖူးသော စည်ပိုင်းတွေထက် ကြီးသော သစ်သားစည်ပိုင်းကြီး တစ်လုံးရှိသည်။ ခုတင်နှစ်လုံးစာလောက် ကျယ်သည်။ ရေနွေးငွေ့ထဲတွင် လူနှစ်ယောက် ရေချိုးနေသည်။ သို့သော် ပိုပြီးအံ့သြစရာ ကောင်းသည်ကတော့ (အံ့သြစရာ ကောင်းလှသည်ဟု တစ်စုံတစ်ယောက်က ပြောမည် မဟုတ်သော်လည်း) ညာဘက်ထောင့်က မြင်ကွင်းပင်ဖြစ်သည်။ နောက်ဘက်နံရံရှိ တစ်ခုတည်းသော အပေါက်မှ အလင်းရောင်ဖျော့ဖျော့ ဝင် ရောက်နေသည်။ ခြံဝင်းထံမှ ဝင်ရောက်လာခြင်း ဖြစ်သည်။ ပက်လက်ကုလားထိုင် မြင့်မြင့်ကြီးပေါ်တွင် လဲလျောင်း နေသော အမျိုးသမီးကြီး တစ်ယောက်၏ ပိုးဝတ်စုံဖြစ်သည်။ သူမက ကလေးလေး တစ်ယောက်ကို နို့တိုက်နေသည်။ သူမ၏ပတ်ပတ်လည်တွင် တောသား ကလေးတွေ ကစားနေကြသည်။ သို့သော် သူမက အခြားလူတန်းစား အလွှာတစ်ခုဖြစ်ကြောင်း သိသာထင်ရှားသည်။ ကျန်းမာရေး ကောင်းမွန်ကြပုံ မရသော်လည်း လယ်သမားသား သမီးကလေးများပင်၊ ကြည့်ပျော်ရှု ပျော် ရှိနေကြသည်။

"ထိုင်ပါ"

မုတ်ဆိတ်မွေး ထူလပျစ်နှင့်လူက အသက်ပြင်းပြင်း ရှူရင်း ရေစိုနေသော လက်တစ်ဖက်ဖြင့် စည်ပိုင်းတစ်ဖက်ရှိ နောက်မှီမြင့် လက်တင်ခုံတန်းရှည် ကို ညွှန်ပြရင်း ပြောလိုက်သည်။ သူ့လက်မှ ရေစက်များက ကေ၏မျက်နှာ ကို စဉ်ကုန်သည်။ ထိုင်ခုံ ပေါ်တွင် ကေအား ဝင်ခွင့်ပြုခဲ့သော အဘိုးကြီး ထိုင်နေသည်။ နေရာလပ်မကျန်တော့ သလောက်ပင်ဖြစ်သည်။ သို့သော် နောက်ဆုံးတွင် ကေ တစ်နေရာစာ ထိုင်ဖို့ ရသွားသည်။ မည်သူကမျှ သူ့ကို နောက်ထပ် ဂရုမပြုကြတော့။ အဝတ်လျှော်သည့် စည်ပိုင်းရှိ ချောမောသော မိန်းကလေးသည် အလုပ်လုပ်ရင်း သီချင်းတိုးတိုး ဆိုနေသည်။ အမျိုးသားတွေက အဝတ်လျှော်စည်ပိုင်းတွင် ခြေထောက်ဖြင့် နင်းသူက နင်း၊ ညှစ်သူ ကညှစ် လုပ်နေကြသည်။ ကလေးတွေက စည်ပိုင်းအနီးသို့ ကပ်ရန် ကြိုးစားနေကြသည်။ သို့သော် ရေနှင့်ပက်ပြီး မောင်းထုတ်ပစ်နေကြသည်။

ထိုရေများက ကေ၏ ကိုယ်ပေါ်သို့လည်း ကျရောက်သည်။

ပက်လက်ကုလားထိုင်မှ အမျိုးသမီးသည် သူမ၏ ရင်ခွင်ထဲမှ ကလေးကို တစ်ချက်ကလေးမှ မကြည့်ဘဲ ခေါင်မိုးကို အသက်မရှိသလို ငေးစိုက်ပြီး ကြည့်နေသည်။

သူမက လှပသော မြင်ကွင်းတစ်ခုဖြစ်နေသဖြင့် ကေ အတန်ကြာ ကြည့်နေသည်။ ထို့နောက် သူ အိပ်ပျော်သွားသည်။

အသံကျယ်ကျယ် တစ်ခုကြောင့် သူ နိုးလာသောအခါ သူ၏ခေါင်းသည် အဘိုးကြီး၏ ပခုံးပေါ်မှာ ရောက်နေသည်။ အမျိုးသားနှစ်ယောက်သည်

အဝတ်လျှော်၍ ပြီးစီးသွားကြပြီဖြစ်သည်။ အဝတ်အစား အပြည့်အစုံဖြင့် ကေ၏ရှေ့တွင် ရပ်နေကြသည်။ စည်ပိုင်းထဲတွင်ကား လှပသော မိန်းမငယ်၏ ကြီးကြပ်မှုဖြင့် ကလေးတွေ ရေချိုးနေကြသည်။ သူ့ကို စကားပြော သူနှစ်ဦးအနက် မုတ်ဆိတ်မွေး ထူလပျစ်နှင့်လူက အရေး မပါလှပေ။ နောက်တစ်ယောက်က သူ့အဖော်ထက် အရပ်ပိုမမြင့်သော်လည်း ရင်အုပ် ကျယ်သည်။ မျက်နှာပြသည်။ နှုတ်ခမ်းမွေး ပါးပါးနှင့်ဖြစ်သည်။ ထိုသူက ပြောသည်။

"ခင်ဗျား ဒီမှာနေလို့မရဘူး။ ဖော်ရွေမှုမရှိတာကို ခွင့်လွှတ်ပါ"

"ကျွန်တော် ဒီမှာ မနေချင်ပါဘူး။ ခဏကလေး နားချင်တာပါ။ ကျွန်တော် နားလို့ ပြီးသွားပြီ။ ကျွန်တော် အခု သွားတော့မယ်"

ကေက ပြန်ပြောလိုက်သည်။

"ကျွန်တော်တို့မှာ ယဉ်ကျေးဖော်ရွေမှုမရှိတာကို ခင်ဗျား အံ့ဩကောင်း အံ့ ဩလိမ့်မယ်။ ဒါပေမဲ့ ဒီအရပ်မှာ ယဉ်ကျေးဖော်ရွေမှုဆိုတာ ဓလေ့ထုံးတမ်း မဟုတ်ပါဘူး။ ကျွန်တော်တို့အတွက် ဧည့်သည်တွေက အသုံးမဝင်ပါဘူး"

ကေက အိပ်လိုက်ရသဖြင့် လန်းဆန်းသွားသည်။ အသိဉာဏ် ကောင်းမွန် လာသည်။ ထိုလူ၏ပွင့်လင်းမှုကို သဘောကျသွားသည်။ သူ့တွင် ကျဉ်းကျပ် မှုလည်း လျော့နည်းသွားသည်။ သူက လက်ထဲမှ တုတ်ဖြင့် ဟိုစမ်းသည် စမ်းလုပ်ရင်း ပက်လက် ကုလားထိုင်ပေါ်မှ အမျိုးသမီးထံသို့ လျှောက်သွားသည်။ ဤအခန်းထဲတွင် သူက ကိုယ်ခန္ဓာအကြီးမားဆုံးဆိုသည်ကို သတိပြု မိသည်။

"သေချာအောင်ပြောရရင် ခင်ဗျားတို့အတွက် ဧည့်သည်တွေက ဘယ်လို အသုံးဝင်သလဲ။ ဒါပေမဲ့ ခင်ဗျားတို့မှာ ရံဖန်ရံခါ ဧည့်သည်တွေ ရှိနေတယ်။ ဥပမာ ဆိုပါတော့၊ ကျွန်တော် မြေတိုင်းစာရေး"

ကေက ပြောလိုက်သည်။

"အဲဒါ ကျွန်တော် မသိဘူး။ ခင်ဗျားကို လာဖို့ ဖိတ်ခေါ်ခဲ့ရင် ခင်ဗျားဟာ လိုအပ်လို့ ဖြစ်လိမ့်မယ်။ ဒါဟာ ခြွင်းချက်ပဲ။ ဒါပေမဲ့ ကျွန်တော်တို့ ကိုယ့် ဓလေ့ထုံးစံနဲ့ ကျွန်တော်တို့ပဲ။ ဒါအတွက် ခင်ဗျား အပြစ်တင်လို့မရဘူး"

"အပြစ်မတင်ပါဘူး။ ကျွန်တော်က ခင်ဗျားနဲ့ ဒီမှာရှိတဲ့လူတွေကို ကျေးဇူး တင်တာပါ"

ထို့နောက် ကေက လဲလျောင်းနေသော အမျိုးသမီးဘက်ကို ရုတ်တရက် လှည့်လိုက်သဖြင့် သူတို့အားလုံး အံ့အားသင့် သွားကြရသည်။ သူမက မျက်လုံး ပြာပြာနှင့် ကေ့ကို ကြည့်နေသည်။ သူမ၏နဖူးပေါ်တွင် ပိုးပဝါပါး ပါး ရှိနေသည်။ ကလေးငယ်က သူမ၏ ရင်ခွင်ထဲတွင် အိပ်ပျော်နေသည်။

"မင်း ဘယ်သူလဲ"

ကေက မေးလိုက်သည်။

"ရဲတိုက်က မိန်းကလေးတစ်ယောက်ပဲ"

တစ်စက္ကန့်

နှစ်စက္ကန့်အတွင်းမှာပင်

အမျိုးသားနှစ်ယောက်

ကေ၏ ဘေး တစ်ဖက် တစ်ချက်သို့ ရောက်ရှိလာကြပြီး ကေကို တံခါးပေါက်ဆီသို့ တွန်းထုတ် ကြသည်။ အဘိုးကြီးက သည်အဖြစ်ကို သဘောကျသွားဟန်ဖြင့် လက်ခုပ်လက်ဝါး တီးသည်။ စည်ပိုင်းတွင် ရေချိုး နေသော အမျိုးသမီးကလည်း ရယ်မောသည်။ ကလေးတွေက ရုတ်ခြည်းဆို သလို အရူးအမူး အော်ဟစ်ကြသည်။

ကေက ချက်ချင်းဆိုသလိုပင် လမ်းမပေါ်သို့ ရောက်ရှိသွားသည်။ ယောကျ်ား နှစ်ယောက်က တံခါးပေါက်မှနေ၍ သူ့ကို ကြည့်နေကြသည်။ နှင်းတွေ ပြန်ကျလာသည်။ သို့သော် ကောင်းကင်က အနည်းငယ် ကြည်လင်နေသည်။

"ခင်ဗျား ဘယ်ကိုသွားမှာလဲ။ ဒါက ရဲတိုက်ကြီးကို သွားတဲ့လမ်း၊ ဟိုဟာ က ရွာထဲကို သွားတဲ့လမ်း"

မုတ်ဆိတ်မွေး ထူလပျစ်နဲ့လူက စိတ်မရှည်စွာ အော်ပြောသည်။

ကေက သူ့ကို ပြန်မဖြေပါ။ နောက်တစ်ယောက်ကို လှည့်လိုက်သည်။ ထိုလူက ရုက်ရွံ့ဟန်ရှိပြီး နှစ်ယောက်အနက် သဘောကောင်းသူဖြစ်သည်။

"ခင်ဗျားက ဘယ်သူလဲ။ နားနေခွင့်ပေးတဲ့ ဘယ်သူ့ကို ကျွန်တော် ကျေးဇူး တင်ရမှာလဲ"

"ကျွန်တော်က ဆေးဆိုးသမား လက်ဆီမန်းပါ။ ဒါပေမဲ့ ခင်ဗျား ဘယ်သူ့ ကိုမှ ကျေးဇူးတင်စရာ မလိုပါဘူး"

"ဟုတ်ပြီ၊ ကျွန်တော်တို့ တွေ့ကြသေးတာပေါ့"

"ကျွန်တော်ကတော့ ပြန်တွေ့ကြမယ် မထင်ပါဘူး"

"ကောင်းသောနံနက်ခင်းပါ အာသာ၊ ကောင်းသောနံနက်ခင်းပါ ဂျာရီမီယာ”

"ကောင်းသောနံနက်ခင်းပါ"

မုတ်ဆိတ်မွေး ထူလပျစ်၏ အသံကြောင့် ကေ လှည့်ကြည့်လိုက်သည်။ ရွာလမ်း ပေါ်မှာ လူတွေ တကယ်ရှိနေတာပဲ။ ရဲတိုက်ကြီးဆီမှ လူငယ်နှစ် ယောက် လာနေသည်။ အရပ် မနိမ့်မမြင့်။ နှစ်ယောက်စလုံး သေး သေးသွယ်သွယ်၊ အဝတ်အစား သပ်သပ်ရပ်ရပ်နှင့်။ တစ်ယောက်နှင့် တစ်ယောက် ခပ်ဆင်ဆင်။ သူတို့၏ အသားအရေက ညိုသော်လည်း သူတို့၏ မုတ်ဆိတ်မွေး သေးသေးညှပ်ညှပ် ကလေးတွေနှင့် တခြားစီဖြစ်သည်။ လမ်း၏ အခြေအနေအရ သူတို့သည် ခပ်သွက်သွက်ကလေး လျှောက်လာ နေကြသည်။

"မင်းတို့ ဘယ်သွားကြမလို့လဲ"

မုတ်ဆိတ်မွေး ထူလပျစ်က မေးလိုက်သည်။

သူတို့ကို လှမ်းအော်ပြီး ပြောမှဖြစ်မည်။ သူတို့က မြန်မြန်ကြီး လျှောက်နေ ကြသည်။ ရပ်တန့်ခြင်း မပြုကြပါ။

"အလုပ်ကိစ္စနဲ့ပဲ"

သူတို့က ရယ်မောရင်း ပြန်အော်ပြောသည်။

"ဘယ်ကိုသွားမှာလဲ"

"တည်းခိုခန်း"

"ကျွန်တော်လည်း အဲဒီကို သွားမှာပဲ"

ကေ က ရုတ်တရက်ဆိုသလို သူတို့တွေထက် ကျယ်ကျယ်ကြီး အော်ပြောလိုက်သည်။ သူက သူတို့နှင့်အတူ သွားလိုစိတ် ဖြစ်ပေါ်လာသည်။ သူတို့နှင့် သိကျွမ်းရခြင်းအတွက် ဘာမျှ မမျှော်လင့်သော်လည်း သူတို့က နှစ်လိုဖွယ်ရာ အဖော်ကောင်းများ ဖြစ်ကြသည်။ သူ့စကားကို သူတို့ ကြားကြသည်။ သို့သော် ခေါင်းညိတ်ရုံပဲ ညိတ်ကြသည်။ ပြောရင်းဆိုရင်းပင် မြင်ကွင်းမှ သူတို့ ပျောက်ကွယ်သွားကြပြီ။

ကေသည် နှင်းတောထဲတွင် ရပ်နေဆဲဖြစ်သည်။ သူ၏ခြေထောက်ကို နုတ်သိမ်းလိုက်သည်။ နောက်တစ်လှမ်း လှမ်းရန်အတွက်သာ ဖြစ်သည်။ ဆေးဆိုးသမားနှင့် သူ၏အဖော်သည် သူတို့လက်မှ ကေ လွတ်သွားပြီဖြစ်၍ ယခုအခါ ခပ်ဟဟ ကလေးသာ ဟထားသော တံခါးအတိုင်း အိမ်ထဲကို ပြန် ဝင်သွားကြသည်။ ကေကို နောက်ဆုံးအနေနှင့် ပြန်စောင်းကြည့်လိုက်ကြသည်။ ကေက နှင်းတောထဲတွင် တစ်ယောက်တည်း ကျန်ရှိသည်။

"အင်မတန် စိတ်ပျက်ဖို့ကောင်းတဲ့ နေရာပဲ။ ငါက ဒီမှာ မတော်တဆ ရောက်နေတာပဲ"

ကေ တွေးလိုက်သည်။

ထိုစဉ်မှာပင် ကေ၏ဘယ်ဘက်ရှိ တဲတစ်လုံး၏ ပြတင်းပေါက်ကလေး တစ်ပေါက် ပွင့်လာသည်။ ပြတင်းပေါက်ကို ပိတ်ထားစဉ်က နှင်းပွင့်များ၏ ရောင်ပြန်ဟပ်မှုကြောင့် ဖြာနေသည်။ ထို့ပြင် ပြတင်းပေါက် ကလေးက သေးငယ်လွန်းသဖြင့် ဖွင့်လိုက်စဉ်တွင် အတွင်းဘက်မှ လူ၏ မျက်နှာတစ်ခု လုံးကို မမြင်ရပါ။ ၎င်း၏မျက်လုံးများကိုသာ မြင်ရသည်။

"အဲဒါ သူပဲ"

မိန်းမတစ်ယောက်၏ တုန်ယင်သော အသံကို ကေ ကြားရသည်။

"အဲဒါ မြေတိုင်းစာရေးပဲ"

ယောကျ်ားတစ်ယောက်က ပြောလိုက်ခြင်းဖြစ်သည်။ ထို့နောက် သူသည် ပြတင်းပေါက်သို့ ရောက်လာပြီး မေးသည်။ မဖော်မရွေတော့ မဟုတ်။

သို့သော် သူ့အိမ်ရှေ့တွင် ပြဿနာတစ်ခု ဖြစ်မည်ကိုတော့ စိုးရိမ်ပုံနှင့် ဖြစ်သည်။

"ခင်ဗျား တစ်ယောက်ယောက်ကို စောင့်နေတာလား"

"ကျွန်တော့်ကို တင်သွားမယ့် စွတ်ဖားတစ်စီးကိုပဲ"

ကေက ဖြေလိုက်သည်။

"ဒီနေရာကို ဘယ်စွတ်ဖားမှ ဖြတ်သွားမှာ မဟုတ်ဘူး။ ဒီမှာ ယာဉ်

အသွားအလာ မရှိဘူး"

"ဒါပေမဲ့ ဒီလမ်းက ရဲတိုက်ကြီးကို သွားတဲ့လမ်းပဲ"

ကေ အတွန့်တက်လိုက်သည်။

"အတူတူပဲ၊ အတူတူပဲ။ ဒီမှာ ယာဉ်အသွားအလာ မရှိဘူး"

ထိုလူက သေချာပေါက်ပြောလိုက်သည်။

ထို့နောက် သူတို့နှစ်ယောက်စလုံး ငြိမ်သက်နေသည်။ သို့သော် ထိုလူက တစ်စုံတစ်ခုကို တွေးတောနေဟန် ရှိသည်။ ပြတင်းပေါက်ကို ဖွင့်ထားဆဲ ဖြစ်သည်။

"လမ်းက မကောင်းဘူး"

ကေက စကားခေါ်လိုက်သည်။ သူရရှိသော အဖြေက

"အင်း ဟုတ်တယ်"

သို့သော် ခဏနေသောအခါ ထိုလူက သူ့ဘာသာသူ ဆန္ဒပြုလိုက်သည်။

"ခင်ဗျားသဘောကျရင်တော့ ခင်ဗျားကို ကျွန်တော့်စွတ်ဖားနဲ့ လိုက်ပို့ မယ်"

"လုပ်ပါ ဘယ်လောက်ပေးရမလဲ"

"တစ်ပြားမှ မပေးရဘူး" ကေ အံ့အားသင့်သွားသည်။

"ခင်ဗျားက မြေတိုင်းစာရေးပဲ။ ခင်ဗျားက ရဲတိုက်ကြီးနဲ့ ဆိုင်တယ်။ ခင်ဗျားကို ဘယ်ပို့ပေးရမလဲ"

ထိုလူက ရှင်းပြပြီး မေးသည်။

"ရဲတိုက်ကြီးကို"

ကေက လျင်မြန်စွာ ပြောလိုက်သည်။ "အဲဒီကိုတော့ ကျွန်တော် ပို့မပေးဘူး" ထိုလူက အဆုတ်အဆိုင်းမရှိ ပြန်ပြောသည်။ "ဒါပေမဲ့ ကျွန်တော်က ရဲတိုက်ကြီးနဲ့ ဆိုင်တယ်" ကေက သူ့စကားကို ပြန်ပြောလိုက်သည်။ "ဖြစ်နိုင်ပါတယ်" ထိုလူက ပြန်ပြောသည်။ "အင်း ဒါဆိုရင် ကျွန်တော့်ကို တည်းခိုခန်း ပို့ပေးပါ"

"ကောင်းပြီ၊ ခဏနေရင် ကျွန်တော် စွတ်ဖားနဲ့ ထွက်ခဲ့မယ်"

သူ၏အမူအရာက မိတ်ဆွေသဘောအရ မဟုတ်ပါ။ စိုးရိမ်ပူပန်မှုကြောင့် ကေကို သူ့အိမ်ရှေ့မှ ရွှေ့ပြောင်းပေးလိုခြင်းသာ ဖြစ်သည်။ ခြံဝင်းတံခါး ပွင့်သွားပြီး ထိုင်စရာနေရာ မပါသော စွတ်ဖား သေးသေး ပြားပြားကလေးကို အားနည်းပြီး ခါးကုန်းသော အဘိုးကြီးတစ်ယောက် ဆွဲပြီး ထွက်လာသည်။ သူက မျက်နှာနီနီနှင့် ဖြစ်သည်။ သိုးမွေးလည်စည်းတစ်ခုကို ခေါင်းတွင် တင်းကျပ်စွာ စည်းထားသဖြင့် သူ့မျက်နှာက ပိုပြီးသေးငယ် နေသည်။ သူကကျန်းမာရေး မကောင်းသည်မှာ သိသာထင်ရှားလှသော်လည်း ကေကို လိုက်ပို့ရန်အတွက် စွတ်ဖားကို ဆွဲထုတ်လာခြင်း ဖြစ်သည်။ ကေက ယင်း အချက်ကို ပြောမည်ပြုစဉ် သူက ကေအား ဘေးဖယ်ရန် လက်ဖြင့် ယမ်းပြ လိုက်သည်။

ကေသိရသမျှကတော့ သူသည် ဂါစတက်ကာဟုခေါ်သော စွတ်ဖားမောင်းသူ ဖြစ်သည်။ သူက အချိုးအစား မကျလှသော စွတ်ဖားကလေး ကိုင်ဆွဲထုတ်လာခြင်းမှာ လမ်းမှာ အရန်သင့် ရှိနေသောကြောင့် ဖြစ်ပြီး အခြားသူ

တစ်ယောက် အချိန်တွေသိပ်မကုန် စေရန် ပို့ဆောင် ပေးလိုသောကြောင့် ဖြစ်သည်။

"ထိုင်"

သူက စွတ်ဖားကို လက်ညှိုးထိုးပြီး ပြောသည်။ "ကျွန်တော် ခင်ဗျားဘေးက ထိုင်မယ်" ကေက ပြောလိုက်သည်။ "ကျုပ် လမ်းလျှောက်သွားမယ်" ဂါစတက်ကာ က ပြောသည်။ "ဘာဖြစ်လို့လဲ" "ကျုပ် လမ်းလျှောက်သွားမယ်" ဂါစတက်ကာ က ထပ်ပြောသည်။

ထို့နောက် သူသည် ချောင်းတဟွပ်ဟွပ် ဆိုးလာသဖြင့် သူ့ခြေထောက်ကို နှင်းထုထဲတွင် မြဲအောင်လုပ်ပြီး စွတ်ဖားဘီးကို ကိုင်ထားလိုက်ရသည်။ ကေ ဘာမှ မပြောတော့ဘဲ စွတ်ဖားပေါ် တက်ထိုင်လိုက်သည်။ အဘိုးကြီး တဖြည်းဖြည်းနှင့် ချောင်းဆိုး သက်သာသွားသည်။ သူတို့ စွတ်ဖားကို မောင်းပြီး ထွက်ခဲ့ကြသည်။

ကေအနေနဲ့ ယနေ့ရောက်ရန် မျှော်လင့်ထားသော သူတို့အထက်မှ ရဲတိုက်ကြီးသည် မှိုင်းညို့ပြီး အဝေးသို့ရောက်ရှိ သွားပြန်တော့သည်။ သို့သော် နောက်တစ်ကြိမ် သူတို့ ပြန်တွေ့သည့် အချိန်အထိ ခွဲခွာသည့် အထိမ်းအမှတ် အမည် ခေါင်းလောင်းထိုးသံ မြူးကြွစွာ ထွက်ပေါ်လာသည်။ ထို့အတူ ခေါင်းလောင်းသံသည် ခြိမ်းခြောက်သည့် သဘောလည်း ပါနေသဖြင့် သူသည် တစ်စက္ကန့်လောက် ရင်တထိတ်ထိတ် ခုန်ရတော့သည်။ ဤခေါင်းလောင်းထိုးသံသည် ခဏအကြာတွင် ပျောက်သွားတော့သည်။ သို့သော် ယင်းအစား ဆည်းလည်းသံ ကလေးများ ထွက်ပေါ်လာသည်။ ဆည်းလည်း သံကလေးများသည် ရဲတိုက်ကြီးမှ ထွက်ပေါ်လာဟန် ရှိသော်လည်း ရွာထဲ တစ်နေရာရာမှ ထွက်ပေါ်လာခြင်း ဖြစ်နိုင်သည်။ ဤ ဆည်းလည်းသံ ကလေးသည် နှေးကွေးစွာ သွားနေသော အဘိုးနှင့်တော့ လိုက်ဖက်ပါသည်။

"ဒီမှာ ကျွန်တော် အံ့ဩတာက ခင်ဗျားသဘောနဲ့ ခင်ဗျား ကျွန်တော့်ကို လိုက်ပို့တာပဲ။ ခင်ဗျားအနေနဲ့ အဲဒီလိုလုပ်လို့ ရလို့လား"

ကေက ရုတ်တရက် အော်ပြောလိုက်သည်။ ယခုအခါ သူတို့သည် ဘုရားကျောင်းအနီးသို့ ရောက်ရှိနေကြပြီ။ တည်းခိုခန်းသည် သိပ်မဝေးတော့။ သို့ ဖြင့် ကေက တစ်ခုခုလုပ်သင့်သည်ဟု ယူဆပြီး မေးလိုက်ခြင်း ဖြစ်သည်။ သို့သော် ဂါစတက်ကာသည် ဂရုမပြုဟန်ဖြင့် မြင်းကလေးဘေးက ဆက်ပြီး လျှောက်သွားနေသည်။

ကေ အော်လိုက်ပြီး စွတ်ဖားမှ နှင်းပွင့်တွေကို ယူကာ နှင်းဘောလုံး ပြုလုပ်ကာ ဂါစတက်ကာကို ပေါက်လိုက်သည်။ နားရွက်ကို တည့်တည့်ကြီး ထိမှန်သည်။ သည်တော့မှ သူ ရပ်လိုက်ပြီး လှည့်ကြည့်သည်။ စွတ်ဖား အနည်းငယ်လျှောသွားသည်။ ခါးကုန်းကုန်း၊ အသားနီစပ်စပ်နှင့် အဘိုးကြီး ကို အနီးကပ် တွေ့မြင်ရသည်။ သူက ပါးစပ်ကြီးဟပြီး ကေ ပြောတာကို နားထောင်နေသည်။ ကေက သူ့မေးခွန်းကို ထပ်ပြီး မေးလိုက်သည်။ ကေအား စွတ်ဖားနှင့် လိုက်ပို့သည့်အတွက် အရေးယူမခံရဘူးလား။

"ခင်ဗျား ဘာကိုဆိုလိုတာလဲ"

ဂါစတက်က မေးလိုက်သည်။ သို့သော် အဖြေကို စောင့်မနေတော့ဘဲ မြင်းကို မောင်းလိုက်သည်။ သူတို့ ဆက်ပြီး ထွက်ခဲ့ကြသည်။

လမ်းကွေ့တစ်ခုသို့ ရောက်သောအခါ သူတို့သည် တည်းခိုခန်းအနီးသို့ ရောက်ရှိနေပြီ ဖြစ်ကြောင်း ကေ မှတ်မိသည်။ မှောင်နေပြီဖြစ်ကြောင်း တွေ့ရှိရသဖြင့် ကေ အံ့သြရသည်။ သူ ဒါလောက်အကြာကြီး သွားခဲ့သလား။ သူ မှတ်မိသလောက်တော့ တစ်နာရီ နှစ်နာရီကလေးပဲ သွားခဲ့သည်။ သူထွက်လာတုန်းက မနက်ပိုင်းဖြစ်သည်။ သူ လုံးဝ မဆာလောင်ခဲ့ပါ။ ခုနကလေး ကလည်း အလင်းရောင်ရှိသေးသည်။ ယခု မည်းမည်း မှောင်နေပြီ။

"နေ့တာတိုတယ်၊ နေ့တာတိုတယ်"

သူ့ကိုယ်သူ ပြောပြီး စွတ်ဖားပေါ်မှ ဆင်းကာ တည်းခိုခန်းဆီသို့ လျှောက်သွားသည်။

အိမ်ထဲသို့ဝင်သော အိမ်ရှေ့ အပေါ်ဆုံး လှေကားထစ်တွင် တည်းခိုခန်း ပိုင်ရှင်သည် မှန်အိမ်တစ်လုံးကို ကိုင်လျက် စောင့်ကြိုလျက်ရှိသည်။ ကေသည် သူ့အား လိုက်ပို့သူကို အမှတ်ရလိုက်သဖြင့် ငြိမ်သက်စွာ ရပ်နေလိုက်သည်။ သူ့နောက်ဘက် အမှောင်ထဲမှ ချောင်းဆိုးသံ ကြားရသည်။ လိုက်ပို့ သူပင် ဖြစ်သည်။ သူနှင့် မကြာမီ ပြန်တွေ့ရပေဦးမည်။ တည်းခိုခန်းပိုင်ရှင်နှင့် ဘေးချင်းယှဉ်မိသောအခါ တံခါးပေါက် တစ်ဖက်တစ်ချက်တွင် လူနှစ် ယောက် ရှိနေသည်ကို တွေ့မြင်ရသည်။ ကေက အိမ်ရှင် လက်မှ မှန်အိမ်ကို ယူပြီး သူတို့ကို ကြည့်လိုက်သည်။ သူ စောစောက တွေ့လိုက်သူ နှစ်ဦးပင် ဖြစ်သည်။ အာသာနှင့် ဂျာရီမီယာ။ သူတို့က ယခုအခါ သူ့ကို အလေးပြု ကြသည်။ ယင်းက သူ၏စစ်သားဘဝကို သတိရစေသည်။ သူ့အတွက် ပျော်ရွှင်ဖွယ်ရာ နေ့ရက်များ ဖြစ်သည်။ သူ ရယ်မောလိုက်သည်။

"မင်းတို့ ဘယ်သူတွေလဲ"

ကေက တစ်ယောက်မျက်နှာမှ တစ်ယောက်မျက်နှာသို့ ကြည့်ကာ မေးလိုက်သည်။

"ဆရာ့ရဲ့ လက်ထောက်တွေပါ"

သူတို့ ပြောသည်။

"သူတို့က ဆရာ့ရဲ့ လက်ထောက်တွေပါ"

အိမ်ရှင်က လေသံ တိုးတိုးလေး ပြင်လိုက်ပြီး ပြောသည်။

"ဘာပြောတယ်။ မင်းတို့က ငါ့ရဲ့လက်ထောက်ဟောင်းတွေဖြစ်ပြီး ငါ့နောက်ကို လိုက်ခဲ့ဖို့ ငါမှာထားတဲ့လူတွေ၊ ငါစောင့်နေတဲ့ လူတွေလား"

သူတို့က ဟုတ်မှန်ကြောင်း ဖြေကြသည်။

"ကောင်းတယ်"

ကေက မှတ်ချက်ပေးလိုက်သည်။ ခေတ္တမျှ နှုတ်ဆိတ်နေပြီးနောက်

"မင်းတို့လာတဲ့အတွက် ငါ ဝမ်းသာတယ်"

နောက်တစ်ကြိမ် နှုတ်ဆိတ်နေပြီးနောက်

"အင်း… မင်းတို့ရောက်လာတာ သိပ်ပြီးနောက်ကျတယ်။ မင်းတို့ ပျော့စိပျော့နဲ ဖြစ်နေကြတယ်"

"အဝေးကြီးက လာရတာ ဆရာ"

တစ်ယောက်က ပြောသည်။

"အဝေးကြီး ဟုတ်လား"

ကေက ခွန်းဆင့်လိုက်သည်။

"ဒါပေမဲ့ အခု ရဲတိုက်ကြီးက လာကြတာကို ငါ တွေ့ရတယ်"

"ဟုတ်ပါတယ်ခင်ဗျ"

သူတို့က ဘာမျှရှင်းလင်းချက် မပေးဘဲ ပြောသည်။

"လုပ်ငန်းသုံးတွေကော"

"ကျွန်တော်တို့မှာ ဘာမှမရှိပါဘူး"

"ငါပေးထားတဲ့ လုပ်ငန်းသုံးပစ္စည်းတွေလေ"

"ကျွန်တော်တို့မှာ ဘာမျှမရှိပါဘူး"

သူတို့က ထပ်ဖြေသည်။

"ဟား မင်းတို့ဟာ တကယ့်လူတွေပဲ။ မြေတိုင်းတာကော မင်းတို့ နားလည်လား"

"မလည်ပါဘူး"

သူတို့ဖြေသည်။

"ဒါပေမဲ့ မင်းတို့ဟာ ငါ့ရဲ့လက်ထောက်ဟောင်းတွေဆိုရင် မင်းတို့ နည်း နည်းပါးပါးတော့ နားလည်ရမယ်"

သူတို့ ဘာမှပြန်မဖြေပါ။

"ကောင်းပြီ ဝင်ကြ"

ကေက သူတို့ကို အိမ်ထဲသို့ တွန်းသွင်းလိုက်သည်။

သူတို့သုံးယောက် စားပွဲကလေးတစ်လုံးတွင် ဘီယာသောက်ကြသည်။ စကားနည်းနည်းပဲ ပြောကြသည်။ ကေက အလယ်တွင်ဖြစ်သည်။ လက်ထောက်တွေက တစ်ဖက်စီတွင် ဖြစ်သည်။ နောက်တစ်နေ့ ညနေတွင်တော့ အခြားဝိုင်း တစ်ဝိုင်းသာ ရှိသည်။ လယ်သမားအချို့ ထိုင်နေကြခြင်းဖြစ်သည်။

"မင်းတို့နှစ်ယောက်က မလွယ်ကူတဲ့ ပြဿနာပဲ"

ကေက သူတို့နှစ်ယောက်ကို နှိုင်းယှဉ်ကြည့်ရင်း ပြောလိုက်သည်။

"မင်းတို့နှစ်ယောက်ကို ငါ ဘယ်လိုခွဲခြားသိနိုင်မလဲ။ မင်းတို့နှစ်ယောက် ကြားမှာ ခြားနား တာက နာမည်တွေပဲ။ အဲဒါကလွဲရင်တော့ မင်းတို့ဟာ အတူတူပဲ"

သူ ခေတ္တရပ်ပြီး "မင်းတို့ဟာ မြွေနှစ်ကောင်နဲ့ တူတယ်"

သူတို့ ပြုံးလိုက်ကြသည်။

"လူတွေက ကျွန်တော်တို့နှစ်ယောက်ကို ကောင်းကောင်း ခွဲခြားနိုင်ပါ

တယ်"

ကေက

"သူတို့ ခွဲခြားနိုင်ပါလိမ့်မယ်။ ငါလည်း ခွဲခြားနိုင်ပါတယ်။ ဒါပေမဲ့ အဲဒါ ကို ငါ့မျက်လုံးတွေကသာ မြင်တယ်။ အဲဒီမျက်လုံးတွေနဲ့တော့ မင်းတို့ကို ငါ မကြွဲပြားဘူး။ အဲဒီတော့ မင်းတို့ကို ငါ လူတစ်ယောက်တည်းအနေနဲ့ ဆက်ဆံမယ်။ မင်းတို့နှစ်ယောက် စလုံးကို အာသာ လို့ပဲ ခေါ်မယ်။ အဲဒါ မင်းတို့ထဲက တစ်ယောက်ရဲ့နာမည်ပဲ။ မင်းတို့ နာမည်ပဲ ဟုတ်ပြီလား"

သူက သူတို့ထဲက တစ်ယောက်ကို မေးလိုက်သည်။ "မဟုတ်ပါဘူး၊ ကျွန်တော့်နာမည် ဂျာရီမီယာ ပါ"

"ဒါ အရေးမကြီးပါဘူး။ မင်းတို့နှစ်ယောက်စလုံးကို ငါ အာသာလို့ပဲ ခေါ်မယ်။ ငါက အာသာကို တစ်နေရာသွားဖို့ ပြောရင် မင်းတို့နှစ်ယောက်စလုံး သွားရမယ်။ ငါက အာသာကို တစ်ခုခုလုပ်ခိုင်းရင် မင်းတို့နှစ်ယောက်စလုံး လုပ်ရမယ်။ ငါ့အတွက် မင်းတို့ကို တစ်ယောက်ကို အလုပ်တစ်ခုစီ မခိုင်းရ

တဲ့အတွက် အကျိုးမရှိဘူးပေါ့။ ဒါပေမဲ့ အကျိုးရှိတာကတော့ ငါခိုင်းတဲ့ အလုပ်အတွက် နှစ်ယောက်စလုံးမှာ အညီအမျှတာဝန်ရှိတာပဲ။ မင်းတို့ နှစ်ယောက်ကြားမှာ အလုပ်ကို ဘယ်လို ခွဲဝေကြမလဲ ဆိုတာ ငါ့အတွက် ပြဿနာမဟုတ်ဘူး။ အရေးကြီးတာက မင်းတို့ တစ်ယောက်ကို တစ်ယောက် အပြစ်တင်မနေကြဖို့ပဲ။ ငါ့အဖို့ကတော့ မင်းတို့ဟာ လူတစ် ယောက် တည်းပဲ"

သူတို့စဉ်းစားသည်။ ထို့နောက်

"ဒါကို ကျွန်တော်တို့ သဘောမကျဘူး"

"ငါကတော့ ဒီလိုမထင်ဘူး။ မင်းတို့ ဒါကို သဘောမကျဘူးဆိုတာ မှန်တယ်။ ဒါပေမဲ့ အခြေအနေက ဒီအတိုင်းဖြစ်နေတာပဲ"

လယ်သမားတစ်ယောက်သည် သူတို့စားပွဲအနီးတွင် ရစ်သီရစ်သီလုပ်နေသည်။ ကေ သတိပြုမိသွားသည်။ ထိုလူသည် ယခုအခါ အရဲစွန့်ပြီး လက်ထောက် တစ်ဦးအနားသို့ သွားကာ တီးတိုးစကား ပြောသည်။

"တစ်ဆိတ်ခင်ဗျာ့"

ကေက စားပွဲပေါ် လက်ထောက်လိုက်ပြီး မတ်တတ်ထရပ်ကာ "သူတို့က ကျုပ်ရဲ့ လက်ထောက်တွေဖြစ်ပြီး ကျုပ်တို့ဟာ ကိုယ်ရေးကိုယ်တာ အလုပ်ကိစ္စ တစ်ခုကို ဆွေးနွေးနေကြတယ်။ ကျုပ်တို့ကို ဘယ်သူမှ နှောင့် ယှက်စရာ မရှိဘူး"

"တောင်းပန်ပါတယ်ခင်ဗျာ တောင်းပန်ပါတယ်"

လယ်သမား ရှေ့ရွတ်လိုက်ပြီး သူ့လူများရှိရာသို့ နောက်ပြန်ဆုတ်သွားသည်။

"မင်းတို့ကို ငါ အရေးအကြီးဆုံးတစ်ခု ပြောမယ်။ မင်းတို့ဟာ ငါ့ရဲ့ ခွင့်ပြုတဲ့အတွက် အကျိုးမရှိဘူးပေါ့။ ဒါပေမဲ့ အကျိုးရှိတာကတော့ ငါခိုင်းတဲ့ အလုပ်အတွက် နှစ်ယောက်စလုံးမှာ အညီအမျှတာဝန်ရှိတာပဲ။ မင်းတို့ နှစ် ယောက်ကြားမှာ အလုပ်ကို ဘယ်လိုခွဲဝေကြမလဲ ဆိုတာ ငါ့အတွက်

ပြဿနာမဟုတ်ဘူး။ အရေးကြီးတာက မင်းတို့ တစ်ယောက်ကို တစ် ယောက် အပြစ်တင်မနေကြဖို့ပဲ။ ငါ့အဖို့ကတော့ မင်းတို့ဟာ လူတစ် ယောက် တည်းပဲ"

သူတို့စဉ်းစားသည်။ ထို့နောက်

"ဒါကို ကျွန်တော်တို့ သဘောမကျဘူး"

"ငါကတော့ ဒီလိုမထင်ဘူး။ မင်းတို့ ဒါကို သဘောမကျဘူးဆိုတာ မှန်တယ်။ ဒါပေမဲ့ အခြေအနေက ဒီအတိုင်းဖြစ်နေတာပဲ"

လယ်သမားတစ်ယောက်သည် သူတို့စားပွဲအနီးတွင် ရစ်သီရစ်သီလုပ်နေသည်။ ကေ သတိပြုမိသွားသည်။ ထိုလူသည် ယခုအခါ အရဲစွန့်ပြီး လက်ထောက် တစ်ဦးအနားသို့ သွားကာ တီးတိုးစကား ပြောသည်။

"တစ်ဆိတ်ခင်ဗျာ"

ကေက စားပွဲပေါ် လက်ထောက်လိုက်ပြီး မတ်တတ်ထရပ်ကာ "သူတို့က ကျုပ်ရဲ့ လက်ထောက်တွေဖြစ်ပြီး ကျုပ်တို့ဟာ ကိုယ်ရေးကိုယ်တာ အလုပ်ကိစ္စ တစ်ခုကို ဆွေးနွေးနေကြတယ်။ ကျုပ်တို့ကို ဘယ်သူမှ နှောင့် ယှက်စရာ မရှိဘူး"

"တောင်းပန်ပါတယ်ခင်ဗျာ တောင်းပန်ပါတယ်"

လယ်သမား ရှေ့ရွတ်လိုက်ပြီး သူ့လူများရှိရာသို့ နောက်ပြန်ဆုတ်သွားသည်။

"မင်းတို့ကို ငါ အရေးအကြီးဆုံးတစ်ခု ပြောမယ်။ မင်းတို့ဟာ ငါ့ရဲ့ ခွင့်ပြုချက်မရဘဲ ဘယ်သူနဲ့မှ စကားမပြောရဘူး"

ကေ ပြန်ထိုင်လိုက်သည်။

"ငါဟာ ဒီမှာ သူစိမ်းတစ်ယောက်ပဲ။ မင်းတို့ဟာ ငါ့ရဲ့လက်ထောက် ဟောင်း တွေဆိုရင် မင်းတို့လည်း သူစိမ်းတွေပဲ။ ဒါကြောင့် ငါတို့သုံး ယောက်ဟာ သူစိမ်းတွေ အဖြစ် အတူတကွ ရပ်တည်ကြရမယ်။ ဒါအတွက် ငါ့ကို လက်ဆွဲနှုတ်ဆက်ကြပါ"

သူတို့က စိတ်အားထက်သန်စွာဖြင့် ကေ့ထံ လက်ဆန့်တန်း ပေးကြသည်။

"ချုပ်စ်လိုက်တာကို ဘယ်လိုမှ သဘောမထားကြနဲ့။ ဒါပေမဲ့ ငါလုပ်တာ ဟာ ကောင်းတယ်ဆိုတာ မှတ်ထားကြ။ ငါ အခု အိပ်တော့မယ်။ မင်းတို့လည်း အိပ်ကြဖို့ ငါ ပြောမယ်။ ကနေ့ နေ့ခင်း ငါတို့ ဘာအလုပ်မှ မလုပ် လိုက်ကြရဘူး။ မနက်ဖြန်ကျရင် ငါတို့ အစောကြီး အလုပ်စကြမယ်။ ရဲတိုက်ကိုသွားဖို့ ငါ့အတွက် စွတ်ဖားတစ်စီး စီစဉ်ကြ။ မနက် ၆ နာရီ တိတိမှာ အိမ်ရှေ့မှာ စွတ်ဖား အသင့်ရှိပါစေ"

"ကောင်းပါပြီ"

တစ်ယောက်က ပြောသည်။ သို့သော် တစ်ယောက်က ကြားဖြတ်ပြီး

"ဒါ မဖြစ်နိုင်မှန်းသိရက်သားနဲ့ မင်းက {ကောင်းပါပြီ} လို့ ပြောတယ်"

"တိတ်၊ မင်းတို့ဟာ အခုပဲ တစ်ယောက်နဲ့ တစ်ယောက် ခွဲခြားဖို့ လုပ်နေ ကြတယ်"

ကေ က အော်လိုက်သည်။

သို့သော် ပထမလူက ပြောသည်။

"သူပြောတာ မှန်တယ်၊ မဖြစ်နိုင်ဘူး။ ဘယ်သူစိမ်းတစ်ယောက်မှ ခွင့်ပြုချက် လက်မှတ်မပါဘဲနဲ့ ရဲတိုက်ကြီးထဲကို မဝင်နိုင်ဘူး"

"ခွင့်ပြုချက်လက်မှတ်ကို ဘယ်မှာလျှောက်ရမှာလဲ"

"ကျွန်တော် မသိဘူး။ ရဲတိုက်မှူးဆီကို ဖြစ်မယ်နဲ့တူတယ်"

"ဒါဆိုရင် တို့ တယ်လီဖုန်းနဲ့ လျှောက်ကြမယ်။ သွား၊ ရဲတိုက်မှူးဆီကို ချက်ချင်းဖုန်းဆက်။ နှစ်ယောက်စလုံးသွား"

တယ်လီဖုန်းဆီကို သူတို့ အပြေးသွားကြသည်။

ဖုန်းဆက်သွယ်ပေးရန် ပြောကြသည်။ သူတို့ ဘယ်လောက်စိတ်အား ထက်သန်ကြသလဲ။ အပြင် ပန်းအရတော့ သူတို့ အင်မတန်ကျိုးနွံကြသည်။ မနက်ဖြန်ကျရင် သူတို့နှစ် ယောက်နှင့်အတူ ရဲတိုက်ကြီးကို ကေ လာနိုင်သလားဟု မေးကြသည်။

"ဟင့်အင်း" ဟူသော အဖြေကို ကေ၏စားပွဲမှပင် ကြားရသည်။ သို့သော် တစ်ဖက်က ဆက်ပြီးပြောသည်။ အခြေအနေကို ရှင်းပြသည်။ ယင်းမှာ အောက်ပါ အတိုင်းဖြစ်သည်။

"မနက်ဖြန်လည်း မလာရဘူး။ နောက်လည်း ဘယ်တော့မှ မလာရဘူး"

"ငါကိုယ်တိုင်ဆက်မယ်"

ကေ ပြောလိုက်ပြီး ထိုင်ရာမှ ထလိုက်သည်။

စောစောကအထိတော့ ကေနှင့် သူ့လက်ထောက်တို့သည် ဘာသိဘာသာပင် ဖြစ်သည်။ သို့သော် သူ နောက်ဆုံးပြောလိုက်သော စကားကြောင့် အားလုံး သတိပြုမိ သွားကြသည်။ ကေ မတ်တတ် ထလိုက်သည့် အချိန်တွင် သူတို့လည်း ထလိုက်ကြသည်။ တယ်လီဖုန်းအနီးရှိ ကေကို သူတို့ လခြမ်း သဏ္ဍာန်ကပ်ပြီး ဝိုင်းထားကြသည်။ တည်းခိုခန်းပိုင်ရှင်က သူတို့ကို မောင်း ထုတ်ရန် ကြိုးစားသည်။ ကေအနေနဲ့ ဘာအဖြေမှ ရမှာမဟုတ်ဟု သူတို့က ပြောကြသည်။ ကေက သူတို့ကို တိတ်ကြရန်နှင့် သူတို့၏ သဘောထားကို မလိုချင်ကြောင်း ပြောလိုက်သည်။

လက်ကိုင်ခွက်ထဲမှ ထွက်ပေါ်လာသော စီစီညံညံအသံများသည် တယ် လီဖုန်းတွင် ကေ ဘယ်တုန်းကမှ မကြားဖူးသော အသံများဖြစ်သည်။ မရေမတွက်နိုင်သော ကလေးတွေ၏ အသံဖြစ်သည်။ အဝေးတစ်နေရာဆီမှ သီချင်းဆိုနေသံမျိုး ဖြစ်သည်။ ထိုအသံတွေထဲတွင် အသံကြီးတစ်ခုက ထိုး ဖောက်ပြီး ဝင်လာနေသည်။ ကေသည် လက်တစ်ဖက်ကို တယ်လီဖုန်းပေါ်တွင် ထောက်ရင်း နားထောင်နေသည်။

သူ ဘယ်လောက်ကြာအောင် ထို နေရာတွင် ရပ်နေမိသည်မသိ၊ တည်းခိုခန်း ပိုင်ရှင်က သူ၏ကုတ်အင်္ကျီကို ဆွဲပြီး ဆက်သားတစ်ယောက် ရောက်နေကြောင်း ပြောသည်အထိဖြစ်သည်။

"သွားစမ်းပါ"

ကေ ဒေါသတကြီးဖြင့် အော်လိုက်သည်။ စကားပြောခွက်ထဲကို အော်

လိုက်ဟန်ဖြစ်သည်။ အကြောင်းမှာ တစ်စုံတစ်ယောက်က ရုတ်ခြည်းဆို သလို တစ်ဖက်မှ ဝင်ပြောနေသောကြောင့် ဖြစ်သည်။

"အေ့စဝဲ ပြောနေတယ်။ အခုပြောနေတာ ဘယ်သူလဲ"

ရန်လိုသောအသံဖြစ်သည်။ အသံရှင်က တမင်လုပ်ပြောနေဟန်ရှိသည်။

ကေ ခေတ္တမျှ တုံ့ဆိုင်းနေသည်။ တစ်ဖက်လူက သူ့ကို အော်ငေါက်ပြီး ဖုန်းကို ချလိုက်မှာ စိုးသောကြောင့် ဖြစ်သည်။ ယင်းက ဆက်သွယ်မှုကို ရပ်တန့်သွားစေ နိုင်သည်။

"အခုပြောနေတာ ဘယ်သူလဲ"

ကေ တုံ့ဆိုင်းနေသည်ကို တစ်ဖက်လူက စိတ်မရှည်ဟန်ရှိသည်။ သူက ဆက်ပြီး ပြောသည်။

"အဲဒီကနေ ဖုန်း သိပ်မဆက်စေချင်ဘူး။ လွန်ခဲ့တဲ့ တစ်မိနစ်လောက်ကပဲအဲဒီက လူတစ်ယောက် ဖုန်းဆက်သေးတယ်"

ကေက သူ့စကားကို အလေးမထားဘဲ သူ ရုတ်ခြည်း ဆုံးဖြတ်လိုက်မှုကို ပြောလိုက်သည်။

"မြေတိုင်းစာရေးရဲ့လက်ထောက် ပြောနေပါတယ်"

"ဘယ်ကမြေတိုင်းစာရေးလဲ၊ ဘယ်က လက်ထောက်လဲ"

ကေက မနေ့က တယ်လီဖုန်းပြောသည်ကို အမှတ်ရပြီး ခပ်ပြတ်ပြတ် ပြန်ဖြေ လိုက်သည်။

"ဖရစ် ကို မေးကြည့်"

ယင်းစကားက အောင်မြင်မှုရရှိသည်။ ကေပင် အံ့သြသွားသည်။

သို့သော် သူ၏အောင်မြင်မှုအတွက် အံ့သြရသည်ထက် ရဲတိုက်ကြီး၏ဖွဲ့စည်းမှုကို ပို၍ အံ့သြ ရသည်။

"အို ဟုတ်ပြီ၊ အဆုံးမသတ်နိုင်တဲ့ မြေတိုင်းစာရေးပဲ။ ဒါဆိုရင် ဘာကိစ္စ လဲ၊ ဘယ်က လက်ထောက်လဲ"

"ဂျိုးဆက် ပါ"

ကေက ပြောလိုက်သည်။ သူ့နောက်ဘက်မှ လယ်သမားတွေ၏ တီးတိုးသံများကြောင့် ကေ စိတ်အနှောင့်အယှက် ဖြစ်ရသည်။ သူတို့က သူ၏ခက်ထန် မှုကို မကျေနပ်ကြဟန်ရှိသည်။ သို့သော် သူ့မှာ သူတို့အတွက် စိတ် ကသိကအောက် ဖြစ်နေချိန် မရှိပါ။ တယ်လီဖုန်းပြောနေရသည်က သူ၏ဂရုပြုမှုကို ထိန်းချုပ်ထားသည်။

"ဂျိုးဆက် ဟုတ်လား"

တစ်ဖက်မှ မေးလိုက်သည်။

"ဒါပေမဲ့ လက်ထောက်တွေရဲ့နာမည်က ဟို..."

ခေတ္တမျှ တိတ်ဆိတ်သွားသည်။ တစ်ယောက်ယောက်ထံမှ နာမည်များကို မေးနေဟန် ရှိသည်။ ဟို အာသာနဲ့ ဂျာရီမီယာ။

"သူတို့က လက်ထောက်အသစ်တွေပါ"

ကေက ပြောလိုက်သည်။

"မဟုတ်ဘူး။ သူတို့က လက်ထောက်ဟောင်းတွေပဲ"

"သူတို့က လူသစ်တွေပဲ။ ကျွန်တော်က လူဟောင်း။ ကျွန်တော် ကနေ့မှ မြေတိုင်းစာရေး နောက်မှ ရောက်လာတာ"

"မဟုတ်ဘူး"

တစ်ဖက်က အော်ပြောသည်။ "ဒါဖြင့်ရင် ကျွန်တော်က ဘယ်သူလဲ"

ကေက တည်ငြိမ်စွာမေးလိုက်သည်။

ခဏနေသောအခါ စောစောကအသံ၊ စောစောကလေသံ ထွက်ပေါ်လာသည်။ ပို၍ အထက်စီးကျသော လေသံဖြင့် ဖြစ်သည်။

"ခင်ဗျားဟာ လက်ထောက်ဟောင်းပဲ"

ကေက ဖုန်းကို နားထောင်ရင်း တစ်ဖက်မှ မေးခွန်းကို သတိမပြုမိဘဲ ရှိသည်။

"ခင်ဗျား ဘာလိုချင်လဲ"

ကေက ဖုန်းကို ချလိုက်ချင်သည်။ ယခုပြောနေခြင်းမှ ဘာမှ ရလိမ့်မည်ဟု သူ မမျှော်လင့်ပါ။ သို့သော် ချက်ချင်းပင် ပြန်ဖြေလိုက်သည်။

"ကျွန်တော့်ဆရာ ရဲတိုက်ကြီးကို ဘယ်တော့လာရမလဲ"

"ဘယ်တော့မှ မလာနဲ့"

"ကောင်းပြီ"

ကေ ပြောလိုက်ပြီး ဖုန်းကို ပြန်ချိတ်ထားလိုက်သည်။

သူ၏နောက်ဘက်တွင် လယ်သမားတွေ ကပ်ပြီး ပြည့်ကျပ်နေသည်။

သူ၏ လက်ထောက်များသည် သူ့ထံသို့ လှမ်းကြည့်ကြသည်။ လယ်သမားတွေကို နောက်ဆုတ်ခိုင်း နေသည်။ သို့သော် သူတို့သည် သည်လုပ်ငန်းကို သိပ်ပြီးအလေးထားကြဟန် မတူချေ။ နောက်ပြီးတော့ လယ်သမားတွေကလည်း တယ်လီဖုန်းမှ အပြန်အလှန် ပြောဆိုကြသည်ကို ကျေနပ်သွားကြပြီး လမ်းဖွင့်ပေးသွားကြပြီ ဖြစ်သည်။

လူတစ်ယောက်သည် လူအုပ်ကိုဖြတ်လျက် ခြေလှမ်းသွက်သွက်ဖြင့် လျှောက်လာပြီး ကေ၏ရှေ့ဘက်တွင် ခေါင်းညွတ်ပြီး တရိုတသေ ပြုလိုက်သည်။ ထို့နောက် ကေအား စာတစ်စောင် ပေးလိုက်သည်။ ကေက စာကိုယူ ပြီး စာပေးသူကို ကြည့် လိုက်သည်။ လောလောဆယ်တွင် ထိုသူက သူ့ အတွက် ပိုပြီးအရေးကြီးနေသည်။ ယခုလာရောက်သူနှင့် လက်ထောက်နှစ် ယောက်တို့သည် အတော်ကလေး ဆင်တူကြသည်။ လူသစ်သည် လက်ထောက်များလိုပင် သွယ်သွယ်လျလျပင် ဖြစ်သည်။ ချပ်ချပ်ရပ်ရပ်ရှိသော ဝတ်စုံကိုပင် ဝတ်ထားသည်။ သွက်သွက်လက်လက် ချက်ချက် ချာချာ ဖြစ်သည်။ သို့တစေ သူက သိသိသာသာကြီး ခြားနားသည်။ သူ့ကို လက်ထောက် တစ်ယောက်အဖြစ် ကေ

သဘောကျမိသည်။ သူက ကေ့ကို ဆေးဆိုးသမားအိမ်တွင် တွေ့မြင်ခဲ့ရသော ကလေးနှင့် မိန်းကလေးကို အမှတ်ရစေသည်။ သူ့တစ်ကိုယ်လုံးလောက် အဖြူဝတ်ထားသည်။ ပိုး မဟုတ်ပါ။ သူက အခြားသူများကဲ့သို့ပင် ဆောင်းဝတ်စုံကို ဝတ်ထားသည်။ သို့သော် သူဝတ်ထားသော အဝတ်တွေက နူးညံ့ပြီး ပိုးသားကဲ့သို့ပင် ဖြစ်သည်။ သူ့မျက်နှာက ကြည်လင်ပြီး ပွင့်လင်းသည်။ သူ့မျက်လုံးများကသာမန်ထက် ကြီးသည်။ သူ့အပြုံးက ထူးထူးခြားခြားပင် ရွှင်ပျသည်။ အပြုံးကို ကွယ်သည့်အနေဖြင့် မျက်နှာပေါ်တွင် လက်တင်ထားသည်။ သို့သော် အချည်းနှီးပင်။

"ခင်ဗျား ဘယ်သူလဲ"

ကေ မေးလိုက်သည်။

"ကျွန်တော့်နာမည် ဗာနေဗက်ပါ။ ကျွန်တော်က ဆက်သားတစ်ယောက် ပါ"

သူ့နှုတ်ခမ်းတွေက ပြည့်ဖြိုးသည်။ သို့သော် စကားပြောသောအခါ နူးညံ့သည်။

"ဒီလိုမြင်ကွင်းမျိုးကို ခင်ဗျား သဘောကျသလား"

ကေက လယ်သမားများကို လက်ညှိုးထိုးပြပြီး မေးလိုက်သည်။ သူက လယ်သမားတွေ အတွက် အခုအထိ စပ်စုစရာဖြစ်နေသည်။ သူတို့က ပါးစပ်ကြီးတွေ ဟပြီး သူ့ကို ငေးကြည့်နေကြသည်။ နှုတ်ခမ်းထူထူကြီးတွေ နှင့် ဖြစ်သည်။ အညှဉ်းပန်း ခံထားရသော မျက်နှာတွေနှင့် ဖြစ်သည်။ သူ တို့၏ဦးခေါင်းများသည် ပြားချပ်သွားအောင် ထိပ်ကို အထုခံထားရသည့် ပုံစံဖြစ်သည်။ နာကြည်းမှုကြောင့် ဤပုံစံမျိုး ဖြစ်သွားပုံရသည်။ သို့တစေ သူတို့သည် သူ့ကို ငေးကြည့်နေကြခြင်း မဟုတ်ပါ။ အကြောင်းမှာ သူ တို့၏မျက်လုံးများသည် အခြားအရာများကို ကြည့်လိုက်၊ သူ့ထံကို ပြန်ကြည့်လိုက်နှင့် ဖြစ်သည်။ ထို့နောက် ကေသည် သူ၏လက်ထောက်များကိုလည်း ညွှန်ပြလိုက်သည်။ သူတို့က ပူးကပ်ပြီး ပါးချင်း ကပ်ထားကြသည်။ ပြီးတော့ ပြုံးနေကြသည်။ သို့သော် တကယ်ပဲ ပြုံးနေကြသည်လား၊ လှောင်ပြောင်နေကြသည်လား ဆိုသည်ကိုတော့ ကေ ခွဲခြားရခက်သည်။ ဤအခြင်းအရာများ အားလုံးကို သူ ညွှန်ပြ နေသည်က အခြေအနေအရဖြစ်ပေါ်လာသော သူ၏နောက်လိုက်များကို ပြသသည့် သဘောဖြစ်သည်။ သူက ဗာနေဗက်ကို အထူးပင်ရင်းနှီးပြီး သူနှင့် သူတို့ကို ခွဲခြားသည့် သဘောဖြစ်သည်။

သို့သော် ဗာနေဗက်သည် တကယ်ပင် ရိုးသားစွာဖြင့် ကေ၏မေးခွန်းကို မသိကျိုးကျွံ ပြုသည်။ ကောင်းမွန်သော အစေအပါးတစ်ဦးက သူ့သခင်ပြော လိုက်သည့် စကားကို မသိကျိုးကျွံ ပြုသည့်အလား ဖြစ်သည်။ သူက ကေ ညွှန်ပြလိုက်သော အခန်းကို ကြည့်ရုံမျှသာကြည့်ပြီး လယ်သမားတွေထဲက သူနှင့် သိကျွမ်းသူများကို လက်ဖြင့် ဖိကာ နှုတ်ဆက်ပြီး လက်ထောက်များနှင့် စကားအနည်းငယ်ပြောသည်။ သူက အခြားသူများနှင့် ခြားနားသောအား ဖြင့်

လွတ်လပ်စွာ လုပ်ဆောင်ခြင်းမျိုး ဖြစ်သည်။ ငြင်းဆန်လိုက်ခြင်း ဖြစ်သည်။ သို့သော် ကလန်ကဆန် လုပ်ခြင်းမျိုးတော့ မဟုတ်။

ကေက သူ့လက်ထဲမှစာအိတ်ကို ပြန်ကြည့်လိုက်ပြီး ဖောက်လိုက်သည်။ စာထဲတွင် ပါရှိသည်များမှာ အောက်ပါအတိုင်းဖြစ်သည်။

"ခင်မင်သော လူကြီးမင်းခင်ဗျား၊ သင်သိပြီးဖြစ်သည့်အတိုင်း သင့်ကို မင်းကြီးရဲ့အလုပ်မှာ ခန့်အပ်ပြီး ဖြစ်ပါသည်။ သင့်ရဲ့ လတ်တလော အထက်လူကြီးဟာ ကျေးရွာဥက္ကဋ္ဌဖြစ်သည်။ သူက သင့်လုပ်ငန်းနှင့် ပတ်သက်သော အချက်အလက်များနှင့် လုပ်ငန်းအခြေအနေများကို ပြောပြ ပါမည်။ သူ့လက်အောက်တွင် သင် တာဝန်ထမ်းဆောင်ရမည်။ သို့သော် ကျွန်ုပ်အနေနှင့် သင့်ကို ပစ်မထားပါ။

ယခု ဤစာကို ယူလာသော ဗာနေဗက်သည် ကျွန်ုပ်နှင့်ဆက်သွယ်ရန် သင့်ထံသို့ မကြာခဏ လာရောက်လိမ့်မည်။ သူလုပ်ဆောင်ပေးနိုင်သော အရာအားလုံးကို သင့်အတွက် ကျွန်ုပ် လုပ်ဆောင်ပေးပါမည်။ ကျွန်ုပ်၏အလုပ်သမားများ ကျေနပ် နှစ်သက်စေ ရန် ကျွန်ုပ် ဆန္ဒရှိပါသည်"

ရေးထိုးထားသော လက်မှတ်ကို ဖတ်၍မရပါ။ သို့သော် လက်မှတ်၏ဘေးတွင် အိပ်က်စ်ဌာနကြီးမှူး ဟု တံဆိပ်ရိုက်ထားသည်။

"ခဏနေဦး"

ကေက ဗာနေဗက်ကို ပြောလိုက်သည်။ ၎င်းက သူ့ရှေ့တွင် ခေါင်းညွှတ်ပြီး နေသည်။ ထို့နောက် ကေက တည်းခိုခန်းပိုင်ရှင်အား သူ့အခန်းကို လိုက်ပြ ရန် ပြောသည်။ သူက ကေနှင့်အတူ နှစ်ယောက်တည်း ရှိနေချင်သည်။ တစ်ချိန်တည်းမှာပင် ဗာနေဗက်သည် နှစ်လိုဖွယ်ရာရှိသူ တစ်ယောက် ဖြစ်သော်လည်း ၎င်းသည် တပ်သား တစ်ဦးမျှသာဖြစ်သည်။ ယင်းကြောင့် ၎င်း အတွက် ဘီယာတစ်ခွက် မှာပေးလိုက်သည်။ ဗာနေဗက် ဘယ်လိုတုံ့ပြန် မည်နည်းဟု ကေ ကြည့်နေသည်။ ဗာနေဗက်သည် အထူးပင် ကျေနပ်သွား ဟန်ဖြင့် ဘီယာကို ချက်ချင်းပင် စ၍သောက်တော့သည်။

ထို့နောက် ကေသည် တည်းခိုခန်းပိုင်ရှင်နှင့် ထွက်သွားသည်။ အိမ်ကလေးမှာ သေးငယ်လှသဖြင့် ကေအတွက် ခေါင်မိုးခန်းမှလွဲ၍ အခြား အခန်း မရှိပါ။ ယင်းအခန်း ကိုပင် လွယ်လွယ်နှင့် ရသည် မဟုတ်ပါ။ ယင်း အခန်းတွင် လောလောဆယ် အိမ်ဖော် နှစ်ယောက် နေသဖြင့် ၎င်းတို့ကို တစ်နေရာသို့ ရွှေ့ပေးရသည်။ သူ့အတွက် ဘာမျှ အထူးအထွေ စီစဉ်မပေးပါ။ အိမ်ဖော်နှစ်ယောက်ကို အခန်းထဲမှ ရှင်းလိုက်ခြင်းသာ ဖြစ်သည်။ သည့် အပြင်ကား ပြင်ဆင်ထားခြင်း မရှိပါ။ တစ်ယောက်အိပ် ခုတင်ပေါ်တွင် အိပ်ရာခင်းများ မရှိပါ။ ခေါင်းအုံး တစ်လုံးနှင့် စောင်ကြမ်းကြီးတစ်ထည် သာ ရှိသည်။ မနက်ကအတိုင်း တွန့်တွန့်ကြေကြေကြီး ဖြစ်သည်။ နံရံများ သာရှိသည်။ လေမဝင်ပါ။ သူတို့က ညေ့သစ်သည် အကြာကြီးနေမည် မဟုတ်ကြောင်း ယူဆထားကြမည်မှာ ထင်ရှားလှ၏။ ကေအတွက် ဘာမှ အားရကျေနပ်စရာ မရှိပါ။ သို့သော် ကေသည်

စိတ်ပျက်ခြင်းမရှိဘဲ စောင်ကို ခြုံလိုက်ပြီး စားပွဲမှာ ထိုင်လိုက်သည်။ ဖယောင်းတိုင် တစ်တိုင်၏ အလင်းရောင်တွင် စာကို ပြန်ဖတ်နေသည်။

တစ်သမတ်တည်းရှိသော စာတစ်စောင်မဟုတ်ပါ။ အကြောင်းမှာ တစ်ပိုင်းက သူ့ကို လွတ်လပ်သော လူတစ်ယောက်အဖြစ် ဆက်ဆံ ထားသည်။ သူ၏လွတ်လပ်မှုကို အသိအမှတ် ပြုထားသည်။ ဥပမာ သူ့ကို လိပ်မူထားပုံနှင့် သူ၏အလိုဆန္ဒကို ရည်ညွှန်းထားခြင်းတို့ ဖြစ်သည်။ သို့သော် နောက်ပိုင်းတွင် သူ့ကို သွယ်ဝိုက်၍သော် လည်းကောင်း၊ တိုက်ရိုက်သော် လည်းကောင်း အငယ်တန်း အလုပ်သမားတစ်ဦးအဖြစ် သဘောထားကာ ဆက်ဆံထားသည်။ ဌာနမှူးကို မတွေ့မြင်ရသလောက် ဖြစ်သည်။ စာရေးသူက သူ့အား {ပစ်မထားရန်} ကြိုးပမ်းထားသည်။ သူ၏အထက်လူကြီးသည် ကျေးရွာ ဥက္ကဋ္ဌဖြစ်သည်။ သူက ကျေးရွာဥက္ကဋ္ဌနှင့်သာ ဆက်ဆံရမည်။ သူ၏တစ်ဦးတည်းသော လုပ်ဖော်ကိုင်ဖက်သည် ကျေးရွာရဲတစ်ဦးသာ ဖြစ်ပေလိမ့်မည်။

တစ်သမတ်တည်းသဘော မဟုတ်သည်မှာ ယုံမှားသံသယ ရှိစရာ မလိုပါ။ သူတို့ မည်ကဲ့သို့ ရင်ဆိုင်မည်ဆိုသော အချက်မှာ သိသာထင်ရှားလှသည်။ သူတို့ အနေနှင့် မှားယွင်းဆုံးဖြတ်ခြင်း မဟုတ်ပါ။ ဤလိုအဖွဲ့ အစည်းမျိုးနှင့် ဆက်ဆံရသည်မှာ ရှုးသွပ်သည့်သဘောသာ ဖြစ်သည်။ သူက ၎င်းတို့အနေနှင့် ပွင့်ပွင့်လင်းလင်း ပေးထားသော ရွေးချယ်မှုကိုသာ ပြုလုပ်ရပေသည်။ ရဲတိုက်ကြီးနှင့် ထူးခြားသော ဆက်သွယ်မှုရှိသည့် ကျေးရွာအလုပ်သမားတစ်ဦးအဖြစ် လုပ်ဆောင်မည်လော၊ သို့မဟုတ် အပြင်ပန်းအားဖြင့် ကျေးရွာအလုပ်သမား တစ်ဦးဖြစ်ပြီး တကယ်တမ်းတွင် ဗာနေဗက် ယူဆောင်လာသော အကြောင်းကြားချက်များ အတိုင်း လုပ်ဆောင်ရသူ တစ်ဦးအဖြစ် လုပ်ဆောင်ရမည် လော။

ကေက ဤနှစ်ခုကို ရွေးချယ်ရာတွင် လုံးဝ တုံ့နှေးမှု မရှိပါ။ သူ ရောက်ရှိပြီး နောက်ပိုင်းတွင် ကြုံတွေ့ရသော အတွေ့အကြုံများ မရှိသည့်တိုင်လည်း တုံ့နှေးစရာ အကြောင်းမရှိပါ။ ရဲတိုက်ကြီးနယ်ပယ်နှင့် ဝေးနိုင်သမျှ ဝေးရာ သို့ အရွှေ့ခံရပြီး သာမန်ကျေးလက် အလုပ်သမားတစ်ဦး အနေနှင့် ရဲတိုက်ကြီးထဲမှာ အောင်မြင်မှုတစ်ခုခုရရှိရန် သူ မျှော်လင့်နိုင်ပါသလား။ ယခုပင် သူ့အပေါ်မှာ များစွာသံသယဝင်နေကြသော ကျေးရွာသားများသည် သူ့ကို သူတို့လို ရွာသားတစ်ဦးအနေဖြင့်သာ ဆက်ဆံကြပေ လိမ့်မည်။ သူသည် ဂါ စတက်ကာတို့၊ လက်ဆီမန်းတို့နှင့် ဘာမျှမထူးခြားတော့ပါ။ သူ့အတွက် ပွင့်နေသော လမ်းများအားလုံး ပိတ်သွားရုံတင်မက ရဲတိုက်က လူကြီးမင်း များ၏ အခွင့်အရေးပေးမှုကိုလည်း မမြင်တွေ့နိုင်တော့ပါ။

ဒါက အန္တရာယ်တစ်ခုပင်ဖြစ်သည်။ အထဲမှာ ရှင်းရှင်းလင်းလင်း ဖော်ပြ ထားသည်။ သူ့အနေနှင့် ဘယ်လိုမှ မရှောင်လွှဲနိုင်ပါ။ သူသည် အလုပ်သမား တစ်ဦး အဆင့်သို့ လျှောကျသွားသည်။ ပုဂ္ဂိုလ်ရေးရာ အမှာစကားများ ပါ နေသည့်တိုင်

သူတို့က အလုပ်ရှင်အဖြစ်နှင့် ရေးသားလိုက်ခြင်း ဖြစ်သည်။ အကယ်၍ ကေသည် အလုပ်သမားတစ်ဦး ဖြစ်လိုခဲ့လျှင် သည်အတိုင်းလုပ် ရန်ပင် ဖြစ်သည်။ အခြားမျှော်လင့်ချက် ဘာမှမရှိပါ။ အထဲမှာရေးထားသည့် စကားလုံးများက ရှင်းနေသည်။ {သင်သိပြီး ဖြစ်သည့်အတိုင်း} ဆိုသည့် စကားက သူ ရောက်ရှိကြောင်း သတင်းပို့ကတည်းက သူသည် မင်းကြီး၏အလုပ်တွင် ခန့်အပ်ပြီးဖြစ်ကြောင်းကို ရည်ညွှန်းထားခြင်း ဖြစ်သည်။

ကေသည် နံရံပေါ်မှ ရုပ်ပုံတစ်ခုကို ဖြုတ်ချလိုက်ပြီး စာကို သံချောင်းမှာ ဖောက်ချိတ် ထားလိုက်သည်။ ဤနေရာသည် သူနေသည့်အခန်းဖြစ်၍ စာသည် ထိုနေရာတွင် ရှိနေရမည်။

ထို့နောက် သူသည် တည်းခိုခန်း ဧည့်ခန်းသို့ ဆင်းသွားသည်။ ဗာနေဗက်သည် စားပွဲတစ်လုံးတွင် လက်ထောက်များနှင့်အတူ ထိုင်နေသည်။

"အိုး... မင်းတို့က ဒီမှာပါလား"

ကေက လွှတ်ခနဲ ပြောလိုက်သည်။ ဗာနေဗက်ကို တွေ့မြင်ရသဖြင့် ဝမ်းသာသွား၍ ဖြစ်သည်။ ဗာနေဗက်သည် ချက်ချင်းပင် မတ်တတ် ထရပ် လိုက်သည်။

ကေ၏မျက်နှာကို မြင်တွေ့လိုက်သည်နှင့် တစ်ပြိုင်နက် လယ်သမားတွေ စားပွဲမှ ထပြီး သူ့အနီးသို့ ဝိုင်းလာကြသည်။ သူ့နောက်ကို လိုက်ပြီး ဝိုင်းအုံ လာတတ်သည်မှာ သူတို့၏ အကျင့်ဖြစ်နေပေပြီ။

"ခင်ဗျားတို့ ကျုပ်နောက်ကို ဘာဖြစ်လို့ အမြဲတမ်း လိုက်နေကြတာလဲ"

ကေ အော်လိုက်သည်။ သူတို့ စိတ်ဆိုးကြပုံ မရပါ။ နောက်ကို တဖြည်းဖြည်း ဆုတ်သွားပြီး သူတို့နေရာတွင် ပြန်ထိုင်လိုက်ကြသည်။ သူ တို့အထဲက တစ်ယောက်က သူ့အနီးမှ ဖြတ်သွားရင်း မျက်နှာကြီး ပြုံးပြီး တောင်းပန်စကားပြောသည်။ အခြားသူ များလည်း ပြုံးနေကြသည်။

"နားထောင်စရာ သတင်းအသစ်တွေ အမြဲတမ်းကို ကြားရတယ်" သူက ဆက်ပြောရင်း သတင်းများသည် သူ့အတွက် အစားအသောက်များဖြစ်သည့်ပမာ နှုတ်ခမ်းကို လျှက်လိုက်သည်။ ကေက ကျေရာကျေကြောင်းစကား ဘာမျှပြန်မပြောပါ။ သူတို့အနေနှင့် သူ့အပေါ်တွင် ရှိသေလေးစားမှု အနည်းငယ် ရှိနေသည်မှာ ကောင်းသည့် အချက်ဖြစ်သည်။ သို့သော် ဗာနေ ဗက်အနီးသို့ သူ ရောက်ရုံပဲရှိသေးသည်၊ သူ့လည်ကုပ် ပေါ်သို့ လယ်သမား တစ်ယောက်က သက်ပြင်းရှူလိုက်သည်။ သူက ဆားပုလင်း လာယူတာပါ ဟု ပြောသည်။ ကေက ခြေထောက်ကို ဆောင့်လိုက်ရာ လယ်သမားသည် ဆားပုလင်းမပါဘဲ သုတ်သီးသုတ်ပျာ ပြန်ထွက်သွားသည်။ ကေအနေနဲ့ လွယ်ကူသည့် အလုပ်တစ်ခု ရှိပါသည်။ ယင်းမှာ လယ်သမားတွေ သူ့ကို ဆန့်ကျင်လာအောင် နှိုးဆွ လိုက်ဖို့ပင် ဖြစ်သည်။ သူတို့အနေနှင့် သူ့ကို ကပြ ကြသည်။ နှောင့်ယှက်နေခြင်းသည် သူ့အဖို့ လက်မခံနိုင်စရာ ဖြစ်သည်။ အခြားသူများအတွက် ခွင့်ပြုမထားနိုင်ပါ။ သူတို့ကတော့ ခွင့်ပြုနိုင်ကြမည်လား။ သူတို့၏စားပွဲတွင် သူ သွားထိုင်လျှင် သူတို့ ထွက်သွား

ကြမည်လား။ ဗာနေဗက်ရှိနေသဖြင့်သာ သူက ထိုကဲ့သို့ မပြုလုပ်ရန် ထိန်းချုပ်ထားလိုက်သည်။

သူက ၎င်းတို့ကို အော်ငေါက်ပစ်ရန် လှည့်ကြည့်လိုက်သောအခါ သူတို့က သူ့ကို ကြည့်နေကြသည်။ သူတို့အချင်းချင်း ဘာမှမပြောကြဘဲ သူတို့အားလုံး တညီတညွတ်တည်း သူ့ကို ငေးကြည့်နေကြခြင်း ဖြစ်သည်။ သူ တို့သည် မကောင်းသော စိတ်ထားဖြင့်မဟုတ်ဘဲ တကယ်ပင် သူ့ထံမှ တစ်ခုခု အလိုရှိသဖြင့် ကြည့်ရှုနေကြခြင်း ဖြစ်သည် ဟူသော ကောက်ချက်ချလိုက်သည်။ သို့မဟုတ် တည်းခိုခန်းများထုံးစံ အတိုင်း ကလေးဆန်ကြခြင်းပဲ ဖြစ်နိုင်သည်။ တည်းခိုခန်း ပိုင်ရှင်သည်ပင်လျှင် တစ်စုံ တစ်ယောက်ထံ သွားပို့ရမည့် ဘီယာခွက်ကို ကိုင်ကာ သူ့ကို ငေးကြည့်နေသည်။ မီးဖိုချောင်တံခါးကို မှီပြီး ရပ်နေသော သူ့မိန်းမထံ ပို့ရမည့် ဘီယာဖြစ်သည်။

ကေသည် စိတ်တည်ငြိမ်သွားဟန်ဖြင့် ဗာနေဗက်ဘက်သို့ လှည့်လိုက်သည်။ သူ့လက်ထောက် နှစ်ယောက်ကို ထွက်သွားစေချင်သည်။ သို့သော် ဘယ်လိုပြောရမည်မသိ။ ထို့ပြင် သူတို့သည် ဘီယာကိုသောက်ရင်း အေးအေးဆေးဆေး ရှိနေကြသည်။

"စာကို ကျွန်တော် ဖတ်ပြီးပြီ။ အထဲမှာ ဘာတွေပါတယ်ဆိုတာ ခင်ဗျား သိသလား"

ကေက မေးလိုက်သည်။

"မသိပါဘူး"

သူ့အမူအရာက သူ့စကားထက် ပိုပြီးရှင်းနေသည်။ ကေသည် လယ်သမားတွေ၏ အပြုအမူကြောင့် ဗာနေဗက်အပေါ် အမြင်မှားနေခြင်းဖြစ်နိုင်သည်။ တကယ်တော့ သူ ရှိနေခြင်းက စိတ်သက်သာဖွယ်ရာ ဖြစ်သည်။

"စာထဲမှာ ခင်ဗျားအကြောင်းပါတယ်။ ခင်ဗျား ကျွန်တော့်ဆီက အမှာစကားတွေကို ဌာနမှူးဆီကို မကြာခဏ ပို့ပေးရမယ်။ ဒါကြောင့်မို့လို့ အထဲမှာ ဘာတွေပါတယ် ဆိုတာ ခင်ဗျား သိလိမ့်မယ်လို့ ကျွန်တော် တွက်ခဲ့ တယ်"

"ကျွန်တော့်ကို မှာလိုက်တာက ခင်ဗျားကို စာပေးပြီး စာကိုဖတ်ပြီးသွား တဲ့အထိ စောင့်နေတဲ့။ တကယ်လို့ ခင်ဗျားက တစ်ခုခု စကားပြန်လိုက်ရင်၊ ဒါမှမဟုတ် စာရေးပေးလိုက်ရင် ယူသွားဖို့ပဲ"

"ဟုတ်ပြီ စာရေးပေးစရာ မလိုဘူး။ ပါးစပ်ကသာ ပြောလိုက်ပါ။ ဒါနဲ့ စကားမစပ် ဌာနမှူးနာမည်က ဘယ်သူတဲ့လဲ။ သူ့လက်မှတ်ကို ကျွန်တော် ဖတ်လို့မရဘူး"

"ကလမ်"

ဗာနေဗက် ဖြေသည်။

"ကောင်းပြီ။ ဟာကလမ်ကို ပြောလိုက်ပါ။ ကျွန်တော့်ကို အသိအမှတ်ပြုတဲ့ အတွက်နဲ့ သူ့ရဲ့ မေတ္တာတရားအတွက် ကျေးဇူးတင်ပါတယ်လို့။ ကျွန်တော့်ကို

ဘယ်သူကမှ ဒီမှာ အသိအမှတ် မပြုကြဘူး။ သူ့ညွှန်ကြားချက်တွေ ကို ကျွန်တော် သေသေချာချာ လိုက်နာပါ့မယ်။ ကနေ့အတွက်တော့ ကျွန်တော့်အနေနဲ့ ဘာမှ အထူးအထွေ ပြောစရာ မရှိပါဘူး"

ဗာနေဗက်က ဂရုတစိုက် နားထောင်ပြီးနောက် ကျွန်တော်၏ အမှာစကား ကို ပြန်လည်ရွတ်ကြားရန် တောင်းပန်သည်။ ကျွန်တော်က သဘောတူ လိုက်သောအခါ သူက အမှာစကားကို တစ်လုံးချင်း ပြန်ရွတ်ပြသည်။ ထို့နောက် သူက ပြန်ရန် ထလိုက်သည်။

ကေက သူ့မျက်နှာကို တစ်ချိန်လုံး လေ့လာလျက်ရှိသည်။ ယခုအခါ နောက်ဆုံး လေ့လာလိုက်သည်။ ဗာနေဗက်သည် ကေနှင့် အရပ်အမောင်း အတူတူ လောက်ပင်ဖြစ်သည်။ သို့သော် သူ့မျက်လုံးများက ကေကို ငုံ့ပြီး ကြည့်နေသည်။ ယင်းသို့ကြည့်ခြင်းမှာ ရိုကျိုးစွာနှင့်ဖြစ်သည်။ ဤလူသည် အခြားသူတစ်ယောက်ကို အရှက်ခွဲမည့်ပုံစံမျိုး လုံးဝမရှိပါ။ သူသည် ဆက် သားတစ်ယောက်သာဖြစ်သည်။ သူ ယူလာသော စာထဲတွင် ဘာတွေ ပါသည်ကို သိပုံမရပါ။ သို့သော် သူ၏မျက်လုံးတွင် ဖော်ပြနေသည်များ၊ သူ့ အပြုံးနှင့် သူ့အမူအရာတို့သည် အမှာစကားတစ်ခုကို ပြောပြနေ သကဲ့သို့ ဖြစ်သည်။ ကေက သူ့ကို လက်ဖြင့် ဆုပ်ကိုင်လိုက်သည်။ ယင်းအတွက် သူ အံ့အားသင့်သွားပုံ ရသည်။ အကြောင်းမှာ သူက ဦးညွှတ်ပြီး အရိုအသေပြု ရန် ပြင်ဆင်နေသောကြောင့် ဖြစ်သည်။

ဗာနေဗက်သည် တံခါးကိုမဖွင့်ခင် တံခါးကို ပခုံးနှင့် မှီပြီး ရပ်နေ၏။ အခန်းကို နောက်ဆုံးအနေနှင့် တစ်ချက်ကြည့်လိုက်သည်။ ဗာနေဗက်ထွက် သွားသည်နှင့်တစ်ပြိုင်နက် ကေက သူ့လက်ထောက်တွေကို ပြောလိုက်သည်။

"လုပ်ငန်းအစီအစဉ်တွေကို ငါ အခန်းထဲမှာ စဉ်းစားလိုက်မယ်။ အဲဒီတော့ မှ ငါတို့ ဘာကို အရင်ဆုံးလုပ်ရမယ် ဆိုတာ ဆွေးနွေးကြမယ်"

သူတို့က သူနဲ့အတူလိုက်ပါလိုကြဟန်ရှိသည်။

"ဒီမှာပဲနေကြ"

ကေ ပြောလိုက်သည်။

သူတို့က လိုက်ပါလိုဆဲပင် ရှိနေကြသည်။ ကေက သူ့အမိန့်ကို အာဏာသံ အပြည့်ဖြင့် ပြောလိုက်ရသည်။

ဗာနေဗက် အခန်းထဲမှာ မရှိတော့ပါ။ သို့သော် သူသည် ထွက်သွားခါစပဲ ရှိသေးသည်။ သို့သော်လည်း တည်းခိုခန်းအပြင်ဘက်တွင် နှင်းတွေ ကျနေ သဖြင့် ကေ သူ့ကို မမြင်တွေ့ရတော့ပါ။

ကေ အော်ခေါ်လိုက်သည်။

"ဗာနေဗက်"

ပြန်ထူးသံ မကြားရပါ။ သူ တည်းခိုခန်းထဲမှာပင်ရှိနေသေးသလော၊ မည်သည့် နည်းနှင့်မျှ မဖြစ်နိုင်ပါ။ မည်သို့ပင်ဖြစ်စေ ကေက အသံကုန် အော် ခေါ်လိုက်သည်။ ညအတွင်းသို့ တုန်ဟည်း သွားသည်။ အဝေးဆီမှ သဲ့သဲ့ ကလေး

ထူးသံ ကြားရသည်။ ဗာနေဗက်သည် တော်တော်ဝေးဝေးသို့ ရောက်သွားချေပြီ။ ကေက သူ့ကို ထပ်ခေါ် လိုက်ပြီး တစ်ချိန်တည်းမှာပင် သူနှင့်တွေ့ရန် လျှောက်သွားသည်။ သူတို့နှစ်ယောက် တွေ့သည့်နေရာကို တည်းခိုခန်းမှ မမြင်တွေ့နိုင်ပါ။

"ဗာနေဗက်" ကေက သူ့အသံ မတုန်အောင် မထိန်းနိုင်ဘဲဖြစ်နေသည်။"ခင်ဗျားကို ကျွန်တော် ပြောစရာတစ်ခုရှိတယ်။ ရဲတိုက်ကြီးကို အမှာစကားပါးနိုင်ဖို့ အတွက် ခင်ဗျားအလာကို ကျွန်တော် စောင့်နေရမယ့် အလုပ်က မကောင်းတဲ့ အစီအစဉ် တစ်ခုပဲ။ ခင်ဗျားကိုသာ ကျွန်တော် အခု လို လိုက်မမီခဲ့ရင် ခင်ဗျားက ဘယ်လိုလုပ်ပြီး အမြန်ကြီး ထွက်သွားရတာ လဲ။ ကျွန်တော်က ခင်ဗျား တည်းခိုခန်းထဲမှာ ရှိနေသေးတယ်လို့ ထင်တာ။ ခင်ဗျား နောက်တစ်ခေါက်ကို ကျွန်တော် ဘယ်လောက်အကြာကြီး စောင့် နေရမယ်ဆိုတာကို ဘယ်သူသိနိုင်မှာလဲ"

"ဌာနမှူးကို ခင်ဗျား မေးနိုင်တာပဲ။ ခင်ဗျားချိန်းတဲ့အချိန်မှာ ကျွန်တော် လာအောင် ပြောနိုင်တယ်"

ဗာနေဗက်က ပြောသည်။

"အဲဒီလောက်နဲ့ မလုံလောက်ဘူး။ ကျွန်တော်က တစ်နှစ်လောက်ကြာအောင် ဘာမှပြောစရာ မရှိတာလည်း ဖြစ်နိုင်တယ်။ ဒါပေမဲ့ ခင်ဗျားထွက် သွားပြီး ဆယ့်ငါးမိနစ် လောက်အကြာမှာ အရေးကြီးတဲ့ ပြဿနာတစ်ခုလည်း ဖြစ်နိုင်တယ်"

- "ဟုတ်ပြီ၊ ဒါဆိုရင် ကျွန်တော်ကလွဲပြီး ခင်ဗျားနဲ့ သူနဲ့ကြားမှာ တခြား ဆက်သွယ်ရေး နည်းလမ်းတစ်ခု ထားသင့်တယ်လို့ ဌာနမှူးကို ကျွန်တော် သတင်း ပို့ရမလား"

"မဟုတ်ဘူး မဟုတ်ဘူး၊ အဲဒီလိုမျိုးမဟုတ်ဘူး။ ကျွန်တော်က ပြီးသွားတဲ့ ကိစ္စကို ပြောတာ။ ဒီတစ်ကြိမ်မှာ ကျွန်တော် လိုက်မိတာ ကံကောင်းတယ်"

"ကျွန်တော်တို့ တည်းခိုခန်းကို ပြန်ကြမလား။ ဒါမှ ခင်ဗျား အဲဒီမှာ ကျွန်တော့်ကို အမှာစကားအသစ် ပေးနိုင်မှာ"

ဗာနေဗက်က ပြောပြောဆိုဆိုပင် တည်းခိုခန်းသို့ ခြေလှမ်းဆုတ်လိုက်ပြီ ဖြစ်သည်။

"အဲဒီကိုပြန်ဖို့ မလိုဘူး။ ကျွန်တော် ခင်ဗျားနဲ့အတူ အတော်ကလေး ဝေး တဲ့ အထိ လိုက်ခဲ့မယ်"

"ခင်ဗျားက ဘာဖြစ်လို့ တည်းခိုခန်းကို မပြန်ချင်တာလဲ"

ဗာနေဗက် မေးသည်။

"အဲဒီမှာရှိတဲ့လူတွေက ကျွန်တော့်ကို စိတ်အနှောင့်အယှက် ပေးတယ်။ လယ်သမားတွေ ဘယ်လောက် ပေကတ်တယ်ဆိုတာ ခင်ဗျား အတွေ့ပဲ"

ခင်ဗျားအခန်းကို ကျွန်တော်တို့ သွားနိုင်တယ်"

"အဲဒါက အိမ်ဖော်တွေရဲ့အခန်းပဲ။ ညစ်ပတ်ပြီး ပြည့်ကျပ်နေတာပဲ။

အဲဒါကြောင့် အဲဒီမှာ မနေရအောင် ကျွန်တော် ခင်ဗျားနဲ့ အတော်ကလေးကြာအောင် လိုက်ခဲ့မယ်။ တစ်ခုပဲရှိတယ်။ ကျွန်တော့်ကို လက်တွဲပြီး ခေါ်ပါ။ ခင်ဗျားက ကျွန်တော့် ထက် ခြေမြဲတယ်"

ထို့နောက် ကေက ဗာနေဗက်၏လက်ကို တွဲကိုင်လိုက်သည်။ ညက အရမ်းမှောင်နေသည်။ ဗာနေဗက်၏ မျက်နှာကို ကေ မမြင်ရပါ။ သူ့ ကိုယ်ခန္ဓာကိုသာ ရေးရေးလေး တွေ့မြင်ရသည်။ ထို့ကြောင့် သူ့လက်ကို ဆွဲကိုင်နိုင်ဖို့ တစ်မိနစ် နှစ်မိနစ်ခန့် စမ်းယူ ရသည်။

ဗာနေဗက် အလျှော့ပေးလိုက်သည်။ သူတို့နှစ်ယောက် တည်းခိုခန်းနှင့် ဝေးရာသို့ လျှောက်သွားကြသည်။ ကေ ဘယ်လောက်ပဲ ကြိုးစားပြီး လျှောက်သည် ဖြစ်စေ ဗာနေဗက်၏ ခြေလှမ်းများကို မမီပါ။ သူက တရှွတ် တိုက်ပြီး ပါသွားနေသည်။ သို့သော် ဗာနေဗက်က ဘာမျှမပြောဘဲ နှုတ် ဆိတ်နေသဖြင့် သူ ကျေနပ်နှစ်သက် ရသည်။ ဤခရီးသည် သူတို့နှစ်ဦးကို ပေါင်းဖက်စေသည့် အဓိကအကြောင်းရင်းပင် ဖြစ်သည်။

သူတို့ ဆက်ပြီး လျှောက်သွားနေကြသည်။ သို့သော် ဘယ်ကိုသွားနေမှန်း ကေ မသိပါ။ သူ့အနေနှင့် ဘာမျှ မခွဲခြားနိုင်ပါ။ သူတို့ ဘုရားကျောင်းကို လွန်ခဲ့သလား၊ မလွန်သေးဘူးလား ဆိုသည်ကိုပင် မသိပါ။ ကေသည် ကြိုးစားအားထုတ်ပြီး သွားနေ ရသဖြင့် သူ၏ စိတ်အစဉ်ကို မထိန်းနိုင်တော့ပါ။ စိတ်အစဉ်က လွင့်ပျံ့နေသည်။ သူ့မြို့ ကလေးကို အမှတ်ရသည်။ သူ့မြို့ကလေး၏ ဈေးပိုင်းမှာလည်း ဘုရားကျောင်း တစ်ကျောင်းရှိသည်။ သင်္ချိုင်းဟောင်းတစ်ခုက ဝန်းရံထားသည်။ ယင်းသင်္ချိုင်းကိုလည်း အုတ်

တံတိုင်းအမြင့်ကြီးက ကာရံထားသည်။ ယင်းတံတိုင်းကြီးကို ကောင်ကလေး အနည်းငယ်ကသာ တက်နိုင်သည်။ ကေလည်း ရံဖန်ရံခါ တက်နိုင်ပြီး မတက်နိုင်သည့် အခါများလည်း ရှိသည်။

တံတိုင်းပေါ်ကိုတက်ကြသည်မှာ စပ်စုစရာရှိ၍မဟုတ်ပါ။ သင်္ချိုင်းသည် သူတို့အတွက် အထူးတဆန်း မဟုတ်ပါ။ သူတို့သည် မကြာခဏပဲ မလွယ်ပေါက် ကလေးတစ်ခုမှနေပြီး သင်္ချိုင်းအတွင်းသို့ ဝင်ရောက်ခဲ့ကြသည်။ သူတို့ အောင်မြင်စွာ တက်ရောက်လိုသည်က ချောမွတ်သော တံတိုင်းတစ်နေရာဖြစ်သည်။ သို့သော် တစ်မနက်တွင်တော့ လူရှင်းနေ သော ဈေးပိုင်းတွင် နေရောင်ခြည် ဖြာနေပါသည်။ ယင်းမြင်ကွင်းမျိုးကို ကေ အရင်က မြင်တွေ့ဖူးပါသလား၊ နောင်တွင်ရော မြင်တွေ့ဖူးပါ့မလား။ သူက အလွယ်တကူပင် တံတိုင်းကို တက်ရောက်နိုင်ခဲ့သည်။ သူက ပါးစပ်တွင် အလံတစ်ခုကို ကိုက်ပြီး ယခင်က အကြိမ်ပေါင်းများစွာ ချော်ကျခဲ့သော တံတိုင်းကို ယခုအခါ ပထမ အကြိမ် ကြိုးစားစဉ်မှာပင် အောင်မြင်စွာ တက်ရောက်နိုင်ခဲ့သည်။ သူ၏ခြေထောက်မှ ကျောက်တုံးများ ဒေါက်ဒေါက် မြည်နေသော်လည်း သူသည် တံတိုင်းထိပ်သို့ ရောက်သွား ပါသည်။ သူက အလံကို ထိပ်မှာ စိုက်လိုက်သည်။ အလံသည် လေထဲတွင် တဖျပ်ဖျပ်ဖြစ်နေသည်။ သူက

အောက်ကို ငုံ့ကြည့်လိုက်သည်။ ဘေး ပတ်ပတ်လည်ကို ကြည့်လိုက်သည်။ မြေပြင်ပေါ်မှ သစ်ချိုင်း လက်ဝါးကပ်တိုင်များကို ကြည့်လိုက်သည်။ ထိုနေရာတွင် ထိုအချိန်တွင် သူ့ လောက်ကြီးကျယ်သူ တစ်ယောက်မျှမရှိပါ။

အကြောင်းအားလျော်စွာ သူ၏ဆရာသည် ထိုနေရာမှ ဖြတ်သွားသည်။ ဆရာ၏ ခက်ထန်သော အကြည့်ကြောင့် ကေ ပြန်ဆင်းရသည်။ ခုန်ချလိုက်သောအခါ သူ့ဒူး နာသွားသည်။ အိမ်ပြန်ရောက်အောင် မနည်းလျှောက်ရသည်။ သို့သော် တံတိုင်းထိပ်ကို သူ ရောက်ခဲ့သည်။ ယင်းအောင်မြင်မှုသည် သူ့ဘဝ၏ အောင်ပွဲပင် ဖြစ်သည်။ ယခုနှစ်ပေါင်းများစွာ အကြာ နှင်းတော ထဲတွင် ဗာနေဗက် လက်မောင်းကို ကိုင်ပြီး သွားနေရသောအခါ ယင်းသို့ အမှတ်ရနေမှုသည် သူ့ကို အများကြီး အထောက်အကူ ပြုတော့သည်။

သူက ပိုပြီး တင်းတင်းကျပ်ကျပ် ဆုပ်ကိုင်ထားလိုက်သည်။ ဗာနေဗက်က သူ့ကို ဆွဲခေါ် သွားနေသည်။ တိတ်ဆိတ်မှုကို မဖြိုခွင်းပါ။ သူတို့လျှောက်နေ သော လမ်းသည် လမ်းမျက်နှာပြင်ကို ထောက်ချင့်ခြင်းအားဖြင့် သူတို့သည် လမ်းချိုင့်ကလေး ထဲသို့ မဝင်သေးကြောင်း သတိပြုမိသည်။ သူ သွားရ သည်မှာ ဘယ်မျှပင်ပန်းသည် ဖြစ်စေ သူ စိတ်မလျှော့ပါ။ သူ တရွတ်တိုက် ပြီး ပါသွားနိုင်ရန်အတွက် သူ့မှာ အင်အား အပြည့်ရှိနေပါသည်။ တစ်ချိန် ချိန်ကျလျှင် လမ်းဆုံးသို့ ရောက်ပေလိမ့်မည်။ နေ့ခင်းဘက် ရောက်လျှင် ရဲတိုက်ကြီးအနီးသို့ ရောက်ရှိပေလိမ့်မည်။ ဆက်သားက သူ့ကို အတိုဆုံး ဖြတ်လမ်းမှ ခေါ်ဆောင်သွားနေခြင်း ဖြစ်ပေသည်။

ထိုအချိန်မှာပင် ဗာနေဗက် ရပ်လိုက်သည်။ သူတို့ ဘယ်ရောက်နေပြီနည်း။ လမ်းဆုံးသို့ ရောက်ချေပြီလော။ ဗာနေဗက် သူ့ကို ထားပစ်ခဲ့တော့ မည်လော။ သူ မအောင်မြင်ပါ။ သူက ဗာနေဗက်၏ လက်ကို ပိုပြီးတင်းတင်း ဆုပ်ကိုင်လိုက်သည်။ သူ့လက်များ နာသွားသည်အထိ ဖြစ်သည်။ သို့မဟုတ် မယုံကြည်နိုင်စရာ တစ်ခု ဖြစ်ချေပြီလား။ သူတို့ ရဲတိုက်ထဲကို ရောက်နေပြီလား။ သို့မဟုတ် တံခါးပေါက်တစ်ခုကို ရောက်နေပြီလား။ သို့သော် ယခုအထိတော့ သူတို့သည် အမြင့်ကို မတက်ခဲ့ရသေးပါ။ သို့မဟုတ် ဗာနေဗက်က သူ့ကို မသိမြင်နိုင်သော တောင်တက်လမ်း တစ်ခုမှ ခေါ်ဆောင် ခဲ့သလား။

"ကျွန်တော်တို့ အခု ဘယ်ရောက်နေပြီလဲ"

ကေ အသံတိုးတိုးဖြင့် မေးလိုက်သည်။ ဗာနေဗက်ကို မေးသည်ထက် သူ့ ကိုယ်သူ မေးသလိုမျိုး ဖြစ်သည်။

"အိမ်ရောက်နေပြီ"

ဗာနေဗက် ခပ်တိုးတိုးပင် ပြန်ပြောသည်။

"အိမ် ဟုတ်လား"

"သတိထားပါ၊ ခင်ဗျား ချော်လဲလိမ့်မယ်။ ကျွန်တော်တို့ အောက်ကို ဆင်း ကြမယ်"

"အောက်ကို ဟုတ်လား"

"လှေကား တစ်ထစ် နှစ်ထစ်လောက်ပါ"

ဗာနေဗက် ယင်းသို့ပြောရင်း တံခါးတစ်ခုကို ခေါက်နေတော့သည်။

မိန်းကလေးတစ်ယောက်က ဖွင့်ပေးသည်။ သူတို့သည် မှောင်မည်းနေသော အခန်းကြီး တစ်ခု၏ တံခါးပေါက်ဝတွင် ရောက်ရှိနေကြသည်။ နောက်ဘက်ရှိ စားပွဲ တစ်လုံးပေါ်တွင် ချိတ်ဆွဲထားသော မှန်အိမ်ကလေး၏ အလင်းရောင်မှတစ်ပါး ဘာအလင်းရောင်မှ မရှိပါ။

"အစ်ကိုနဲ့ပါလာတာ ဘယ်သူလဲ ဗာနေဗက်"

မိန်းကလေးက မေးသည်။

"မြေတိုင်းစာရေး"

"မြေတိုင်းစာရေး"

မိန်းကလေးက အသံကျယ်ကျယ်ဖြင့် သံယောင်လိုက်လိုက်ပြီး စားပွဲဆီသို့ ကြည့်လိုက်သည်။ စားပွဲတွင် ယောကျ်ားကြီးတစ်ယောက်၊ မိန်းမကြီးတစ် ယောက်နှင့် မိန်းကလေး တစ်ယောက် ထိုင်နေသည်။

သူတို့က ကေကို နှုတ်ဆက်ကြသည်။

ဗာနေဗက်က သူ့မိသားစု တစ်စုလုံးနှင့် မိတ်ဆက်ပေးသည်။ သူ့မိဘနှစ်ပါး အပြင် သူ့ညီမများ ဖြစ်သော အော်လဂါနှင့် အမာလီယာတို့နှင့် ဖြစ်သည်။

ကေက သူတို့ကို မသိမသာ လှမ်းကြည့်လိုက်ပြီး စွတ်စိုနေသော သူ၏ ကုတ်အင်္ကျီကို ချွတ်ယူပြီး မီးဖိုကင်တွင် ကင်ချွင့်တောင်းလိုက်သည်။

ယင်းသို့ဖြင့် အိမ်ကို ရောက်ရှိသူမှာ ဗာနေဗက်သာဖြစ်ပြီး သူကိုယ်တိုင် မဟုတ်ပါ။ သို့သော် သူတို့ အဘယ်ကြောင့် ဒီကိုလာကြသနည်း။

ကေက ဗာနေဗက်ကို ဘေးသို့ဆွဲပြီး မေးလိုက်သည်။

"ခင်ဗျား ဒီကိုဘာလို့လာတာလဲ။ ဒါမှမဟုတ် ရဲတိုက်နယ်မြေထဲမှာ ခင်ဗျား နေတာလား"

"ရဲတိုက်နယ်မြေ"

"ဒီမယ် ဗာနေဗက်၊ ခင်ဗျား တည်းခိုခန်းက ထွက်ခဲ့တာနဲ့ ရဲတိုက်ကြီးကို သွားမလို့ မဟုတ်လား"

"မဟုတ်ဘူး၊ ကျွန်တော် အဲဒီက ထွက်ခဲ့တာ အိမ်ပြန်မလို့ပဲ။ မနက်ဖြန် မနက် အစောကြီးအထိ ကျွန်တော် ရဲတိုက်ကို မသွားဘူး။ ကျွန်တော် အဲဒီမှာမအိပ်ဘူး"

"အိုး ရဲတိုက်ရှိရာ ရဲတိုက်လမ်းကို မသွားဘဲ ဒီကိုလာတာ၊ ခင်ဗျား ဘာဖြစ်လို့ အဲဒီလို မပြောရတာလဲ"

"ခင်ဗျားကမှ မမေးဘဲကိုး။ ခင်ဗျားက ကျွန်တော့်ကို အမှာစကား ပေး စရာ ရှိတယ်လို့ပဲ ပြောတယ်။ တည်းခိုခန်း ခန်းမကြီးမှာ မပြောချင်ဘူး။ ခင်ဗျားရဲ့ အခန်းမှာလည်း မပြောချင်ဘူး။ အဲဒီတော့ ခင်ဗျားအနေနဲ့ ကျွန်တော့်ကို

အေးအေးဆေးဆေး ပြောနိုင်အောင် ကျွန်တော့်မိဘအိမ်ကို ခေါ်လာခဲ့တာပဲ။ ခင်ဗျားက ရှောင်စေချင်ရင် အိမ်သားတွေ ရှောင်ပေးကြလိမ့်မယ်။ နောက်ပြီး ခင်ဗျားနေချင်တယ်ဆိုရင် ဒီည ဒီမှာ နေနိုင်တယ်။ ကျွန်တော်လုပ်တာ မဟုတ်ဘူးလား"

ကေ ဘာမှပြန်မပြောနိုင်ပါ။ ဤကိစ္စသည် နားလည်မှု လွဲမှားခြင်းသာ ဖြစ်သည်။ သာမန် နားလည်မှု လွဲမှားခြင်းဖြစ်သည်။ သူ့အား ဗာနေဗက်၏ ငွေရောင်တောက်နေသော ဂျက်ကက်အင်္ကျီက လှည့်ဖြား ဖမ်းစားခဲ့သည်။ ယခုအခါ ဂျက်ကက် အင်္ကျီကြယ်သီးများ ဖြုတ်ထားသောအခါ အဖာအထေးတွေ ပြည့်နေသော ရှပ်အင်္ကျီ ကြမ်းကြီးကို တွေ့ရသည်။ ယင်း အင်္ကျီ၏အောက်တွင်ကား အလုပ်ကြမ်းသမား တစ်ယောက်၏ ဖောင်းမြွကသော ရင်အုံကြီး ဖြစ်သည်။ သူ၏ပတ်ဝန်းကျင်ကလည်း ယင်းအဖြစ်နှင့် လိုက်ဖက်ရုံသာမက ပို၍ပင် ပေါ်လွင်လာတော့သည်။ သူ့ဖခင် အဘိုးကြီးသည် ခြေထောက်များ မကောင်းသဖြင့် စမ်းတဝါးဝါး လျှောက်နေရသည်။ သူ့မိခင်ကလည်း တုတ်တုတ်ခိုင်ခိုင်ကြီး ဖြစ်၍ ဖြည်းဖြည်းချင်းသာ လျှောက်နိုင်သည်။ အဘိုးကြီးနှင့် အဘွားကြီးသည် ကေ ဝင်လာကတည်းက သူ့ထံသို့ လာနေကြသည်မှာ သူ့အနီးရောက်ဖို့ အများကြီး လိုသေးသည်။ ဆံပင်အဝါနှင့် ညီအစ်မနှစ်ယောက် ကလည်း သူတို့ချင်း ဆင် တူသလို သူတို့အစ်ကိုနှင့်လည်း ဆင်တူလှသည်။ သူတို့ အစ်ကိုထက် ပိုရုပ် ကြမ်းပုံရသည်။ သူတို့မိဘများအနား ရစ်သီနေပြီး ကေက နှုတ်ဆက်သည် ကို စောင့်စားနေကြသည်။ သို့သော် ကေက နှုတ်ဆက်စကား မဆိုပါ။

သည်ရွာရှိ လူများအားလုံးက သူ့ကို တစ်နည်းမဟုတ် တစ်နည်းဖြင့် ဆွဲဆောင်နေကြသည်။ အကြောင်းမှာ သူက ဘယ်သူ့ကိုမှ စိတ်မဝင်စားသော ကြောင့် ဖြစ်သည်။ အကယ်၍သာ သူ့မှာ တည်းခိုခန်းသို့ ပြန်သွားနိုင်သော ကျန်းမာနေသော အနေအထားရှိလျှင် သူက ချက်ချင်းပင် ပြန်သွားမည် ဖြစ်သည်။ မနက်ဖြန်မနက်ကျလျှင် ဗာနေဗက်နှင့်အတူ ရဲတိုက်ကြီးသို့ လိုက်သွားနိုင်သော အခြေအနေရှိသော်လည်း ယင်း အချက်က သူ့ကို မဆွဲ ဆောင်ပါ။ သူက ဗာနေဗက်၏ လက်ကိုတွဲပြီး ညကြီးမင်းကြီးမှာ ရဲတိုက်ကြီးထဲသို့ ရောက်သွားလိမ့်မည်ဟု ထင်ခဲ့သည်။ သူက ဗာနေဗက်ကို သူ၏ အဆင့်အတန်းထက်ပိုပြီး အထင်ကြီးခဲ့ခြင်းသာ ဖြစ်သည်။ သို့သော် ရဲတိုက်ကြီးထဲတွင် ညအိပ်ခွင့် မရှိသော လူတစ်ယောက်သည် နေ့အချိန်မှာ ရဲတိုက်ကြီးထဲသို့ ဝင်ရောက်နိုင် ရန်မှာ မဖြစ်နိုင်ပါ။ မျှော်လင့်ချက် မရှိသော အလုပ်တစ်ခုသာ ဖြစ်သည်။

ကေသည် ပြတင်းပေါက် တစ်ခုနားက ထိုင်ခုံတွင် ထိုင်လျက်ရှိသည်။ သူသည် နောက်ထပ် ဘာအခွင့်အရေးမှမယူဘဲ ထိုနေရာမှာ တစ်ညလုံး ထိုင်သွားမည်သာ ဖြစ်သည်။ သူတို့က ထမင်းစားပွဲတွင် ညစာစားရန်ခေါ်ကြသည်ကို သူက မသိ ကျိုးနွံပြုပြီး သူ၏ထိုင်ခုံတွင် ခေါင်းငုံ့ပြီး ထိုင်နေသည်။

ညီအစ်မနှစ်ယောက်အနက် ပို၍ သိမ်မွေ့နူးညံ့ဟန်ရှိသော အော်လဂါသည် အပျိုတစ်ယောက်၏ ရှက်ရွံ့ခြင်းမျိုးမရှိဘဲ ထိုင်ရာမှ ထလာပြီး ကေ အား ပေါင်မုန့်နှင့် ဝက်ပေါင်ခြောက် စားရန် ဖိတ်ခေါ်သည်။ သူမက သူ့ အတွက် ဘီယာသွားယူလာ မည်ဟု ဆိုသည်။

"ဘယ်က သွားယူမှာလဲ" ကေက မေးလိုက်သည်။ "တည်းခိုခန်းက" သူမက ပြန်ပြောသည်။

ဤသည်မှာ ကေအတွက် သတင်းကောင်းဖြစ်သည်။ သူ့အတွက် ဘီယာ ယူလာပေးမည့်အစား သူ့ကို တည်းခိုခန်းသို့ ပြန်ပို့ပေးရန် ကေက သူမကို တောင်းပန် လိုက်သည်။ တည်းခိုခန်းမှာ လုပ်စရာအလုပ်တွေ ရှိနေသည်ဟု ပြောလိုက်သည်။ သို့သော် အဖြစ်မှန်က သူမသည် သူ၏တည်းခိုခန်းအထိသွားမည်မဟုတ်ဘဲ အနီး အနားတွင်ရှိသော {ဟာရင်ဟော့} တည်းခိုခန်းသို့ သွားမည်ဖြစ်သည်။

မည်သို့ပင်ဖြစ်စေ ကေက သူမနှင့်အတူ လိုက်ပါခွင့်ပြုရန် တောင်းပန်လိုက် ပြန်သည်။ သူက ယင်းတည်းခိုခန်းတွင် တစ်ညတာ တည်းခိုခွင့်ရရန် မျှော်မှန်းပြီး ပြောလိုက်ခြင်းဖြစ်သည်။ ထိုတည်းခိုခန်းသည် ဘယ်လောက်ပဲ စုတ်ချာသည်ဖြစ်စေ ဤမိသားစုပေးမည့် အကောင်းဆုံး အိပ်ရာထက်တော့ သူ ပိုပြီးနှစ်ခြိုက်ပါသည်။

အော်လဂါက ချက်ချင်း ပြန်မဖြေပါ။ သူမက ထမင်းစားပွဲဆီသို့ ကြည့်လိုက်သည်။ သူမ၏အစ်ကိုက မတ်တတ်ထရပ်ပြီး ခေါင်းညိတ်ကာ ပြော လိုက်သည်။

"လူကြီးမင်း ဆန္ဒရှိရင် လိုက်ပါစေ"

သို့သော် သူတို့စဉ်းစားနေသည်မှာ ကေကို တည်းခိုခန်းက ဝင်ခွင့်ပြုပါ့ မလားဟု ဖြစ်သည်။ သူက ဘာပဲဖြစ်ဖြစ် သွားမည်ဟု ပြောလိုက်သည်။

တည်းခိုခန်းသို့သွားသော ခရီးတိုကလေးကို ကေသည် အော်လဂါ၏ လက်ကို ဆုပ်ကိုင်ပြီး သူ့တစ်ကိုယ်လုံးကို သူမအပေါ်တွင် မှေးထားရသည်။ ဗာနေဗက်နှင့် တုန်းကလိုပင် ဖြစ်သည်။ သူက သည်လိုမှ မဟုတ်လျှင်လည်း မ သွားနိုင်ပါ။

ဤတည်းခိုခန်းသည် ရဲတိုက်ကြီးက လူကြီးမင်းများအတွက် သီးသန့် ထားသော တည်းခိုခန်းဟု ကေ သိရသည်။ ရဲတိုက်ကြီးမှ လူကြီးမင်းများ ရွာထဲတွင် ကိစ္စရှိ၍ လာရောက်သည့်အခါ ဤတည်းခိုခန်းမှာပင် ထမင်းစားကြသည်။ ရံခါတွင် ညအိပ်ကြသည်။ အော်လဂါက ကေအား လေသံတိုးတိုးဖြင့် ပြောသည်။ သူမနှင့်အတူ လမ်းလျှောက်ရသည်မှာ ကျေနပ်နှစ်သိမ့်ဖွယ်ရာ ဖြစ်သည်။ ကေက သူမက ပေးသော နှစ်သိမ့်မှုကို ဂရုမပြုရန် ကြိုးစားသည်။ သို့သော် ကျေနပ်နှစ်သက်မှုက ရှိနေဆဲ ဖြစ်သည်။

အပြင်ဘက်မှ ကြည့်ရသည်ကတော့ တည်းခိုခန်းသည် ကေ နေထိုင်သော တည်းခိုခန်းနှင့် ချွတ်စွပ်ပင်ဖြစ်သည်။ ရွာတွင်းရှိအိမ်များ အားလုံးသည်

အနည်းနှင့်အများတော့ တစ်ပုံစံတည်း ဖြစ်သည်။ သို့သော် ဤတည်းခိုခန်း မှာတော့ အနည်းငယ်သော ခြားနားမှုများစွာ ရှိသည်ကို ချက်ချင်းပင် သိသာသည်။ အိမ်ရှေ့လှေကားတွင် လက်ရန်း များရှိသည်။ တံခါးဝတွင် မှန်အိမ်ကောင်းကောင်းတစ်လုံး ချိတ်ဆွဲထားသည်။ တံခါးထိပ်တွင် မင်းကြီး၏ တံဆိပ်အရောင်များပါရှိသော အလံတစ်ခု တဖျပ်ဖျပ်ရှိနေသည်။

ခန်းမကြီးထဲသို့ရောက်ရှိသွားသောအခါ တည်းခိုခန်းပိုင်ရှင်နှင့် တန်းပြီး တွေ့ရသည်။ ၎င်းက လှည့်လည် စစ်ဆေးနေဟန်ရှိသည်။ ၎င်းက ကေကို မျက်လုံး သေးသေးများဖြင့် ကြည့်လိုက်သည်။ မျက်လုံးများက စူးစမ်း လေ့လာသည့် ပုံစံလည်း ဖြစ်သည်။ နိုးတစ်ဝက် အိပ်တစ်ဝက်ပုံစံလည်း ဖြစ်နိုင်သည်။

သူက

"မြေတိုင်းစာရေးဟာ ယမကာခန်းကလွဲရင် တခြား ဘယ်နေရာကိုမှ သွားခွင့် မရှိဘူး"

"ဟုတ်ကဲ့၊ သူက ကျွန်မကို လိုက်ပို့တာပါ"

အော်လဂါက ပြန်ပြောလိုက်သည်။

သို့သော် ကေက အော်လဂါ၏လက်ကို လွှတ်လိုက်ပြီး တည်းခိုခန်းပိုင်ရှင်ကို ဘေးသို့ ဆွဲခေါ်သွားသည်။ အော်လဂါက ခန်းမကြီးထိပ်တွင် စိတ်ရှည် လက်ရှည်ဖြင့် စောင့်နေသည်။

"ကျွန်တော် ဒီမှာ ညအိပ်ချင်တယ်"

ကေက ပြောလိုက်သည်။

"အဲဒါ မဖြစ်နိုင်ပါဘူး။ ဒီတည်းခိုခန်းက ရဲတိုက်ကြီးက လူကြီးမင်းတွေအတွက် သီးသန့်ထားတယ် ဆိုတာ ခင်ဗျား မသိဘူးနဲ့တူတယ်"

"ဒါက စည်းမျဉ်းစည်းကမ်းပဲ ဖြစ်ပါလိမ့်မယ်။ ဒါပေမဲ့ ကျွန်တော့်ကို အခန်းထောင့် တစ်နေရာရာမှာတော့ အိပ်ခွင့်ပြုနိုင်လိမ့်မယ် ထင်တယ်"

"ခင်ဗျားပြောတဲ့အတိုင်း ကျွန်တော် လုပ်ပေးချင်ပါတယ်။ ဒါပေမဲ့ တင်းကျပ်တဲ့ စည်းကမ်း ဥပဒေအဖြစ် ခင်ဗျားကို ကျွန်တော် လက်မခံနိုင်တဲ့ တခြားအကြောင်းလည်း ရှိပါတယ်။ ရဲတိုက်ကြီး လူကြီးမင်းတွေက သိပ်ပြီး မှ အကဲဆတ်တတ်ကြတယ်။ သူတို့ဟာ သူစိမ်းတစ်ယောက်ကို မြင်တွေ့ရင် သည်းခံနိုင်ကြမှာမဟုတ်ဘူး။ ခင်ဗျားကို ကျွန်တော် ဒီမှာ အိပ်ခွင့်ပေးပြီး ခင်ဗျားကို သူတို့ တွေ့သွားရင် ကျွန်တော့်အတွက်ရော ခင်ဗျားအတွက်ရော ပျက်စီးမယ့်ကိန်းပဲ"

သူက အရပ်မြင့်ပြီး အကျီကြယ်သီးများကို တင်းရင်းစွာ တပ်ထားသည်။ လက်တစ်ဖက်က နံရံကို ထောက်ထားပြီး လက်တစ်ဖက်ကို သူ့တင်ပါးပေါ် တင်ကာ ကေကို အနည်းငယ် ကုန်းငုံ့ပြီး ကြည့်နေသည်။ သူ့ကိုယ်သူ ယုံကြည်စိတ်ချစွာနှင့် ပြောနေသည်။

သူ၏အဝတ်အစားများသည် လယ်သမားတစ်ယောက်၏ ဝတ်ကောင်း စားလှများသာ ဖြစ်သော်လည်း သူက အခြားရွာသားများနှင့် မတူပါ။

"ခင်ဗျားပြောတာ ကျွန်တော် လုံးဝယုံပါတယ်။ ကျွန်တော်က စည်းကမ်း ကို အမှုမထားဖို့ ပြောနေတာ မဟုတ်ပါဘူး။ ကျွန်တော်ပြောချင်တာက ရဲတိုက်ကြီး အပေါ်မှာ လွှမ်းမိုးမှုရှိပါတယ်။ ရှေ့မှာ ဒါ့ထက်ပိုပြီး ရှိနိုင်ပါတယ်။ ကျွန်တော့်ကို ဒီမှာ အိပ်ခွင့်ပြုတဲ့အတွက် ခင်ဗျားမှာ အန္တရာယ် တစ်ခုခုရှိလာရင် ကျွန်တော် ကာကွယ်ပေးနိုင် ပါတယ်"

"ကျွန်တော်သိပါတယ်။ ကျွန်တော် ဒါတွေ အားလုံးသိပါတယ်"

ကေသည် သူ၏ဆန္ဒကို ပိုပြီး ရှင်းရှင်းလင်းလင်း ပြောရန်ဖြစ်သော်လည်း တည်းခိုခန်းပိုင်ရှင်၏ အထက်ပါစကားကြောင့် သူ အနေခက်သွားပြီး မေးခွန်းတစ်ခု ကိုသာ မေးလိုက်သည်။

"ဒီမှာ ကန့်ေညး ရဲတိုက်လူကြီးမင်းတွေ အများကြီးတည်းနေကြသလား"

"အဲဒါဆိုရင်တော့ ကန့်ေညးက ပိုကောင်းပါတယ်။ လူကြီးမင်းတစ် ယောက်ပဲ ရှိပါတယ်"

တည်းခိုခန်းပိုင်ရှင်က အားပေးသည့်အနေဖြင့် ပြောလိုက်သည်။ သူ့ကို လက်ခံလိုက်ပြီ ဆိုသည့် သဘောဖြစ်သော်လည်း ကေက သူ့ဆန္ဒကို ဖိအား မပေးဘဲ တည်းနေသည့် လူကြီးမင်း၏ နာမည်ကိုသာ မေးလိုက်သည်။

"ကလမ်"

တည်းခိုခန်းပိုင်ရှင်က အမှတ်မထင်ပြောလိုက်ပြီး သူ့ထံသို့ အပြေးအလွှား လာနေသော လူတစ်ဦးကို လှည့်ကြည့်လိုက်သည်။ သူလာရောက်သည့် အကြောင်းက အုပ်ချုပ်ရေးမှူးသည် တစ်ခုခု အလိုရှိနေသဖြင့် တည်းခိုခန်း ပိုင်ရှင်ကို လာခေါ်ခြင်း ဖြစ်သည်။ သို့သော် တည်းခိုခန်းပိုင်ရှင်သည် လိုက် မသွားဘဲ ကေကို တစ်ချက် ကြည့်လိုက်သည်။ သို့သော် ကေ ဘာတစ်ခွန်းမျှ မပြောနိုင်ပါ။ တည်းခိုခန်းတွင် ရှိနေသူသည် သူ့အား ပံ့ပိုးသူဖြစ်ကြောင်း သိရှိရ၍ ဝမ်းအသာကြီး သာနေတော့သည်။

တည်းခိုခန်းပိုင်ရှင်သည် သူ့ကိုတစ်ချက်ပြန်ကြည့်ပြီး တံခါးပေါက်မှ ပျောက်ကွယ် သွားသည်။ ကေက ထို နေရာမှာပင် ရပ်နေသည်။ အော်လဂါ ရောက်ရှိလာပြီး သူ့ကို ဆွဲခေါ်သွားသည်အထိ ဖြစ်သည်။

"တည်းခိုခန်းပိုင်ရှင်ကို အစ်ကို ဘာပြောနေတာလဲ"

"ကန့်ေညး ဒီမှာအိပ်ဖို့ တစ်နေရာကို ပြောနေတာ"

"အစ်ကို ကျွန်မတို့အိမ်မှာ နေမှာမဟုတ်လား"

အော်လဂါ အံ့အားသင့်စွာ ပြောသည်။ "

ကေက ပြောလိုက်ပြီး သူမ ထင်လိုရာ ထင်စေတော့ဟုဆိုကာ ထွက်ခွာ သွားတော့သည်။

# ၃

ယမကာခန်းက ရောမအခန်းကြီး ဖြစ်သည်။ အလယ်ပိုင်းက ကွက်လပ် ကြီး ဖြစ်သည်။ နံရံတစ်လျှောက်ရှိ စည်ပိုင်းထိပ်များတွင်ကား လယ်သမားတွေ အများကြီး ထိုင်နေကြသည်။ သို့ရာတွင် ကေ၏ တည်းခိုခန်းရှိ လယ်သမားများနှင့်ကား ခြားနားကြသည်။ သူတို့က ပိုပြီးသပ်ရပ်ပြီး ဝါကြွင်ကြွင်အင်္ကျီများကို ဝတ်ဆင်ထား ကြသည်။ ဘောင်းဘီရှည်ကျပ်ကျပ် နှင့် ဂျက်ကက်အင်္ကျီပွပွများ ဝတ်ဆင်ထားကြသည်။ သူတို့က လူဖလံ ကလေးတွေ ဖြစ်ကြသည်။ ရုပ်ချင်း ဆင်ဆင်များ ဖြစ်ကြသည်။ ပါးပြင်ဝိုင်း ဝိုင်း၊ မျက်နှာပြင်ပြားပြားနှင့် ဖြစ်သည်။ သူတို့ တိတ်ဆိတ်ငြိမ်သက်စွာ ထိုင် နေကြသည်။ သူတို့၏မျက်လုံးများက ဝင်ရောက်လာသော လူသစ်များကို လိုက်ကြည့်နေကြသည်။ သို့သော် ဖြည်းလေးစွာနှင့် မသိကျိုးကျွံစွာ ဖြစ်သည်။ သို့တစေလည်း အရေအတွက် များပြားသည်နှင့် တိတ်ဆိတ်ငြိမ် သက်မှုတို့က ကေအား တစ်မျိုး ဖြစ်စေသည်။ သို့ဖြင့် သူ ဘာ့ကြောင့် ဒီကို လာရသည်ကို ပြသသည့်အနေနှင့် အော်လဂါ၏လက်ကို ပြန်တွဲလိုက်သည်။ အော်လဂါ၏အသိဖြစ်သော လူတစ်ယောက်က တစ်နေရာမှ ထပြီး သူမ ထံသို့ လျှောက်လာသည်။ သို့သော် ကေက အော်လဂါ၏လက်ကို ကိုင် လိုက်ကာ တစ်ဖက်သို့ လှည့်သွားစေသည်။ သူ၏အပြုအမူကို မည်သူမျှ လက်ခံနိုင်ဖွယ်ရာမရှိပါ။ သို့သော် အော်လဂါက သည်းခံပြီး ဘေးတစောင်း ကြည့်ကာ ပြုံးလိုက်သည်။

ဘီယာကို ဖရီဒါ ဟုခေါ်သော မိန်းကလေးက ယူလာသည်။ ဆံပင် ကောင်း ကောင်း၊ မျက်လုံးဖျော့ဖျော့၊ ပါးချိုင့်ချိုင့်နှင့် ရိုးရိုးယဉ်ယဉ် မိန်းကလေးတစ်ယောက် ဖြစ်သည်။ သူမ၏ အကြည့်က ထည်ဝါသည်။ သူမသည် သူနှင့် မျက်လုံးချင်း ဆုံမိသည်နှင့် တစ်ပြိုင်နက် သူနှင့်ပတ်သက် သော ဆုံးဖြတ်ချက်တစ်ခုကို ချလိုက်သည်ဟု ကေ ယူဆလိုက်သည်။ ယခင်က သူ မသိရှိသော အချက်တစ်ခု ဖြစ်သည်။ သို့သော် သူမ၏အကြည့်က ထို အချက်ရှိနေကြောင်း အတည်ပြုသည်။ အော်လဂါနှင့် စကားပြောနေသော သူမကို သူက ဘေးတိုက် အနေအထားမှနေပြီး အကဲခတ်နေသည်။ အော်လဂါနှင့် ဖရီဒါတို့သည် သိပ်ပြီး မရင်းနှီးကြပါ။ သူတို့က အေးစက်စက်ပင် စကား အနည်းငယ်မျှသာ ပြောကြသည်။ ကေက ပိုပြီးကြားချင်သဖြင့် သူ့ အနေနှင့် မေးခွန်း တစ်ခုကို ကြားဖြတ်ပြီး မေးလိုက်သည်။

"ဟာကလမ်ကို မင်းသိသလား"

အော်လဂါ ကျယ်လောင်စွာ ရယ်မောသည်။

"မင်း ဘာရယ်တာလဲ"

ကေ စိတ်တိုစွာ မေးလိုက်သည်။

"ကျွန်မ မရယ်ပါဘူး"

သူမက ငြင်းဆန်သည်။ သို့သော် ဆက်ပြီး ရယ်မောနေသည်။

"အော်လဂါက ကလေးဆန်တာပဲ"

ကေက ယင်းသို့ပြောလိုက်ပြီး ကောင်တာပေါ်မှာ ထိုင်ပြီး ကုန်းငုံ့လိုက်သည်။ ဖရီဒါ၏ အကြည့်ကို ထပ်မံရရှိရန်ဖြစ်သည်။ သို့သော် သူမက မျက်လွှာကို ချလိုက်ပြီး ရှက်ရွံ့စွာ ရယ်မောသည်။

"အစ်ကိုက ဟာကလမ်ကို မြင်ဖူးချင်လို့လား"

ကေက တွေ့မြင်လိုကြောင်း ပြောသည်။ သူမက သူမ၏လက်ဝဲဘက်ရှိတံခါးတစ်ခုကို ညွှန်ပြရင်း

"အဲဒီမှာ ချောင်းကြည့်တဲ့ အပေါက်ကလေး တစ်ခုရှိတယ်။ အဲဒီအပေါက်ကနေ အစ်ကို ကြည့်နိုင်တယ်"

"တခြားလူတွေ ရှိနေတယ်။ ဘယ်လိုလုပ်မလဲ"

ကေက မေးလိုက်သည်။

သူမက အောက်နှုတ်ခမ်းကို လိပ်လိုက်ပြီး တံခါးဆီသို့ သူ့ကို ဆွဲခေါ်သွားသည်။ သူမ၏လက်က နူးညံ့လှသည်။ အပေါက်ကလေးက ချောင်းမြောင်းကြည့်ရှုရန် အတွက် တမင်သက်သက် ဖောက်ထားခြင်း ဖြစ်သည်။ တစ် ခန်းလုံးကို ကောင်းစွာမြင်ရသည်။

အခန်းအလယ်ရှိ စာရေးစားပွဲမှ ပက်လက်ကုလားထိုင်ပေါ်တွင် ကလမ် ထိုင်နေသည်။ သူ့ရှေ့တွင် ခပ်နိမ့်နိမ့်ကလေး ချိတ်ဆွဲထားသော မှန်အိမ်၏ အလင်းရောင်ကြောင့် သူ့မျက်နှာတစ်ခုလုံး ထိန်လင်းနေသည်။ ကိုယ်လုံးကိုယ်ထည် မကြီးမသေး၊ ပြည့်ပြည့်ဖြိုးဖြိုး၊ လေးလေးကန်ကန် ဖြစ်သည်။ သူ့မျက်နှာက ချောမွတ်ဆဲဖြစ်သည်။ သို့သော် အသက်အရွယ် အရ ပါးရေကျနေပြီဖြစ်သည်။ နှုတ်ခမ်းမွေးနက်နက်များက ရှည်လျားသည်။ သူ့မျက်လုံးများက ကိုင်းမပါသော မျက်မှန်အောက်တွင် ပျောက်နေသည်။ သူ၏ လက်ဝဲဘက်တံတောင်က စားပွဲပေါ်တွင် ထောက်ထားသည်။ ဗာဂျီးနီးယား ဆေးပြင်းလိပ်ကို ညှပ်ထားသော သူ၏ညာလက်က ဒူး ပေါ်တွင် ရှိနေသည်။

စားပွဲပေါ်တွင် ဘီယာဖန်ခွက် တစ်ခွက်ရှိသည်။ စားပွဲပတ်ပတ်လည်တွင် အနားကွပ် ရှိနေသဖြင့် စားပွဲပေါ်တွင် စာရွက်စာတမ်း ရှိ မရှိ ကေ မမြင်ရပါ။ ယင်းအချက်ကို သေချာစေရန် သူက ဖရီဒါကို ကြည့်ခိုင်းပြီး စားပွဲပေါ်တွင် စာရွက်တွေ ရှိ မရှိ မေးသည်။ သူမက စောစောကလေးတင်မှ ယင်းအခန်းထဲသို့ ရောက်ရှိခဲ့သဖြင့် စားပွဲပေါ်တွင် ရှင်းနေကြောင်း ပြော နိုင်သည်။

သူ့အတွက် ကြည့်ချိန် စေ့သွားပလားဟု ဖရီဒါကို မေးသည်။ ဖရီဒါက သူ ကြည့်သလောက် ကြည့်နိုင်ကြောင်း ပြောသည်။ ယခုအခါ ကေသည် ဖရီဒါ နှင့် နှစ်ယောက်တည်းဖြစ်သည်။ အော်လဂါက ယခုအခါ သူ့အသိထံသို့ ရောက်ရှိနေပြီး စည်ပိုင်းမြင့်ကြီးတစ်လုံးပေါ်တွင်ထိုင်ကာ

သူမ၏ခြေထောက်များကို လှုပ်ယမ်းနေသည်။

"ဖရီဒါ၊ ဟာကလမ်ကို မင်း ကောင်းကောင်းသိသလား"

ကေက လေသံဖြင့် မေးလိုက်သည်။ "အို… သိတာပေါ့။ ကောင်းကောင်းကြီး သိတာပေါ့"

သူမက ကေအပေါ် မှီလာသည်။ ထိုအခါတွင် သူမက လည်ဟိုက် ဘလောက် အင်္ကျီကို ရှက်ရွံ့စွာဖြင့် ထိကစားနေသည်။ ထို့နောက် သူမက

ဆက်ပြောသည်မှာ

"အော်လဂါရယ်တာ အစ်ကို သတိမထားမိဘူးလား"

"အတော်ရိုင်းတဲ့ သတ္တဝါပဲ"

ကေက ပြောလိုက်သည်။

"အင်း သူရယ်တာ အကြောင်းရှိတယ်။ အစ်ကိုက ကလမ်ကို သိသလား

မေးတယ်။ အင်း ညီမက"

သူမက တစ်ချက်ပင့်ကြည့်လိုက်ပြီး

"ကျွန်မက သူ့ရဲ့ အပျော်မယား"

"ကလမ်ရဲ့ အပျော်မယား"

ကေက မေးလိုက်သည်။

သူမ ခေါင်းညိတ်သည်။

"ဒါဆိုရင်"

သူ အလေးအနက်မထားရာ ရောက်အောင် ကေ ပြုံးလိုက်သည်။ "ညီမ ဟာ အစ်ကို့အတွက် အထူးလေးစားရမယ့် လူတစ်ယောက်ပဲ"

"အစ်ကိုတစ်ယောက်တည်းအတွက် မဟုတ်ပါဘူး"

ဖရီဒါက ရင်းနှီးစွာ ပြောလိုက်သည်။ သို့သော် သူ့အပြုံးကိုတော့ မတုံ့ပြန်ပါ။

သူမ၏မာနကို ဆွဲချရန် ကေ့မှာ လက်နက်တစ်ခုရှိသည်။ ယင်းလက်နက် ကို သုံးလိုက်သည်။

"ညီမ ရဲတိုက်ကြီးကို ရောက်ဖူးသလား"

သို့သော် ပစ်မှတ်က လွဲသွားသည်။ သူမ ပြန်ဖြေသည်မှာ

"ဒီဆိုင်မှာရှိနေတာ ညီမအတွက် မလုံလောက်ဘူးလား"

သူမ၏ ကိုယ့်ကိုယ်ကိုယ် အထင်ကြီးမှုက နယ်နိမိတ်မရှိပါ။ ယင်းအချက် ကို သူမက ကေသိအောင် ပြောလိုက်ခြင်းဖြစ်သည်။

"ဟုတ်တယ်၊ ညီမဟာ ဒီယမကာအခန်းမှာ တည်းခိုခန်းပိုင်ရှင်ကြီးရဲ့ နေရာကို ယူလိုက်တာပဲ"

"ဟုတ်တယ်၊ ညီမက တံတားနားက တည်းခိုခန်းမှာ နွားတင်းကုပ် အလုပ်သမ ဘဝက စခဲ့တာပဲ"

"ဒါလောက်နူးညံ့တဲ့ လက်ကလေးတွေနဲ့လား"

ကေက မေးခွန်းထုတ်သလိုမျိုးနှင့် ပြောလိုက်သည်။ သူက သူမကို မြှောက်ပင့် နေသည်လား၊ သို့မဟုတ် သူမတွင်ရှိသော အခြင်းအရာတစ်ခုမို့

ယင်းသို့ပြောသည်လား ဆိုသည်ကိုတော့ သူ မသိပါ။

သူမ၏လက်ကလေးများ သေးသွယ်ပြီး နူးညံ့သည်ကတော့ အမှန်ပင်။ သို့သော် ယင်းတို့သည် အားနည်းခြင်းလည်း ဖြစ်နိုင်သည်။

"အဲဒီတုန်းက အဲဒီလက်တွေအတွက် ဘယ်သူကမှ ပြဿနာမဖြစ်ခဲ့ဘူး။ နောက်ပြီးတော့ အခုလည်းပဲ..."

ကေက သူမကို စူးစမ်းသည့်အနေဖြင့် ကြည့်လိုက်သည်။ သူမက ခေါင်းကို ယမ်းခါလိုက်ပြီး ဘာမှထပ်မပြောပါ။

"ညီမမှာ လျှို့ဝှက်ချက်တွေ ရှိမှာပေါ့။ အဲဒီလျှို့ဝှက်ချက်တွေကို လွှန်ခဲ့တဲ့ နာရီဝက်လောက်ကမှ သိတဲ့ လူတစ်ယောက်ကို ညီမ ပြောမှာမဟုတ်ဘူး။ နောက်ပြီး အဲဒီလူကလည်း သူ့အကြောင်း ဘာမှမပြောရသေးဘူး"

ဒီစကားက မှားသွားပုံရသည်။ သူ့အတွက် အဆင်ပြေနေသော မိန်းမူး ရီဝေနေသည့်အဖြစ်မှ သူမ လန့်နိုးသွားပုံရသည်။ သူမ၏ခါးစည်းကြိုးတွင် ချိတ်ဆွဲထားသော သားရေအိတ်ကလေးထဲမှ သစ်သားစတစ်စကို ထုတ်ယူ ပြီး ချောင်းကြည့်ပေါက်ကို ပိတ်လိုက်သည်။ ထို့နောက် သူမ အမူအရာ ပြောင်းလဲ သွားသည်ကို ဖုံးကွယ်သည့် အနေဖြင့် ကေ့အား ပြောလိုက်သည်။

"အစ်ကို့အကြောင်း ကျွန်မ အကုန်သိပါတယ်။ အစ်ကိုက မြေတိုင်းစာရေး တစ်ယောက်ပဲ"

ယင်းသို့ပြောလိုက်ပြီးနောက် ဆက်ပြောသွားသည်။

"ကျွန်မ အခု အလုပ်ပြန်လုပ်တော့မယ်"

သူမက ယမကာကောင်တာနောက်သို့ ပြန်သွားသည်။ ထိုအခါ ဟိုက ဒီကမှ လူများ ထလာပြီး သူတို့၏ဘီယာခွက်ကို ထပ်ဖြည့်ကြသည်။

ကေက သူမနှင့်ထပ်ပြီး စကားပြောလိုသဖြင့် ဖန်ခွက်လွတ်တစ်လုံးယူပြီးသူမထံသို့ သွားသည်။

ကေက ပြောလိုက်သည်။

"ဒီမယ် ဖရော်လင်း ဖရီဒါ၊ နွားတင်းကုပ် အလုပ်သမတစ်ယောက်ကနေ ယမကာအခန်းက ဒီအဆင့်အထိ ရောက်အောင် တက်လာတာဟာ ရောမ အောင်မြင် မှုကြီး တစ်ခုဖြစ်တယ်။ စိတ်ဓာတ်ခွန်အား အင်မတန်ကြီးမားတဲ့ သဘောကို ပြတယ်။ ဒါပေမဲ့ ဒီလိုလူမျိုးတစ်ယောက်ရဲ့ ရည်မှန်းချက်ဟာ ဒါ လောက်နဲ့တင် ပြီးဆုံးသွားမှာလား၊ ဘယ်လိုမှမဖြစ်နိုင်ဘူး။ မရယ်ပါနဲ့ ဖရော်လင်း ဖရီဒါ၊ ညီမရဲ့မျက်လုံးတွေက ပြောနေတယ်။ အတိတ်က ရခဲ့တဲ့ အောင်မြင်မှုထက်သာတဲ့ အောင်မြင်မှုတွေဟာ ရှေ့မှာ ဖြစ်ပေါ်လာမယ့် သဘော ရှိနေတယ်။ ဒါပေမဲ့ အောင်မြင်နေတဲ့ လူတစ်ယောက်၊ ပိုမို ကြီးမားတဲ့ ရည်မှန်းချက်တွေရှိနေတဲ့ လူတစ်ယောက်အနေနဲ့ အဲဒီအတိုင်း တက်လှမ်း သွားနိုင်အောင် လူတစ်ယောက်ဆီက အကူအညီရယူတာဟာ ညီမရဲ့သိက္ခာကို မထိခိုက်ပါဘူး။ ဘေးလူတွေမရှိတဲ့ နေရာမှာ ညီမဟာ အဲဒီလူနဲ့ တစ်ချိန်မှာ

အေးအေး ဆေးဆေး စကားပြောသင့်ပါတယ်"

"အစ်ကို ဘာကိုပြောချင်တာလဲ။ ညီမကို ကလမ်ရဲ့လက်ကနေ ခေါ်သွားချင်တာလား"

"အစ်ကို့ရဲ့သဘောကို ညီမ သိတာပဲ။ ဟုတ်တယ်၊ ဒါဟာ အစ်ကို့ရဲ့ လျှို့ဝှက်တဲ့ ရည်ရွယ်ချက်ပဲ။ ကလမ်ကို ညီမ စွန့်လွှတ်လိုက်ပါ။ အစ်ကို့ရဲ့ ချစ်သူပဲ ဖြစ်ပါစေ"

ထို့နောက် ကေ အော်ပြီး ပြောလိုက်သည်။

"အော်လဂါရေ... ကိုယ်သွားလို့ရပြီ။ ကိုယ်တို့ အိမ်ပြန်ရအောင်"

အော်လဂါ ကျိုးနွံစွာဖြင့် စည်အဖုံးပေါ်မှ ဆင်းလာသည်။ သို့သော် သူ့မိတ်ဆွေ ထံမှ ချက်ချင်း ထွက်မလာနိုင်ပါ။

ဖရီဒါက လေသံတိုးတိုးဖြင့် ကေ့အား မေးသည်။

"ညီမ အစ်ကိုနဲ့ ဘယ်တော့ စကားပြောရမလဲ"

"အစ်ကို ဒီမှာ ဒီည အိပ်နိုင်လား"

"ဖြစ်ပါတယ်"

"အစ်ကို အခု နေရမလား"

"ပထမ အော်လဂါနဲ့လိုက်သွားပါ။ ဒါမှ ညီမ ဒီလူတွေအားလုံးကို ရှင်းပစ် လို့ရမယ်။ ခဏလေးကြာမှ အစ်ကို ပြန်လာပါ"

"ကောင်းပြီ"

ကေ ပြောလိုက်သည်။ ထို့နောက် သူက စိတ်မရှည်စွာနှင့် အော်လဂါကို စောင့်နေသည်။ လယ်သမားတွေက သူမကို သွားခွင့်မပေးပါ။ သူတို့က ဆူညံစွာ အော်ဟစ်ကာ သူမကို ဝိုင်းပတ်ပြီး ကနေကြသည်။ ရံဖန်ရံခါဆို သလို သူတို့အထဲမှ တစ်ယောက်သည် စက်ဝိုင်းထဲမှ ထွက်သွားပြီး အော်လဂါ ၏ခါးကို တင်းကျပ်စွာ ဖက်ပြီး ပတ်ချာပတ်ချာလှည့်ပြီး ကပါသည်။ အကက ပိုပြီး မြန်လာသည်။ အော်ဟစ်သံတွေက ပိုပြီး ဆူညံလာသည်။ ပို ပြီး ကြမ်းလာသည်။

အော်လဂါက ရယ်ကာမောကာနှင့် ဝိုင်းကြီးပတ်ချာကို ဖောက်ထွက်နေရန် ကြိုးစားလျက် ရှိသော်လည်း ယခုအခါတွင် ဆံပင်တွေတဝဲဝဲနှင့် လယ်သမား တစ်ယောက်လက်မှ အခြားတစ်ယောက် လက်သို့ ပြောင်း လျက်ရှိသည်။

"ဒီလိုလူမျိုးတွေအတွက် ညီမ ဝန်ထုပ်ဝန်ပိုးဖြစ်ရတာပဲ"

သူမက နှုတ်ခမ်းပါးပါးကို ကိုက်ပြီး မဲ့ရွဲ့သည်။

"သူတို့က ဘယ်သူတွေလဲ"

ကေ မေးလိုက်သည်။

"ကလမ်ရဲ့ တပည့်တွေပဲ။ ဒီလူတွေကို သူနဲ့ ခေါ်လာတယ်။ သူတို့က ညီမကို ဒုက္ခပေးကြတယ်။ အစ်ကို့ကို ညီမ ဘာတွေပြောနေမိသလဲ မသိဘူး။ အစ်ကို စိတ်အနှောင့်အယှက် ဖြစ်စေတယ်ဆိုရင် တောင်းပန်ပါတယ်။ အပြစ်တင်ရမှာက ဒီလူ တွေပဲ။ အင်မတန် စက်ဆုပ်စရာကောင်းတဲ့ လူတွေပဲ။ ညီမက သူတို့အတွက်

ဘီယာ ထည့်ပေးရတယ်။ သူတို့ကို ခေါ်မလာပါနဲ့ လို့ ကလမ်ကို ညီမ ခဏခဏ ပြောပါတယ်။ ညီမပြောတာကို သူ ထည့်ပြီး စဉ်းစားပါတယ်။ ဒါပေမဲ့ အလကားပါပဲ။ ကလမ် မရောက်ခင် တစ်နာရီ လောက်ကိုပင် သူတို့ဟာ ခြံထဲကိုဝင်လာတဲ့ ကျွဲတွေ နွားတွေလိုပဲ ရောက်လာကြတယ်။ တကယ်လည်း သူတို့ဟာ ခိုင်းနွားခြံတွေထဲသွားဖို့ ကောင်းတယ်။ အစ်ကိုသာမရှိဘူးဆိုရင် ညီမ ဒီတံခါးကို ဖွင့်ပစ်လိုက်ပါတယ်။ ဒါမှ ကလမ်က သူတို့ကို မောင်းထုတ်ပစ်မှာ"

"သူတို့အသံတွေကို ကလမ် မကြားဘူးလား"

ကေ မေးလိုက်သည်။

"ဟင့်အင်း၊ မကြားဘူး။ သူ အိပ်ပျော်နေတယ်"

"အိပ်ပျော်နေတယ်၊-ဟုတ်လား။ ကိုယ် စောစောက ချောင်းကြည့်တော့ သူ နိုးနေပါတယ်။ စားပွဲမှာ ထိုင်နေတယ်"

"သူက အမြဲတမ်း အဲဒီလိုပဲထိုင်တယ်။ အစ်ကို သူ့ကိုကြည့်တုန်းက သူ အိပ်ပျော်နေတယ်။ သူ အိပ်ပျော်မနေဘူးဆိုရင် ညီမက အစ်ကို့ကို ကြည့်စေပါ့မလား။ အဲဒါ သူအိပ်တဲ့ပုံစံပဲ။ လူကြီးမင်းတွေဟာ သိပ်ပြီး အိပ်ကြတယ်။ အဲဒါ နားလည်ဖို့ ခက်တယ်။ အဲဒီလောက် မအိပ်ရင်လည်း တပည့်

တွေကိုသည်းခံနိုင်ပါ့မလား။ အခုတော့ သူတို့ကို ညီမကိုယ်တိုင် မောင်းထုတ်ရတော့မယ်" သူမက ထောင့်တစ်ထောင့်မှ ကြာပွတ်တစ်ချောင်း ဆွဲယူပြီး ကနေတဲ့လူတွေထဲကို သိုးကလေးတစ်ကောင်လို တစ်ချက်တည်း ခုန်ဝင်လိုက်သည်။ ပထမတော့ သူတို့က သူမကို နောက်ထပ် ကရန် ဝင်လာသည့် လူတစ် ယောက်အဖြစ် ငုံ့ကြည့်နေ ကြသည်။ သူမက ကြာပွတ်ကို မြှောက်ပြီး အော် လိုက်သည်။

"ကလမ်ရဲ့အမိန့်အရ ရှင်တို့ တင်းကုပ်ထဲသွားကြ၊ အားလုံးသွားကြ"

သူမက တကယ်ပြောနေမှန်းသိသောအခါ သူတို့ နောက်ဘက်သို့ ရှဲသွား ကြသည်။ တံခါးတစ်ခုကို ဖွင့်ပြီး ထွက်သွားကြသည်။ ညလေအေးက တံခါးပေါက်မှ ဝင်လာသည်။ ဖရီဒါက သူတို့နောက် လိုက်ပါသွားပြီး တင်းကုပ်တွေထဲသို့ မောင်းသွင်း နေသည်။

ရုတ်ခြည်းပင် တိတ်ဆိတ်သွားသည်။ ယင်းကြောင့်ပင် ကေသည် ဆင်ဝင် ခန်းဆီမှ ခြေသံကို ကြားလိုက်ရသည်။ ကေက လုံခြုံစိတ်ချစေသည့် သဘောဖြင့် အရက် ကောင်တာနောက်သို့ ဝင်လိုက်သည်။ ဤအခန်းထဲတွင် ပုန်းစရာဟူ၍ ဤတစ်နေရာပဲ ရှိသည်။ သူက ယမကာအခန်းထဲတွင် နေခွင့်ရှိသည်။ သို့သော် သည်မှာ သူ တစ်ညလုံး နေမည်ဆိုလျှင် သူ့ကို မ မြင်အောင် ရှောင်ရမည်။ တံခါးပွင့်သွားသည်နှင့် တစ်ပြိုင်နက် သူက ကောင်တာအောက်သို့ ဝင်မိသည်။ သူ့ကို မြင်တွေ့သွားလျှင် အန္တရာယ်ရှိသည်။ သို့သော် သူက ဗရုတ်သုတ်ခ လယ်သမားတွေရန်က လွတ်အောင် ပုန်းနေသည်ဟူသော ဆင်ခြေကန်နိုင်ပါသည်။ ခန်းမဆောင်ထဲသို့ ဝင်လာ သူမှာ တည်းခိုခန်းပိုင်ရှင်ဖြစ်သည်။

"ဖရီဒါ"

သူက အော်ခေါ်လိုက်ပြီး အခန်းထဲတွင် ခေါက်တုံ့ခေါက်ပြန် လျှောက်နေသည်။

ကံကောင်းထောက်မစွာပင် ဖရီဒါ မကြာခင်မှာပင် ပြန်လာသည်။ သူမက ကေအကြောင်း မပြောပါ။ လယ်သမားတွေအကြောင်းသာ တိုင်တန်းသည်။ ကေကို ရှာဖွေသည့် အနေဖြင့် ကောင်တာ၏နောက်ဘက်သို့ ဖရီဒါ ရောက်လာသည်။ သူမ၏ ခြေထောက်နှင့် ကေ ထိတွေ့ရသည်။ ထိုအချိန်မှစပြီး သူ လုံခြုံစိတ်ချသွားရပြီဟု နားလည်လိုက်သည်။ သို့သော် ဖရီဒါက ကေ အကြောင်း ဘာမျှမပြောသော်လည်း တည်းခိုခန်းပိုင်ရှင်က မေးလိုက်သည်။

"မြေတိုင်းစာရေးကော"

"မြေတိုင်းစာရေး... ကျွန်မ သူ့အကြောင်း လုံးဝမေ့နေတယ်"

ယင်းသို့ပြောပြီး ဖရီဒါက သူမ၏ ခြေထောက်ကလေးကို ကေ၏ ရင်ဘတ်ပေါ် တင်လိုက်သည်။

"သူ အစောကြီးကတည်းက ပြန်သွားရောပေါ့"

"သူ ဒီမှာတော့ မရှိဘူး"

ဖရီဒါက အေးအေးဆေးဆေးပင် ပြောလိုက်သည်။

"သူ တစ်နေရာရာမှာ ပုန်းနေလိမ့်မယ်နဲ့ တူတယ်။ သူ့ကိုကြည့်ရတာ သူက ဘာမဆိုလုပ်မယ့် ပုံမျိုးပဲ"

"ဒီလိုလုပ်မယ့်ပုံမျိုးတော့ မရှိပါဘူး"

သူမက သူ့ရင်ဘတ်ကို ခပ်နာနာကလေးဖိရင်း ပြောသည်။ ထို့နောက် သူမက ရုတ်တရက် ရယ်မောလိုက်ရင်း စားပွဲအောက်သို့ ငုံ့လိုက်ကာ

"ဒီအောက်မှာများ သူ ပုန်းနေမလားမသိဘူး"

သူမက သူ့ကို ခပ်ဖွဖွကလေးနင်းလိုက်ပြီး ကိုယ်ကို ပြန်မတ်ကာမရှိဘူး၊ သူ ဒီမှာမရှိဘူး"

"သူသွားပြီဆိုတာ သေသေချာချာ မသိရတဲ့အတွက် ငါ့စိတ်ထဲမှာ ထင့်နေတယ်။ ဟာကလမ်ကြောင့် မဟုတ်ဘူး။ ဒီဆိုင်ရဲ့စည်းကမ်းကြောင့်ပဲ။ ဒီစည်းကမ်းကို ငါ လိုက်နာရသလို ဖရော်လင်း ဖရီဒါလည်း လိုက်နာရမယ်။ ကောင်းပြီ၊ ယမကာအခန်းကို မင်း တာဝန်ယူမယ်ဆိုရင် ငါ ကျန်တဲ့အခန်း တွေမှာ လိုက်ရှာလိုက်မယ်။ ကောင်းသော ညပါ။ ကောင်းကောင်းအိပ်ပါ"

အခန်းထဲမှ သူ သွားသည်နှင့်တစ်ပြိုင်နက် ဖရီဒါသည် မီးကို ပိတ်လိုက်ပြီး စားပွဲအောက်ရှိ ကေ၏ဘေးသို့ ရောက်လာသည်။

"အို... အချစ်ရယ်၊ အချစ်ရယ်"

သူမက တိုးဖွဖွကလေး ရွတ်ဆိုသည်။ သို့သော် ကေကို မထိပါ။ သူမက အချစ်ဇောမှာ မျောနေသည့်အတိုင်း ပက်လက်လှန်ပြီး အိပ်ကာ သူမ၏လက်များကို ဘေးဆန့်ထားလိုက်သည်။ သူမက ကြည်နူးနေသဖြင့် အချိန်ကို

သတိမပြုမိတော့ဟန် ရှိသည်။ ထို့နောက် သူမက တစ်ခုခုပြောမည့်အလား၊ တေးသီချင်းကို ညည်းသည့် အလား သက်ပြင်းချလိုက်သည်။ ပြီးမှ ကေကို ကလေးငယ်တစ်ဦးပမာ ဆွဲယူလိုက်ပြီး

"ဒီမှာ အရမ်းကို ပူးကပ်နေတာပဲ"

တစ်ယောက်ကိုတစ်ယောက် ဖက်လိုက်ကြသည်။ သူမ၏ကိုယ်ကလေးက ကေ၏ လက်ထဲမှာ တရှိန်းရှိန်း ဖြစ်နေသည်။ ကေက သူ့ကိုယ်သူ ပျောက်ဆုံးသွားသလို သို့မဟုတ် ထူးဆန်းသော နေရာတစ်ခုတွင် လှည့် လည်နေသလိုမျိုး ခံစားရသည်။

ကလမ်၏ အခန်းထဲမှ အမိန့်အာဏာနှင့် ခေါ်သံတစ်ခု ထွက်ပေါ်လာသည်။

"ဖရီဒါ"

ဖရီဒါက ခေါက်ရိုးကျိုးနေသည့် အနေဖြင့် ဆတ်ခနဲ ခုန်ထလိုက်သည်။ နောက်မှ သူမ ဘယ်နေရာတွင် ရှိနေသည်ကို အမှတ်ရသွားပြီး

"ကျွန်မ မသွားဘူး။ ကျွန်မ သူ့ဆီ ဘယ်တော့မှ မသွားတော့ဘူး"

ကေက သူမ၏စကားကို ကန့်ကွက်ပြီး သူမအား ကလမ်ထံသို့သွားရန် ပြောချင်သည်။ ကပိုကရိုဖြစ်နေသော သူမ၏အင်္ကျီကို ကြယ်သီးများ တပ်ပေးသည်။ သို့သော် ပါးစပ်မှ သွားပါဟု ပြောမထွက်ပါ။ သူ၏လက်ထဲတွင် ဖရီဒါရှိနေသည်ကို ကြည်နူးနှစ်သက်နေသည်။ ဖရီဒါကိုလွှတ်လိုက်လျှင် သူ့ မှာရှိသမျှအားလုံးကို စွန့်လွှတ် လိုက်ရသလို ရှိချေသည်။

သူ၏အားပေးမှုကြောင့် သူမသည် အားမာန်ပြည့်သွားဟန်ဖြင့် တံခါးကို လက်သီးဆုပ်ဖြင့် ထုကာ အော်လိုက်သည်။

"ကျွန်မ မြေတိုင်းစာရေးနဲ့အတူ ရှိနေတယ်"

ယင်းအတွက် ကလမ် နှုတ်ဆိတ်သွားဟန် ရှိသည်။ သို့သော် ကေ ဒူး ထောက်ကာ ထိုင်လိုက်ပြီး သူ့ပတ်ပတ်လည်ကို ငေးကြည့်နေမိသည်။ ဘာတွေဖြစ်ကုန်ပြီလဲ၊ သူ၏ရည်မှန်းချက်တွေ ဘယ်ရောက်ကုန်ပြီလဲ၊ ဖရီဒါထံ က သူ ဘာမျှော်လင့်နိုင်သလဲ။ သူမက ယခုအခါ အားလုံးကို သစ္စာဖောက် လိုက်ပြီ။ သူက သူ့ရည်မှန်းချက်ကို ပျောက်ကွယ်ရမည့်အလား တစ်ညလုံး ဘီယာတောထဲမှာ နေခဲ့သည်။

"မင်း ဘာလုပ်တာလဲ၊ တို့နှစ်ယောက်လုံး ပျက်သုဉ်းပြီ"

ကေက သူ့ဘာသာသူ ပြောသလို ပြောလိုက်သည်။

"ဟင့်အင်း၊ ပျက်သုဉ်းရတာ ကျွန်မတစ်ယောက်တည်းပါ။ ဒါပေမဲ့ အဲဒီ့ အတွက် ကျွန်မ အစ်ကို့ကို ရတယ်။ ဘာမှမစိုးရိမ်နဲ့။ ဒါပေမဲ့ သူတို့နှစ်ယောက်က ဘာဖြစ်လို့ ရယ်နေကြတာလဲ"

"ဘယ်သူတွေလဲ"

ကေ မေးလိုက်သည်။ ထို့နောက် လှည့်ကြည့်လိုက်သည်။

အရက်ကောင်တာပေါ်တွင် သူ၏လက်ထောက်နှစ်ယောက်

ထိုင်နေကြသည်။ သူတို့သည် ညက အိပ်ရေးပျက်ထားသဖြင့် မျက်လုံးကြီးတွေ မို့မောက်နေသည်။ သို့သော် ရွှင်လန်းလျက် ရှိကြသည်။

"မင်းတို့ ဒီမှာ ဘာလုပ်နေကြတာလဲ"

ကေ အော်လိုက်သည်။

"ဆရာ တည်းခိုခန်းကိုပြန်မလာလို့ ဆရာ့ကို ကျွန်တော်တို့ လိုက်ရှာကြတယ်။ ကျွန်တာ်တို့ ဗာနေဗက်အိမ်မှာ သွားရှာကြတယ်။ နောက်ဆုံး ဒီကို ရောက်လာကြတာပဲ။ ကျွန်တော်တို့ တစ်ညလုံး ဒီမှာထိုင်နေကြတယ်။ ကျွန်တော်တို့အဖြစ်က မလွယ်ဘူး"

"မင်းတို့ကို ငါ လိုချင်တာက နေ့ဘက်ပဲ။ ညဘက်မဟုတ်ဘူး။ သွားကြ"

"အခု နေ့ဘက်ပဲ"

သူတို့က နေရာမရွှေ့ဘဲ ပြန်ပြောသည်။

အမှန်တကယ်ပင် နေ့ဖြစ်သည်။ ဝင်းဘက်ရှိ တံခါးများကို ဖွင့်ထားသည်။ လယ်သမားများ ဝင်လာကြသည်။ သူတို့နဲ့ အော်လဂါပါ ပါလာသည်။ ကေက အော်လဂါကို လုံးဝမေ့နေသည်။ သူမ၏ဆံပင်နှင့် အဝတ်အစားများ က ကပိုကရို ဖြစ်နေကြသော်လည်း သူမက မနေ့ညကလိုပင် လန်းဆန်း လျက်ရှိသည်။ တံခါးဝသို့ ရောက်ရောက်ချင်းပင် သူမ၏မျက်လုံးများက ကေထံသို့ ရောက်လာသည်။

"အစ်ကို ညီမနဲ့အတူ ဘာဖြစ်လို့ ပြန်မလိုက်တာလဲ။ ဒီသတ္တဝါမအတွက်ကြောင့်လား"

အော်လဂါက သူမ၏မှတ်ချက်ကို ထပ်တလဲလဲ ရွတ်ဆိုလျက်ရှိသည်။

ခဏတာမျှပျောက်သွားသော ဖရီဒါသည် အဝတ်ထုပ်တစ်ထုပ်နှင့် ပြန်ရောက်လာသည်။ အော်လဂါက စိတ်ထိခိုက်စွာနှင့် တစ်ဖက်သို့ ဖယ် ပေးသည်။

"ကျွန်မတို့ သွားလို့ရပြီ"

ဖရီဒါက ပြောလိုက်သည်။ သူမက တံတားနားက တည်းခိုခန်းကို ဆိုလိုခြင်း ဖြစ်သည်။ ဖရီဒါနှင့်အတူ ကေ လျှောက်သွားသည်။ လက်ထောက်နှစ် ယောက်နောက်မှ လိုက်သွားသည်။ လှည့်လည်ပွဲလေး တစ်ခုပမာ ဖြစ်သည်။

လယ်သမားတွေက ဖရီဒါကို စက်ဆုပ်ဟန်ပြကြသည်။ တစ်ယောက်က ဆိုလျှင် သူမကို တားသည့်အနေဖြင့် တုတ်ချောင်းတစ်ခုဖြင့် ထားသည်။ သူမက တုတ်ပေါ်ကနေ ခုန်ကျော်သွားသည်။ ကာ

သူတို့တစ်တွေ နှင်းတောထဲသို့ ရောက်ရှိသွားသောအခါ ကေမှာ အသက်ရှူရ ချောင်သွားသည်။ လေဟာပြင်ထဲသို့ ရောက်ရှိသွားကာ သွားရလာရသည်မှာ သက်သောင့်သက်သာ ရှိသွားသည်။ သူတစ်ယောက်တည်း ဆိုလျှင် သည့်ထက်ပင် နေလို့ထိုင်လို့ ကောင်းပေလိမ့်မည်။

တည်းခိုခန်းသို့ရောက်သောအခါ ကေသည် သူ့အခန်းသို့တန်းသွားပြီး ခုတင် ပေါ်တွင် လှဲချလိုက်သည်။ ဖရီဒါက ကေ၏ဘေး ကြမ်းပြင်ပေါ်တွင် သူမအတွက် အိပ်ရာ ပြင်လိုက်သည်။ လက်ထောက်နှစ်ယောက်လည်း လိုက်ဝင်လာကြသည်။

မောင်းထုတ် လိုက်သောအခါတွင်လည်း သူတို့သည် ပြတင်းပေါက်မှနေပြီး ပြန်ဝင်လာကြသည်။ ကေသည် အထူးပင် ပင်ပန်း နေပြီဖြစ်၍ သူတို့ကို ထပ်ပြီး မောင်းမထုတ်နိုင်တော့ပါ။

တည်းခိုခန်းပိုင်ရှင်၏မိန်းမသည် တကူးတကန့်ပင် ဖရီဒါကိုလာပြီး နှုတ်ဆက်သည်။ ဖရီဒါက သူမကို {အမေ} ဟု ခေါ်သည်။ သူတို့နှစ်ယောက် က အထူးပင် ခင်မင်ကြပုံရသည်။ အပြန်အလှန် နမ်းကြသည်။ အကြာကြီး ဖက်ထားကြသည်။

အေးချမ်းမှုနှင့် တိတ်ဆိတ်မှုသည် အခန်းထဲတွင် ခဏကလေးမျှသာ ဖြစ်သည်။ အကြောင်းမှာ အိမ်ဖော်များသည် သူတို့၏ဖိနပ်ကြီးများဖြင့် အခေါက်ခေါက် ဝင်ရောက်လာကြသည်။ တစ်ခုခု ယူလာကြသည်။ တစ်ခုခု လာရှာကြသည်။ သူတို့ လိုချင်တာရှိပြီဆိုလျှင် ကေ၏အောက်မှ အတင်းဆွဲထုတ်ကြသည်။

သူတို့က ဖရီဒါကိုသူတို့၏လုပ်ဖော်ကိုင်ဖက်တစ်ဦးအနေဖြင့် နှုတ်ဆက်ကြသည်။

ဤကဲ့သို့ ဝင်လိုက်ထွက်လိုက်လုပ်နေကြသော်လည်း ကေသည် ခုတင်ပေါ်တွင် တစ်နေ့လုံး နေသည်။ တစ်ညလုံးလည်း ဖြစ်သည်။ ဖရီဒါက သူ၏ ရုံးခန်း ကလေးအဖြစ် ဖန်တီးပေးသည်။ နောက်တစ်နေ့မနက် သူ အိပ်ရာမှ ထသောအခါတွင်ကား သူအများကြီး လန်းဆန်းနေပြီဖြစ်သည်။ ထိုနေ့သည် ထိုရွာသို့ သူ ရောက် ရှိပြီး စတုတ္ထမြောက်နေ့ဖြစ်သည်။

ကေက ဖရီဒါနှင့် တီတီတာတာစကားတွေ ပြောချင်သည်။ လက်ထောက်နှစ်ယောက်က တွယ်ကပ်နေကြသဖြင့် မပြောရ။ ဖရီဒါကလည်း သူတို့နှင့် တစ်ချိန်လုံး ရယ်လား မောလား နောက်လားပြောင်လား ရှိနေသည်။ သူတို့ က အခန်းထောင့်တစ်နေရာတွင် စကတ်ဟောင်းနှစ်ခု ခင်းပြီး ထိုင်နေကြသည်။ ယင်းကလည်း သူ့ကို အလေးပြုသည့် အနေဖြင့် ဖြစ်သည်။ သူတို့က မြေတိုင်းစာရေးအား အနှောင့်အယှက်မပေးဖို့ ဖရီဒါကို တဖွဖွ သတိပေးနေကြသည်။ အခန်းထဲမှာ နေရာသိပ်မယူမိအောင်လည်း သတိထားနေ ကြသည်။ သူတို့က စကားတွေ ကောင်းနေကြသော်လည်း အခန်းထောင့်မှာ ပေကတ်ပြီး ထိုင်နေကြသည်။ အဝတ်ထုပ်ကြီး တစ်ခုလားဟု အောက်မေ့ရသည်။ နေ့ခင်းဘက် အတွေ့အကြုံအရ သူတို့သည် မျက်ခြည်မပြတ် စောင့် ကြည့်နေတတ်သူများ ဖြစ်ကြောင်းတော့ သိရှိပါသည်။ သူတို့မျက်လုံးတွေ က သူ့ဆီသို့ အမြဲတမ်း ရောက်နေကြသည်။ သူတို့ ကလေးတွေလို လက်ကို မှန်ပြောင်းသဏ္ဍာန်လုပ်ပြီး ကြည့်တတ်ကြသည်။ သူတို့၏ မုတ်ဆိတ်မွေး တွေကို ပွတ်သပ်ရင်း အမှတ်မထင် လှမ်းကြည့် တတ်ကြသည်။ မည်သူက မုတ်ဆိတ်မွေး ပိုထူသည်၊ သို့မဟုတ် ပိုချွန်သည်ဟုလည်း ပြိုင်တတ် ကြသည်။ ဖရီဒါက ဒိုင်လူကြီး ဖြစ်သည်။ သူတို့တစ်တွေ၏ ရယ်စရာကောင်းသည့် အပြုအမူများကို ကေက အိပ်ရာပေါ်မှနေပြီး ဘာမှ အမှုမထားသလို ကြည့်နေသည်။

သူ အိပ်ရာမှ ထလိုက်သောအခါ သူ့အား ပြုစုရန် သူတို့အားလုံး ပြေးလာကြသည်။ သူက နေလို့ သိပ်မကောင်းသေးသဖြင့် သူတို့၏ပြုစုမှုကို မ ငြင်းဆန်နိုင်ပါ။ သူက သူတို့အပေါ်မှာ မှီခိုနေရတုန်းပဲ ရှိသည်။ ယင်း အတွက် မကောင်းတဲ့ နောက်ဆက် တွဲများ ရှိလာနိုင်သည်။ သို့သော် သူ မတတ်နိုင်ပါ။ ဖရီဒါ ဖျော်လာသော ကော်ဖီကို သောက်ရသည်မှာ မ ကောင်းပါ။ ဖရီဒါ မွှေးပေးသော မီးဖိုကို လှုံရသည်မှာ မကောင်းပါ။ လက်ထောက်နှစ်ယောက် သူ့အတွက် ဆက်တိုက် အောက်ဆင်းလိုက် တက် လိုက် လုပ်နေကြသည်မှာ မကောင်းပါ။ သူတို့က ရေနှင့် ဆပ်ပြာ ယူလာ ပေးသည်။ ဘီးနှင့် မှန် ယူလာပေးသည်။ သူက တိုးတိုးကလေး ရမ်သောက် ချင်သည်ဟု ပြောလိုက်လျှင် သူတို့က ရမ် ယူလာပေးသည်မှာလည်း မ ကောင်းပါ။ သူတို့၏ ပြုစုမှုအတွက် နောက် ဆက်တွဲ အကျိုးဆက်များ ရှိလာနိုင်သည်။ သို့သော် မငြင်းဆန်နိုင်ပါ။ ကေက ယင်းကဲ့သို့မှာကြားရန် စောင့်ဆိုင်းရင်းကြားကပင် ပြောလိုက်သည်။

"မင်းတို့နှစ်ယောက် သွားကြတော့။ လောလောဆယ်မှာ မင်းတို့ကို ငါ မလိုဘူး။ ငါ ဖရော်လင်း ဖရီဒါနဲ့ ပြောစရာတွေရှိတယ်"

သူတို့၏မျက်နှာပေါ်တွင် ဆန့်ကျင်သည့် အရိပ်အယောင်များ မပေါ်သည့် တိုင်အောင် သူက ချွေးသိပ်သည့်အနေဖြင့်

"နောက်ပိုင်းကျမှ ငါတို့သုံးယောက် ကျေးရွာဥက္ကဋ္ဌကြီးကို သွားတွေ့ကြမယ်။ အဲဒီတော့ အောက်ထပ် ယမကာခန်းကနေ ငါ့ကို စောင့်နေကြ"

သူ့စကားကို သူတို့ နားထောင်ကြသည်။ သို့သော် မသွားခင် သူတို့က ပြောကြသည်။

"ကျွန်တော်တို့ ဒီကနေလည်း စောင့်နိုင်ပါတယ်"

"ငါသိတယ်၊ ဒါပေမဲ့ မင်းတို့ ဒီကနေ စောင့်နေတာကို ငါ မကြိုက်ဘူး"

လက်ထောက်နှစ်ယောက် ထွက်သည်နှင့်တစ်ပြိုင်နက် ဖရီဒါက သူ့ပေါင်ပေါ် လာထိုင်သည်။ သူ ကသိကအောက် ဖြစ်သွားသော်လည်း သဘောကျကျေနပ်သည်။

"လက်ထောက်တွေကို အချစ် ဘာဖြစ်လို့ မောင်းထုတ်ရတာလဲ။ ညီမတို့အနေ နဲ့ သူတို့ကို ဘာမှလျှို့ဝှက်စရာ မရှိဘူး။ ပြီးတော့ သူတို့က မိတ်ဆွေကောင်းတွေပဲ"

"မိတ်ဆွေကောင်းတွေ၊ ဟုတ်လား။ သူတို့က အစ်ကို့ကို အမြဲတမ်း ချောင်းကြည့်နေကြတာပဲ။ ဒါ စိတ်ပျက်စရာပဲ"

"အချစ် ဘာကိုဆိုလိုတယ်ဆိုတာ ညီမ သိပါတယ်"

သူမက သူ၏လည်ပင်းကို သိုင်းဖက်လိုက်ပြီး .. တစ်ခုခုပြောရန် ကြိုးစားသည်။ သို့သော် ပြောသည့်အဆင့်သို့ မရောက်ပါ။ သူတို့၏ ကုလားထိုင်များသည် ခုတင်နှင့် နီးလွန်းနေသဖြင့် သူတို့နှစ်ယောက်သည် ခုတင်ပေါ်သို့ လိမ့်ကျသွားကြသည်။

ထိုအချိန်တွင် အိမ်ဖော်များ ဝင်လာကြသည်။ "ကြည့်စမ်း၊ သူတို့ ဘယ်လိုအိပ်နေကြတာလဲ"

တစ်ယောက်က စာနာထောက်ထားစွာဖြင့် စောင်ခြုံပေးလိုက်သည်။

အတန်ကြာသောအခါ ကေသည် စောင်ခြုံထဲမှ ထွက်လိုက်ပြီး ဘေးဘီကို ကြည့်သည်။ လက်ထောက်နှစ်ယောက်တို့ အခန်းထောင့်တွင် ရှိနေကြသည်။ ကေ မအံ့သြပါ။ သို့သော် သူတို့အပြင် တည်းခိုခန်းပိုင်ရှင်၏ မိန်းမ အဘွားကြီး ရှိနေသည်။ သူမက ခုတင်အနီးမှာ ထိုင်ပြီး သားမွေးထိုး နေသည်။

"ကျုပ် ဒီနေရာမှာရှိနေတာ ကြာလှပြီ"

အဘွားကြီးက ပြောသည်။ သူမ၏အသံက မနှစ်မြို့ဟန်ရှိသည်။ ကေက သူမ ရောက်ရှိနေသည်ကို မကြိုက်ပါ။ ထို့ကြောင့် သူက ခေါင်းညိတ်လိုက် ပြီး ထထိုင်သည်။ ဖရီဒါလည်း ထထိုင်သည်။ ကေက အဘွားကြီး၏ ကုလားထိုင်ပေါ်တွင် ထိုင်နေသည်။

"အဒေါ်ကြီး ကျွန်တော့်ကို ပြောစရာရှိရင် ကျွန်တော် ကျေးရွာဥက္ကဋ္ဌနဲ့တွေ့ပြီး ပြန်လာတဲ့အထိ မစောင့်နိုင်ဘူးလား။ ကျွန်တော် သူနဲ့ အရေးကြီးတဲ့ ကိစ္စ ရှိလို့ပါ"

"ကျုပ်ကိစ္စက အရေးကြီးပါတယ် လူကြီးမင်း။ ဆရာ့ရဲ့အခြားကိစ္စက

အလုပ် ကိစ္စပဲ ဖြစ်ပါလိမ့်မယ်။ ကျုပ်ကိစ္စက သက်ရှိလူတစ်ယောက်နဲ့ ဆိုင် ပါတယ်။ ဖရီဒါနဲ့ ဆိုင်ပါတယ်"

"အို ဟုတ်လား။ ဒါဆိုရင် အဒေါ်ကြီးပြောတာ မှန်ပါတယ်။ ဒါပေမဲ့ ဒီကိစ္စက ကျွန်တော်တို့ အချင်းချင်း ဖြေရှင်းရမှာပါ။ ဘာဖြစ်လို့လဲဆိုတော့ ဖရီဒါ ကို ကျုပ် ချစ်လို့ပဲ။ ဖရီဒါကို ကျုပ် အလေးထားလို့ပဲ"

အဘွားကြီးက ဖရီဒါ၏ခေါင်းကို သူမဘက်သို့ ဆွဲယူလိုက်သည်။

"ဖရီဒါက အဒေါ်ကြီးကို ဒါလောက် ယုံကြည်လေးစားမှု ရှိတယ်ဆိုရင် ကျွန်တော်ကလည်း ဒီအတိုင်းပါပဲ။ ဖရီဒါက စောစောက ပြောတယ်။ ကျွန်တော့် လက်ထောက်တွေဟာ မိတ်ဆွေကောင်းတွေတဲ့။ ကျွန်တော်တို့ အားလုံးဟာ မိတ်ကောင်း ဆွေကောင်းတွေပါပဲ။ အဲဒီတော့ ကျွန်တော် ပြောပါ့မယ်။ ဖရီဒါနဲ့ ကျွန်တော့်အတွက် အကောင်းဆုံးကတော့ လက်ထပ်ကြဖို့ ပါပဲ။ မြန်နိုင်သမျှ မြန်လေ ကောင်းလေပါပဲ။ ဖရီဒါဟာ ကျွန်တော့်အတွက် အများကြီး နစ်နာဆုံးရှုံးခဲ့ရတယ်။ ဟာရင်ဟော့ တည်းခိုခန်းက အလုပ် ဆုံးရှုံးခဲ့တယ်။ ဟာကလမ်နဲ့ ဆက်ဆံရေး ပျက်ပြားခဲ့ရတယ်။ ဒါတွေ အတွက် ကျွန်တော် ဘယ်လိုပေးဆပ်လို့မှ ကုန်နိုင်မှာ မဟုတ်ပါဘူး"

ဖရီဒါ ခေါင်းမော့လိုက်သည်။ သူမ၏မျက်လုံးတွင် မျက်ရည်များ ရွှဲစို နေသည်။ အောင်မြင်ခြင်း အစအန တစ်စက်ကလေးမှ မတွေ့ရပါ။

"ဘာဖြစ်လို့လဲ၊ ဘာဖြစ်လို့ ကျွန်မကို တခြားလူတွေကနေ ခွဲထုတ်ပြီး ပြောရတာလဲ"

"ဘာပြောတယ်"

ကေနှင့် အဘွားကြီး ပြိုင်တူမေးလိုက်သည်။

"သူ တုန်လှုပ်ချောက်ချား သွားတယ်။ စိတ်ထိခိုက်စရာတွေနဲ့ သိပ်ပြီး ဝမ်းသာစရာတွေ ပေါင်းပြီး တုန်လှုပ်သွားတာပဲ"

အဘွားကြီးက ပြောလိုက်သည်။

ဖရီဒါက အဘွားကြီး၏စကားကို ထောက်ခံသည့်အနေဖြင့် ကေကို တ အား သိုင်းဖက်လိုက်သည်။ ပြီးတော့ ကေကို အငမ်းမရ နမ်းနေသည်။ အခန်းထဲမှာ အခြား ဘယ်သူမှ မရှိတဲ့အတိုင်းပင်။

ပြီးတော့ သူမ ငိုရှိုက်သည်။ ကေကို ဖက်ထားဆဲပင် ဖြစ်သည်။ ကေ၏ ရှေ့တွင် ဒူးထောက်ပြီး ကျသွားသည်။ ကေက ဖရီဒါ၏ဆံပင်များကို လက်နှစ် ဖက်ဖြင့် ယုယစွာ ပွတ်သပ်ရင်း အဘွားကြီးကို မေးလိုက်သည်။

"အဒေါ်ကြီး မကန့်ကွက်ဘူးမဟုတ်လား"

"လူကြီးမင်းက ဂုဏ်သိက္ခာရှိတဲ့ လူတစ်ယောက်ပါ"

အဘွားကြီးမှာလည်း မျက်ရည်တွေ စီးကျနေသည်။ သူမက အနည်းငယ် ပန်းလျနေပုံ ရသည်။ အသက်ကို ကြိုးစားပြီး ရှူနေရသည်။ သို့သော် နောက်ဆုံးတွင် သူမက အားယူပြီး ပြောလိုက်သည်။

"လောလောဆယ်မှာ ပြဿနာက တစ်ခုပဲရှိတယ်။ ဆရာက ဖရီဒါကို ဘာ အာမခံချက် ပေးမလဲ။ ဆရာ့ကို ကျုပ် လေးစားပါတယ်။ ဒါပေမဲ့ ဆရာက

မှာ သူစိမ်းတစ်ယောက်ပဲ။ ဆရာ့အကြောင်းကို ဘယ်သူမှ မသိကြဘူး။ ဆရာ့ရဲ့မိသားစု အခြေအနေကို ဘယ်သူမှ မသိကြဘူး။ အဲဒီတော့ အာမခံချက် တစ်ခုတော့ လိုအပ် ပါတယ်။ ဆရာ သဘောပေါက်ပါလိမ့်မယ်။ ဆရာ ကိုယ်တိုင်လည်း ပြောခဲ့ပါတယ်။ ဆရာ့ကြောင့် ဖရီဒါမှာ အများကြီး နစ်နာ ခဲ့ရတယ်လို့"

"ဟုတ်ပြီ၊ အာမခံချက် ရှိရမှာပေါ့" ကေက ပြောလိုက်သည်။ "ဒါပေမဲ့ အဲ ဒါ တွေကို နိုတြီရှေ့နေ တစ်ယောက်ရှေ့မှာ ပြောမှကောင်းမယ်။ ပြီးတော့ တစ်ချိန်တည်းမှာပဲ မြို့စားကြီးရဲ့ အရာရှိတွေလည်း ရှိနေရင် ကောင်းမယ်။ နောက်ပြီးတော့ လက်မထပ်ခင်မှာ ကျွန်တော် လုပ်စရာ တစ်ခုရှိတယ်။ ကလမ်နဲ့ ကျွန်တော် စကားပြောရမယ်"

"ဒါ မဖြစ်နိုင်ဘူး။ ဘယ်လိုစိတ်ကူးလဲ"

ဖရီဒါက ပြောလိုက်သည်။ ကိုယ်ကို အနည်းငယ် ဆန့်လိုက်ပြီး ကေကို ဖိကပ် ထားလိုက်သည်။

"ဒါက လုပ်ကိုလုပ်ရမယ်။ အစ်ကို့အနေနဲ့ မလုပ်နိုင်ဘူးဆိုရင် ညီမ လုပ်ရ မယ်"

"ညီမ မလုပ်နိုင်ဘူး။ ညီမ မလုပ်နိုင်ဘူး။ ကလမ်က အစ်ကို့ကို ဘယ်တော့ မှ စကားပြောမှာ မဟုတ်ဘူး။ အစ်ကို ဘယ်လိုလုပ်ပြီး ဒါမျိုး စဉ်းစားမိတာ လဲ"

"သူက ညီမကို စကားမပြောဘူးလား"

"ညီမကိုလည်း ပြောမှာမဟုတ်ဘူး။ အစ်ကို့ကိုလည်း မပြောဘူး။ ဒါ ဘယ်လိုမှ မဖြစ်နိုင်တဲ့ ကိစ္စပဲ"

ထို့နောက် သူမက အဘွားကြီးဘက်သို့ လှည့်လျ

က်"သူ ဘာတွေပြောနေတာလဲ အမေ"

"ဆရာက လူထူးလူဆန်းတစ်ယောက်ပဲ"

တည်းခိုခန်းပိုင်ရှင်မကြီးက ပြောလိုက်သည်။ သူမ၏ကိုယ်ခန္ဓာကြီးက အံ့ သြဖွယ်ဖြစ်သည်။ သူမက ကိုယ်ကို ပိုဆန့်လိုက်ပြီး ခြေထောက်များကို ကားထားသည်။ သူမ၏ ရောမ ဒူးခေါင်းကြီးများက ပါးလွှာသော စကတ် အောက်မှ ထိုးထွက် နေသည်။

"ဆရာက မဖြစ်နိုင်တာကို ပြောနေတာပဲ"

"ဘာဖြစ်လို့ မဖြစ်နိုင်ရမှာလဲ"

"အဲဒါကို ပြောမလို့ပဲ။ ကျုပ်က ရဲတိုက်ကြီးက မဟုတ်ဘူး။ သာမန် မိန်းမ တစ်ယောက်ပဲ ဖြစ်တယ်။ အဆင့်အနိမ့်ဆုံး တည်းခိုခန်းမတစ်ခုရဲ့ (အဆင့် အနိမ့်ဆုံးတော့ မဟုတ်ပါဘူး။ ဒါပေမဲ့ အဲဒါနဲ့ သိပ်မကွာခြားလှပါဘူး) ပိုင်ရှင်တစ်ယောက်သာ ဖြစ်တဲ့အတွက် ကျုပ်စကားကို ဆရာ သိပ်အလေးမ

ထားတာ ဖြစ်နိုင်ပါတယ်။ ဒါပေမဲ့ ကျုပ်ဘဝတစ်လျှောက်လုံးမှာ ကျုပ် မျက်လုံးတွေ ဖွင့်ထားတာဖြစ်လို့ ကျုပ်က လူပေါင်းစုံနဲ့ တွေ့ခဲ့ဖူးပါတယ်။ ပြီးတော့ ဒီတည်းခိုခန်းရဲ့ တာဝန်တစ်ခုလုံးကို ကျုပ် ထမ်းဆောင်ခဲ့ရတယ်။ မာတင်က တည်းခိုခန်းပိုင်ရှင် မဟုတ်ပါဘူး။ သူဟာ လူကောင်း တစ် ယောက်ဖြစ်ပေမဲ့ တာဝန်ဆိုတာကို မသိဘူး။ ဥပမာပြရရင် သူ့ရဲ့ ပေါ့ဆမှု ကြောင့် ဆရာလေးဟာ ဒီရွာမှာ ရှိနေရတာပဲ။ ဒီခုတင်ပေါ်မှာ အခုလို အေးအေးဆေးဆေး ထိုင်နေနိုင်တာပဲ"

ကေ မေးလိုက်သည်။ စိတ်မဝင်စားဘဲ ဖြစ်နေရာမှ ရုတ်တရက် နိုးကြား လာသလိုမျိုး ဖြစ်သည်။ စိတ်ဝင်စားသွားဟန်ထက် ဒေါသဖြစ်သွားဟန်ရှိသည်။

"သူ့ရဲ့ပေါ့ဆမှုကြောင့် ဆရာ အခုလို တွေးထင်နိုင်တာပဲ"

သူက ကေကို လက်ညှိုးထိုးပြီး ပြောသည်။ ဖရီဒါက သူမကို မပြောရန် တားသည်။

"မပြောလို့မဖြစ်ဘူး"

သူမက ချာခနဲ တစ်ကိုယ်လုံး လှည့်လိုက်ပြီး ပြောသည်။

"မြေတိုင်းစာရေးကြီးက ကျုပ်ကို မေးခွန်းတစ်ခုမေးတယ်။ အဲဒါကို ကျုပ်က ဖြေရမယ်။ တို့နားလည်ထားတဲ့ အချက်ကို သူ နားလည်သွားအောင် တခြားနည်းလမ်း မရှိဘူး။ ဟာကလမ်က သူ့ကို ဘယ်တော့မှ စကားပြောမှာ မဟုတ်ဘူး။ ဘယ်တော့မှ စကားပြောနိုင်မှာမဟုတ်ဘူး။ ကျုပ်စကားကို နားထောင်ပါ။ ဟာကလမ်က ရဲတိုက်ကြီးက လူကြီးမင်းတစ်ယောက် ဖြစ်တယ်။ အဲဒီရဲတိုက်ကြီးမှာ သူ ဘယ်အဆင့်ရှိတာ ထားတော့။ ရဲတိုက်ကြီး က လူကြီးမင်းတစ်ယောက် ဖြစ်တယ်ဆိုတာနဲ့တင် သူဟာ အဆင့်မြင့်တဲ့ ပုဂ္ဂိုလ်တစ်ယောက်ဆိုတာ လုံလောက်နေပြီ။ ဒါပေမဲ့ ဆရာက ဘယ်သူလဲ။ ဆရာက ရဲတိုက်ကြီးက မဟုတ်ဘူး။ ရွာထဲကလည်း မဟုတ်ဘူး။ ဘယ်ကမှ မဟုတ်ဘူး။ ဆရာက သူစိမ်းတစ်ယောက်ပဲ။ ဆရာက အလိုမရှိတဲ့ လူတစ် ယောက်ပဲ။ နေရာတိုင်းမှာ ပြဿနာတွေ ဖော်နေတဲ့ လူတစ်ယောက်ပဲ။ အိမ်ဖော်တွေရဲ့ အခန်းမှာနေတဲ့ လူတစ်ယောက်ပဲ။ ရည်ရွယ်ချက်တွေ မှေးမှိန်နေတဲ့ လူတစ်ယောက်ပဲ။ တို့ရဲ့အချစ် ကလေး ဖရီဒါကို ဖျက်ဆီးခဲ့တဲ့ လူတစ်ယောက်ပဲ။ ဒါတွေအားလုံးဟာ ဆရာ့ကို အပြစ် ပြောနေတာမဟုတ် ပါဘူး။ ကျုပ်ဟာ အမှန်ကို အမှန်အတိုင်းမြင်တတ်တဲ့ လူ တစ်ယောက်ပါ။ ဆရာ ဘာကိုဆိုလိုချင်သလဲဆိုတာကို ကျုပ်စဉ်းစားတယ်။ ကလမ်လို ပုဂ္ဂိုလ်တစ်ယောက်က ဆရာနဲ့ စကားပြောရမယ်။ ဆရာ့ကို ဖရီဒါကချောင်းကြည့်ခွင့် ပေးတာကို ကျုပ် နားမလည်ဘူး။ ဒီမှာ သူဟာ ဆရာ့ ကြောင့် ပျက်စီးတာပဲ။ ပြောစမ်းပါဦး၊ ဆရာက ဘယ်လိုလုပ်ပြီး ကလမ်နဲ့ မျက်နှာချင်းဆိုင်ချင်တာလဲ။ ဆရာက တွေ့နိုင်တယ်လို့ ယူဆထားလို့ပဲ။ ဆရာ သူနဲ့ မတွေ့နိုင်ပါဘူး။ ဒါကိုပြောတာ မဟုတ်ဘူး။ ကျုပ်လည်း မတွေ့ နိုင်ပါဘူး။ ကလမ်က ရွာထဲက ဘယ်သူနဲ့မှ စကား မပြောပါဘူး။ ဖရီဒါတစ် ယောက်ကပဲ ထူးခြားချက် ရှိတယ်။

ဒီထူးခြားချက်အတွက် ကျုပ် ဂုဏ်ယူပါတယ်။ ဖရီဒါရဲ့နာမည်ကိုတောင် သူ အော်ခေါ်တယ်။ ဖရီဒါပဲ သူနဲ့ စကားပြောနိုင်တယ်။ ချောင်းကြည့်ပေါက်ကို အသုံးပြုနိုင်တယ်။ ဖရီဒါဟာ တစ်ချိန်က သူနဲ့ ငြိစွန်းခဲ့တယ်။ ဒါပေမဲ့ အခုဆိုရင် ဖရီဒါလည်း သူ့ရှေ့ကို ဝင်လို့မရတော့ဘူး။ သူ့ဆီက ထွက်ခဲ့လို့ပဲ။ ကျုပ် တစ်ခုပဲ နားမလည်နိုင် တာကတော့ တစ်ချိန်က ကလမ်ရဲ့ အပျော်မယားဖြစ်ခဲ့တဲ့ ဖရီဒါဟာ ဘာ ဖြစ်လို့များ ဆရာရဲ့လက်ထဲကို ရောက်ရတာလဲ"

"ဒါဟာ မှတ်သားလောက်စရာပဲပေါ့"

ကေက ပြောလိုက်ပြီး ဖရီဒါကို သူ့ရင်ခွင်ထဲသို့ ဆွဲယူလိုက်သည်။ သူမ ကလည်း ခေါင်းကလေးကို ငုံ့ပြီး တိုးဝင်သည်။ ကေ ဆက်ပြောသည်။

"ဒါဟာ တချို့နေရာတွေမှာ အဒေါ်ကြီးရဲ့အမြင်တွေ မှားနေတယ်ဆိုတာကို ပြတာပဲ။ ကျွန်တော်ဟာ ကလမ်နဲ့ နှိုင်းယှဉ်စရာ မဟုတ်ဘူးလို့ အဒေါ်ကြီး ပြောတာ မှန်ပါတယ်။ ဒါပေမဲ့ ဒီအချက်က ကျွန်တော့်ကို မတားနိုင်ပါဘူး။ ကျွန်တော်တို့ဟာ တံခါးတစ်ချပ်မခြားမီ မျက်နှာချင်းဆိုင် တွေ့နိုင်ကြပါတယ်။ ကျွန်တော် သူ့ကို {ဟာရင်ဟော့} တည်းခိုခန်းမှာ သွားတွေ့နိုင်ပါ တယ်"

"ဒါ မဖြစ်နိုင်ဘူး။ ဒါပေမဲ့ ကလမ်ကို ဆရာ ဘာဖြစ်လို့တွေ့ချင်တာလဲ"

"ဖရီဒါအကြောင်း ပြောမလို့ပေါ့"

"ဖရီဒါအကြောင်း ဟုတ်လား"

အဘွားကြီး သံယောင် လိုက်လိုက်သည်။ ထို့နောက် ဖရီဒါဘက်သို့လှည့် ကာ

"ဖရီဒါ ကြားလား။ နင့်အကြောင်းကို ပြောချင်လို့ ကလမ်ကို တွေ့ချင်တာ တဲ့"

"ဒီကိစ္စကို ဖရီဒါ ဘယ်လိုသဘောရသလဲ။ ဖရီဒါကိုယ်တိုင် ပြောစမ်းပါ"

ကေက မေးလိုက်သည်။

သူမက အဝေးဆီသို့ ရီမျှော်နေသည်။ သူမ၏ပါးပြင်ကို ကေ၏ရင်အုပ်တွင် ကပ်ထားသည်။

"အမေပြောတာ မှန်တယ်။ ကလမ်ဟာ ညီမနဲ့ ဘာမှပတ်သက်စရာ မရှိတော့ဘူး။ ဒါပေမဲ့ ဒီလိုဖြစ်ရတာဟာ အစ်ကို့ကြောင့် မဟုတ်ပါဘူး။ ဒီလို ပြဿနာမျိုးက သူ့ကို အနှောင့်အယှက် မဖြစ်ပါဘူး။ နောက်တစ်မျိုး တွေးမိ တာကတော့ ညီမတို့ နှစ်ယောက် အရက်ကောင်တာအောက်မှာ တွေ့ခဲ့ကြရ တာဟာ သူ့လက်ရာပဲ။ အဲဒီ အချိန်တွေအတွက် ညီမတို့ကို အပြစ်တင်ဖို့ မ လိုပါဘူး။ ဂုဏ်ပြုဖို့ပဲ လိုပါတယ်"

ဖရီဒါ၏စကားလုံးများ ချိုမြိန်လှသည်။ ယင်းချိုမြိန်မှုများ သူ့ရင်တွင်းသို့ စိမ့်ဝင်သွားစေရန် ကေက သူ့မျက်လုံးများကို တစ်ခဏ နှစ်ခဏမျှ မှိတ်ထား လိုက်သည်။

ထို့နောက်

"ဒါဆိုရင် ကလမ်နဲ့တွေ့ဆုံရေးကို နောက်ဆုတ်ဖို့အခြေအနေ ပိုနည်းသွားတာပေါ့"

"ဘုရား ဘုရား၊ လူကြီးမင်းက ကျွန်မယောက်ျားလိုပဲ အင်မတန် ကလေးဆန်ပြီး ခေါင်းမာတာပဲ။ ဆရာက ရွာမှာ သုံးလေးရက်ပဲ နေရသေးတယ်။ ဒီမှာ တစ်သက်လုံး နေလာတဲ့လူတွေထက် ပိုပြီးသိတယ်လို့ ထင်နေတယ်။ ကျုပ်လိုအဘွားကြီး တစ်ယောက်ထက် ပိုသိတယ်လို့ ထင်နေတယ်။ ဟာရင်ဟော့ တည်းခိုခန်းမှာ အများကြီး ကြားခဲ့ မြင်ခဲ့ရတဲ့ ဖရီဒါထက် ပိုသိတယ် လို့ ထင်နေတယ်။ ထုံးတမ်းစဉ်လာအရ တစ်ခုခုဟာ ဖြစ်နိုင်တယ်ဆိုတာ ကျုပ် မငြင်းပါဘူး။ ဒါပေမဲ့ ဘူးခါပြီး သူများပေးတဲ့ အကြံကောင်း ဉာဏ်ကောင်းတွေကို ငြင်းဆန်နေတဲ့ လူတစ်ယောက်အဖို့တော့ ဘာမှ ဖြစ်မလာနိုင်ပါဘူး။ ကျုပ်က ဆရာ့အတွက် ပူပန်နေတယ်လို့များ ထင်နေသလား။ ဆရာ့ဘာသာ ဆရာဆိုရင် ကျုပ်အနေနဲ့ ဘာမှထည့်တွက်နေစရာ မရှိပါဘူး။ ကျုပ် ယောက်ျားကို ကျုပ်ပြောတဲ့ စကားတစ်ခွန်းလည်း ရှိပါတယ်။ (သူနဲ့ပတ်သက်လာရင် ရှင် ဝေးဝေးရှောင်ပါ} လို့။ ဖရီဒါသာ ဆရာနဲ့ ပတ်သက်မနေရင် ကျုပ်လည်း ဒီအတိုင်း လုပ်မှာပဲ။ ဖရီဒါကို ဆရာ ကျေးဇူးတင်ထိုက်တယ်။ ဆရာကြိုက်သည်ဖြစ်စေ မကြိုက်သည်ဖြစ်စေ ဖရီဒါကြောင့်သာ ကျုပ် ဆရာ့ကို သတိပြုမိနေတာပဲ။ နောက်ပြီးတော့ ကျုပ် ကို ဆရာ ပစ်ပယ်လို့မရဘူး။ ဖရီဒါကလေးကို စောင်မ ကြည့်ရှုနေတဲ့လူ ကျုပ်တစ်ယောက်ပဲ ရှိတယ်။ ဖရီဒါပြောတာ မှန်ကောင်း မှန်ပါလိမ့်မယ်။ ဒါတွေအားလုံး အခုလိုဖြစ်တာဟာ ကလမ်ရဲ့ အလိုဆန္ဒအရပဲ ဆိုတာ။ ဒါပေမဲ့ ကျုပ်က ကလမ်နဲ့ ဘာမှပတ်သက်စရာ အကြောင်းမရှိဘူး။ ဆရာ က ဒီမှာ ခုနပြီး ဖရီဒါကိုလည်း ခေါ်ထားတယ်။ ကျုပ်ပြောစရာရှိတဲ့ စကား ာ့ ပြောရလိမ့်မယ်။ လူကြီးမင်းအနေနဲ့ ရွာထဲ တစ်နေရာရာမှာ နေဖို့ နေ ့ ရှာထားပါ။ ဒီကနေ လူကြီးမင်းကို ကျုပ် မောင်းထုတ်လိုက်ရင် နေဖို့အတွက်ပါ"

"ကျေးဇူးတင်ပါတယ်။ အဒေါ်ကြီးစကားက ပွင့်လင်းပါတယ်။ အဲဒီတော့ကျုပ်ရဲ့ အနေအထားက မရေရာဘူးလား။ ဖရီဒါရဲ့ အနေအထားကရော ဒီအတိုင်းပဲလား"

"ဟင့်အင်း၊ ဖရီဒါရဲ့ အနေအထားက လူကြီးမင်းနဲ့ ဘာမှမဆိုင်ဘူး။ ဖရီဒါ က ဒီအိမ်နဲ့ဆိုင်တယ်။ သူ့အနေအထားက မရေရာဘူးလို့ ဘယ်သူကမှ မ ပြောနိုင်ဘူး"

"ဟုတ်ပြီ ဟုတ်ပြီ၊ ကျုပ်အနေအထားက မရေရာဘူးပေါ့။ အဒေါ်ပြောခဲ့တဲ့ စကားတွေမှာလည်း မှန်သင့်သလောက်မှန်တာတွေ ရှိပါတယ်။ ဒါပေမဲ့ လုံး ဝကြီးတော့ မမှန်ဘူး။ ဥပမာပြောရရင် ကျုပ်လိုချင်ရင် အခန်း ကောင်းကောင်း တစ်ခုကို ကျုပ် ရနိုင်ပါတယ်"

ကေက ပြောလိုက်သည်။ "ဘယ်မှာလဲ၊ ဘယ်မှာလဲ"

အဒေါ်ကြီးနဲ့ ဖရီဒါတို့ ပြိုင်တူမေးလိုက်ကြသည်။

"ဗာနေဗက်အိမ်မှာ"

"အလကားလူ" အဒေါ်ကြီးက အော်လိုက်သည်။ "ဗာနေဗက် အိမ်မှာတဲ့လား။ မင်းတို့ ကြားကြသလား" သူမက အခန်းထောင့်ဆီသို့ ကြည့်လိုက်သည်။ လက်ထောက် နှစ်ယောက်က ထိုနေရာတွင် မရှိကြတော့။ သူတို့က သူမ၏နောက်တွင် လက်ချင်းချိတ်ပြီး ရပ်နေကြသည်။ သူမက အကူအညီ လိုသည့်အနေဖြင့် လက်ထောက်တစ် ယောက်၏လက်ကို ဆုပ်ကိုင်လိုက်ပြီး "သူ ဗာနေဗက်တို့အိမ်မှာ သွားပြီး အကြည်ဆိုက်နေတယ်ဆိုတာ မင်းတို့ ကြားကြသလား။ အို ဟုတ်ပါတယ်၊ သူ အဲဒီမှာ အိပ်စရာ တစ်နေရာ ရတယ်။ သူက ဟာရင်ဟော့ကို မသွားဘဲ အဲဒီမှာ တစ်ညလုံးနေခဲ့တယ်။ ဒါပေမဲ့ မင်းတို့နှစ်ယောက်က ဘယ်သွားနေကြသလဲ"

"မဒမ်ခင်ဗျား" လက်ထောက်နှစ်ယောက် ဖြေချိန်မရခင်မှာပင် ကေက ပြောလိုက်သည်။ "သူတို့က ကျွန်တော့်ရဲ့ လက်ထောက်တွေပါ။ ဒါပေမဲ့ အဒေါ်ကြီးက ကိုယ့်ရဲ့ လက်ထောက်တွေ အဖြစ်နဲ့၊ ပြီးတော့ ကိုယ် ထိန်းသိမ်းစောင့်ရှောက်ရတဲ့ လူတွေ အဖြစ်နဲ့ ဆက်ဆံနေတယ်။ ကျွန်တော် က ဘယ်ကိစ္စမှာမဆို အဒေါ်ကြီးနဲ့ ယဉ်ကျေး သိမ်မွေ့စွာ ငြင်းခုံချင်ပါတယ်။ ဒါပေမဲ့ ကျွန်တော့်ရဲ့ လက်ထောက်တွေနဲ့ ပတ်သက် လို့တော့မဟုတ်ဘူး။ ဒါက ထင်ရှားတဲ့ ကိစ္စတစ်ရပ်။ ဒါကြောင့်မို့ ကျွန်တော့် လက်ထောက်တွေနဲ့ စကားမပြောဖို့ မေတ္တာရပ်ခံပါတယ်။ ကျွန်တော့် တောင်းပန်ချက် အတိုင်း မဖြစ်ဘူးဆိုရင် ကျွန်တော့် လက်ထောက်တွေကို ဘာမှပြန်မပြောပြဖို့ ပိတ် ပင် ရပါလိမ့်မယ်"

"ဒါဆိုရင် ကျုပ်ကိုကော လူကြီးမင်းနဲ့ စကားပြောခွင့် မပြုဘူးလား"

အဒေါ်ကြီးက ပြောလိုက်ရာ သုံးယောက်စလုံး ရယ်မောကြသည်။ အဒေါ်ကြီးက သရော် လှောင်ပြောင်သည့် အနေဖြင့် ဖြစ်သည်။ လက်ထောက်နှစ် ယောက် ထုံးစံအတိုင်း တာဝန်မရှိသည့် အနေဖြင့် ဖြစ်သည်။

"စိတ်မဆိုးပါနဲ့။ ညီမတို့ ဘာဖြစ်လို့ မတည်မငြိမ် ဖြစ်နေကြရသလဲဆိုတာ အစ်ကို ကြိုးစားပြီး နားလည်ပေးပါ။ ဘာဖြစ်လို့လဲဆိုတော့ အခုလိုဖြစ် ကြရတာ အားလုံးဟာ ဗာနေဗက် မိသားစုကြောင့်ပဲ။ ညီမတို့ဟာ အခု သူ တို့နဲ့ အပြန်အလှန် ပတ်သက်နေကြတယ်။ အစ်ကို့ကို ယမကာခန်းထဲမှာ ပထမဆုံး ညီမမြင်လိုက်ရတော့ အစ်ကိုနဲ့ အော်လဂါ လက်ချင်းတွဲပြီး ဝင်လာကြတယ်။ အင်း.. ညီမက အစ်ကို့ အကြောင်း နည်းနည်းပါးပါး သိထား ပေမဲ့ ညီမက အစ်ကို့ကို ဘာသိဘာသာပဲ နေခဲ့တယ်။ အစ်ကို့ကိုတင်မကပါဘူး၊ အားလုံး အားလုံးကိုပဲ ဘာသိဘာသာပဲ အမှုမထားဘဲ နေခဲ့တယ်။ ဘာ ဖြစ်လို့လဲဆိုတော့ အဲဒီအချိန်က ညီမဟာ ကိစ္စတော်တော် များများကို မ ကျေမနပ် ဖြစ်နေခဲ့တယ်။ စိတ်ထဲမှာ အနှောင့်အယှက် ဖြစ်နေခဲ့တယ်။ ဥပမာပြောရရင် ယမကာအခန်းထဲက ဖောက်သည်တစ်ယောက်က ညီမကို စော်ကား ခဲ့ရင်ပေါ့။ သူတို့က ညီမနောက်ကိုပဲ လိုက်နေကြတယ်။ သူတို့ ဟာ ကလမ်လို လူစားမျိုးတွေ ဆိုတာလည်း အစ်ကို တွေ့ပါတယ်။ ဒါပေမဲ့ သူတို့ထက်ဆိုးတဲ့လူတွေ အများကြီးရှိတယ်။

ကလမ်ရဲ့တပည့်တွေက အဆိုးဆုံးတွေ မဟုတ်ပါဘူး။ ဒါပေမဲ့ သူတို့အထဲက တစ်ယောက်ယောက် စော်ကားခဲ့ရင် ညီမ ဘာဖြစ်သွားမလဲ။ ဒီကိစ္စကို ဟိုးလွန်ခဲ့တဲ့ နှစ်ပေါင်း များစွာက ဖြစ်ခဲ့တာလို့ ညီမ သဘောထား လိုက်တယ်။ ဒါမှ မဟုတ် ဒါဟာ အခြားတစ်ယောက်မှာဖြစ်တာလို့ ယူဆလိုက်တယ်။ ဒါမှမဟုတ် သူများ ပြောတာ ကြားရတာလောက်ပဲလို့ သဘောထားလိုက်တယ်။ ဒါမှမဟုတ် ဒါ ကို ညီမ မေ့ပစ်လိုက်တယ်။ ဒါပေမဲ့ အခုလိုဖြစ်ရတာကို ညီမ ပြောမပြ တတ်ဘူး။ အခုအချိန်မှာ ညီမ မစဉ်းစားတတ်ဘူး။ ကလမ်ကို ဆုံးရှုံးရတဲ့ နောက်ပိုင်းမှာ အားလုံးဟာ ပြောင်းလဲ သွားတယ်"

ဖရီဒါက စကားကို ပြောနေရင်းမှ တိခနဲ ရပ်လိုက်သည်။ ညှိုးငယ်စွာနှင့် ခေါင်းကို နှိမ့်ချလိုက်သည်။ လက်နှစ်ဖက်ကို သူမ၏ရင်ခွင်မှာ ပိုက်ထား လိုက်သည်။

"ဆရာတွေ့တယ် မဟုတ်လား" အဒေါ်ကြီးက ပြောလိုက်သည်။ သူမက သူမကိုယ်တိုင်အနေဖြင့် ပြောသလိုမဟုတ်ဘဲ ဖရီဒါစကားကို ငှားပြီး ပြော သလိုမျိုး ဖြစ်သည်။ သူမက ရှေ့ကို တိုးလာသည်။ ဖရီဒါနှင့်ကပ်ပြီး ထိုင် လိုက်သည်။ "ဆရာ တွေ့တယ်မဟုတ်လား။ ဆရာလုပ်ခဲ့တာတွေနဲ့ ဆရာ့တ ပည့်တွေ ဂ တာကြောင့် အကျိုးတရားတွေ ရရှိနိုင်တယ်။ ဆရာဟာ ဖရီဒါကို သူ့ဘဝရဲ့ မပျော်ရွှင်မှုအခြေအနေ ကနေ ဆွဲယူခဲ့တယ်။ ဆရာနဲ့ အော်လဂါ လက်ချင်း ချိတ်ထားတာကို မကြည့်နိုင်တဲ့ သူ့ရဲ့အခြေအနေကနေအမြတ်ထုတ်ခဲ့တယ်။ ဗာနေဗက်မိသားစုထံ ဆရာရောက်သွား တာကို သူ မကြည့်နိုင်ခဲ့ဘူး။ ဆရာ့ကို အဲဒီဘဝကနေ ကယ်တင်ခဲ့တယ်။ သူ့ကိုယ်သူ အနစ်နာခံခဲ့တယ်။ အခုတော့ ဒါတွေအားလုံး ပြီးခဲ့ပြီ။ ဖရီဒါဟာ ဆရာ့ ပေါင်ပေါ်မှာ ထိုင်နေရဖို့အတွက် သူ့မှာရှိတာတွေ အားလုံးကို ပေးခဲ့ရပြီး ဆရာဟာ ဗာနေဗက်တို့ အိမ်မှာ အိပ်ခဲ့ရတဲ့ နိုင်ဖဲကိုကိုင်ပြီး ကစားနေတာပဲ။ ကျုပ်ကို မှီခိုအားထားနေစရာ မလိုတော့ဘူးဆိုတာကို ပြခဲ့တယ်။ ဆရာ ဟာ အဲဒီအိမ်မှာအိပ်ခဲ့ရတဲ့ အတွက် ကျုပ်ဆီမှာ ဘာမှမှီခိုအားထားစရာ မ လိုတော့ဘူး"

"ဗာနေဗက်မိသားစုအနေနဲ့ ဘယ်လိုဒုစရိုက်မျိုး ကျူးလွန်ထားသလဲဆို တာ ကျုပ် မသိဘူး" ကေက ဖရီဒါကို အသာအယာဆွဲထူရင်း ပြောလိုက်သည်။ သူမက အသက်မရှိသူ တစ်ဦးလို ပျော့ကျသွားသည်။ ကေက ဖရီဒါ ကို ခုတင်ပေါ်တွင် အသာအယာ ထိုင်ပေးလိုက်ပြီး သူကိုယ်တိုင်ကမူ မတ်တတ် ထရပ်လိုက်သည်။ "သူတို့နဲ့ ပတ်သက်ပြီး အဒေါ်ပြောတာ မှန်ပါ လိမ့်မယ်။ ဒါပေမဲ့ ဖရီဒါကို လွတ်လပ်ခွင့်ပေးပြီး ကျုပ်တို့ပြဿနာကို ကျုပ် တို့ဘာသာ ဖြေရှင်းပါရစေလို့ ပြောတာကတော့ တကယ် အမှန်ပဲ။ အဒေါ် က သူ့ကို ဘယ်လောက်ချစ်တယ်၊ ဘယ်လောက် ဂရုစိုက်တယ်လို့ ပြောခဲ့ပေ မဲ့ ကျုပ်တော့ အဲဒါကို သိပ်မတွေ့ရဘူး။ ကျုပ်ကို အတော်ကြီးကို မုန်းပြီး အကြီးအကျယ် လှောင်ပြောင်သရော်ပြီး အဒေါ်ကြီးဆီမှာမနေဖို့ တားမြစ် တာပဲ တွေ့ရတယ်။ အဒေါ်ကြီးဟာ ကျုပ်နဲ့ ဖရီဒါ၊ ဖရီဒါနဲ့ ကျုပ်ကို ခွဲဖို့ကြံ နေတာ ကောင်းတဲ့အလုပ်တစ်ခု ပါပဲ။ ဒါပေမဲ့

ကျုပ်သိတာကတော့ ဒီလို လုပ်လို့ မအောင်နိုင်ပါဘူး။ တကယ်လို့ အောင်မြင်တယ်ဆိုရင်လည်း ကျုပ်ကလဲ ၂၂ နဲ့ပြီး သတိပေးပါရစေ။ အဒေါ်ကြီး နောင်တ ရရပါလိမ့်မယ်။ အဒေါ် ကြီး ကျုပ်ကို ဒီတည်းခိုခန်းမှာ လက်ခံထားတာဟာ အဒေါ်ကြီးသဘောနဲ့ မဟုတ်ပါဘူး။ အထက်အာဏာပိုင်တွေက ခိုင်းလို့ လုပ်ရတာပါ။ ကျုပ်ကို အခုထွက်သွားပါလို့ ပြောနေပြီဆိုတာကို ကျုပ် သူတို့ကို တိုင်ကြား ရပါလိမ့်မယ်။ တကယ်လို့ ကျုပ်ကို တခြားတစ်နေရာမှာထားခဲ့ရင် အဒေါ် ကြီး စိတ်ချမ်းသာ ပါလိမ့်မယ်။ ဒါပေမဲ့ ကျုပ်လောက်တော့ စိတ်ချမ်းသာမှာ မဟုတ်ဘူး။ ကျုပ် အခု ဒီကိစ္စနဲ့ အခြားကိစ္စတွေကို ကျေးရွာဥက္ကဋ္ဌကြီးနဲ့ သွားဆွေးနွေးမယ်။ ဒီအတွင်းမှာ ဖရီဒါကို ဂရုစိုက်ထားပေးပါ။ အဒေါ်ကြီး ဟာ သူ့ကို အမေတစ်ယောက်လို ချစ်ပါတယ် ဆိုတဲ့ အပြောနဲ့ အင်မတန် ဆိုးဝါးတဲ့ အခြေအနေတစ်ခုကို ပို့ထားပါတယ်"

ထို့နောက် သူသည် လက်ထောက်တွေဘက်သို့ လှည့်လျက်

"သွားကြမယ်"

ချိတ်ထားသော ကလမ်၏စာကို ယူပြီး တံခါးဆီသို့ သွားသည်။ အဒေါ်ကြီး တုံဏှိဘာဝေဖြစ်ပြီး သူ့ကို ကြည့်နေသည်။ တံခါးချက်ပေါ်သို့ သူ့လက် ရောက်ရှိသော အခါတွင်မှ သူမက ပြောလိုက်သည်။

"ဆရာ တစ်ခုတော့မှတ်သွားပါ။ ဆရာက ကျုပ်လိုအဘွားကြီးတစ် ယောက်ကို ဘယ်လောက်ပဲ စော်ကားစော်ကား ဆရာဟာ ဖရီဒါရဲ့ ခင်ပွန်းလောင်း ဖြစ်တယ်။ ဆရာ့ကို အခုလိုပြောရတဲ့ တစ်ခုတည်းသော အကြောင်းရင်းကတော့ ဆရာဟာ ဒေသရဲ့ အခြေအနေကို ဘာမှနားမလည်တာပဲ။ အဲဒီလိုနားမလည်တဲ့အတွက် ဆရာ့ရဲ့ အယူအဆနဲ့ သဘောထား အမြင်တွေကို၊ တကယ်ဖြစ်ပျက်နေတဲ့ အခြေအနေတွေကို ချိန်ထိုးကြည့်ရင် ကျုပ်ခေါင်းတွေ ချာချာလည်အောင် မူးနောက်သွားရတယ်။ ဘာမှ မသိရှိ နားမလည်တဲ့အတွက် အဖြစ်မှန်ကို မရနိုင်တာပဲ။ ဘယ်တော့မှလည်း ရရှိမှာ မဟုတ်ဘူး။ တကယ်လို့ ဆရာဟာ ကျုပ်ပြောသလို နည်းနည်းလောက်ပဲ ယုံကြည်ရင်၊ ဆရာရဲ့ မသိနားမလည်မှုကို စကားကလေးလောက်ပဲမျိုသိပ်ထားလိုက်ရင် ဆရာဟာ အခြေအနေကို အတော်ကလေး နားလည် သိရှိသွားနိုင်ပါတယ်။ ဆရာဟာ ကျုပ်အပေါ်မှာ သဘောထား မမျှတတာ ကလေးကို နည်းနည်းလောက်လျှော့လိုက်၊ ကျုပ်အများကြီး ထိတ်လန့်တုန်လှုပ်နေရတယ် ဆိုတာကို နည်းနည်းကလေး လောက် ရိပ်စားမိရင် အခြေအနေမှန်ကို သိရှိနိုင်ပါတယ်။ ကျုပ်သိနေတာကတော့ ကျုပ်တို့ရဲ့ ဖရီဒါ ကလေးဟာ သိန်းငှက်ကြီးလက်ကလွတ်ပြီး မြက်တောထဲက မြွေတစ် ကောင်ဆီ ကျရောက်နေပါတယ်။ အခြေအနေက ဒါ့ထက်ပိုပြီး ဆိုးပါတယ်။ ဆရာ့ကို ကျုပ် အေးအေးဆေးဆေး စကားပြောနိုင်ဖို့ အတွက် ဒီအခြေအနေတွေကို ကျုပ် မေ့ထားဖို့ ကြိုးစားရပါလိမ့်မယ်။ ဟော ဆရာလေး စိတ်ဆိုးပြန်ပြီ။ ခဏနေပါဦး၊ မသွားပါနဲ့ဦး။ ကျုပ် တောင်းပန် တာကလေးကို နားထောင်ပါဦး။ ဆရာ

ဘယ်လိုသိသွားသည်ဖြစ်စေ ဆရာဟာ အခြေအနေကို
အသိရှိဆုံးလူတစ်ယောက်ဆိုတာကို မမေ့ပါနဲ့။ ပြီးတော့ သတိထားပါ။
ဒီတည်းခိုခန်းမှာ ဖရီဒါရှိနေတာဟာ ဆရာ့စိတ်ထဲမှာ ရှိသလောက် ထင်ရှာ
မစိုင်းနိုင်အောင် တားဆီးထားတာပဲ။ ဥပမာတစ်ခု ပြောရရင် ဆရာဟာ ကလမ်နဲ့
တွေ့ချင်တဲ့ရည်ရွယ်ချက်ကို ကျုပ်တို့ကို ရှင်း ပြနိုင်တယ်။ ဒါပေမဲ့ အဲဒါကို စိတ်လိုက်
မာန်ပါ မလုပ်နဲ့။ ကျုပ် တောင်းပန် ပါတယ်"

သူမ မတ်တတ်ထလိုက်သည်။ စိတ်လှုပ်ရှားနေသဖြင့် အနည်းငယ်
ယိမ်းယိုင် နေသည်။ ကေရှိရာသို့ ဒယီးဒယိုင် လျှောက်သွားပြီး ကေ၏လက်ကို
ဆုပ်ကိုင်ကာ သူ့ကို တောင်းပန်သည့် အနေဖြင့် မော့ကြည့်နေသည်။

"မဒမ်၊ ဘာဖြစ်လို့ အခုလို ကုန်းငုံ့ပြီး ကျုပ်ကို တောင်းပန်သလဲဆိုတာ ကျုပ်
နားမလည်ဘူး။ ကျုပ်ဟာ ကလမ်နဲ့တွေ့ဖို့ မဖြစ်နိုင်ဘူးဆိုရင် အဒေါ်
တောင်းပန်သည် ဖြစ်စေ မတောင်းပန်သည် ဖြစ်စေ ကျုပ် မလုပ်ပါဘူး။ဒါပေမဲ့
ဖြစ်နိုင်တယ်ဆိုရင်တော့ ဘာဖြစ်လို့မလုပ်ရမှာလဲ။ ဟုတ်ပါတယ်။ ကျုပ်ဟာ
မသိနားမလည်တဲ့ လူတစ်ယောက်ပါ။ ဒါပေမဲ့ အမှန်တရားက
ထောက်ပြနေတာကတော့ မသိနားမလည်မှုက ကျုပ်ကို အခွင့်အလမ်းတွေ
ပေးနေတာပဲ။ ဒါဟာ ပိုပြီးရဲရင့်စေတယ်။ ဒါကြောင့်မို့ ဘယ်လိုဆိုးကျိုးတွေ
လာပါစေ ကျုပ်ဟာ ခွန်အားရှိနေသရွေ့ ကတော့ လုပ်မှာပဲ။ ဒီဆိုးကျိုးတွေ ဟာ
ကျုပ်ကိုပဲ ပေးမှာပါ။ ဘယ်သူ့ကိုမှ မပေးပါဘူး။ ဒါကြောင့် အဒေါ်
တောင်းပန်နေတာကို ကျုပ် နားမလည်ဘူးလို့ပြောတာ။ အဒေါ်ဟာ
ဘယ်တော့ပဲဖြစ်ဖြစ် ဖရီဒါကို ကြည့်ရှု စောင့်ရှောက်နေမှာပဲ။ တကယ်လို့ ကျုပ်ဟာ
ဖရီဒါရဲ့အမြင်အောက်က ပျောက်သွား ရင်လည်း ဒါဟာ ကောင်း တဲ့အချက်တစ်ခုပဲ။
အဲဒီတော့ အဒေါ်ကြီး ဘာကြောက် နေတာလဲ။ အဒေါ် ကြီး၊ မသိနားမလည်တဲ့
လူတစ်ယောက်ဟာ ဖြစ်နိုင်တာအားလုံးကို တွေးဆနိုင်ပါတယ်" ကေက
တံခါးကိုဖွင့်လိုက်ရင်း "အဒေါ်ကြီးက ကလမ် ကို မကြောက်ဘူးလား"

သူ လှေကားမှ ပြေးဆင်းသွားသည်ကို၊ လက်ထောက်များက နောက်မှ
လိုက်ပါသွားသည်ကို အဒေါ်ကြီး တိတ်ဆိတ်စွာ ကြည့်နေသည်။

၅

ကျေးရွာဥက္ကဋ္ဌနှင့် အခက်အခဲသိပ်မရှိဘဲ တွေ့ဆုံခွင့်ရသဖြင့် ကေ အံ့သြရသည်။ အခု အထိတော့ သူသည် အာဏာပိုင်များနှင့် ဆက်သွယ်ရာတွင် လွယ်ကူခဲ့သည်။

ကျေးရွာဥက္ကဋ္ဌသည် အဆစ်အမြစ်ရောင် ရောဂါဖြစ်နေသဖြင့် အိပ်ရာပေါ်တွင် လဲနေသည်။ အိပ်ရာပေါ်မှပင် ကေ့ကို တွေ့ဆုံသည်။

"ဟော ကျုပ်တို့ မြေတိုင်းစာရေးကြီးပါလား" သူ ထထိုင်ရန် ကြိုးစား သော်လည်း မအောင်မြင်ပါ။ ပြန်လဲကျသွားသည်။ သူက တောင်းပန်သည့် အနေဖြင့် သူ့ခြေထောက်ကို လက်ညှိုးထိုးပြသည်။ အလင်းရောင် မှိန်မှိန် ကလေးတွင် ပြတင်းပေါက် ငယ်များကို တွေ့ရှိရသည်။ ယင်းတို့ကိုလည်း ကန့်လန့်ကာများ ချထားသည်။ အမျိုးသမီးကြီးတစ်ယောက် ကေအတွက် ကုလားထိုင်တစ်လုံးကို အသံမထွက်အောင် တွန်းပေးပြီး ခုတင်အနီးသို့ ချထားပေးသည်။

"ထိုင်ပါ မြေတိုင်းစာရေးကြီး၊ ဆရာ ဘာအလိုရှိတယ်ဆိုတာ ကျွန်တော့်ကို ပြောပါ"

ကျေးရွာဥက္ကဋ္ဌက ပြောသည်။

ကေက ကလမ်၏စာကိုဖတ်ပြပြီး အနည်းငယ်ဖြည့်စွက် ပြောဆိုလိုက်သည်။

ကျေးရွာဥက္ကဋ္ဌသည် ခုတင်ပေါ်တွင် အနည်းငယ် ကသိကအောက် ဖြစ် သွားဟန် ရှိသည်။ အတန်ကြာမှ သူက ပြောသည်။

"ဆရာပြောတာတွေ အားလုံးကို ကျွန်တော် သိထားပါတယ်။ ကျွန်တော့် အနေနဲ့ ဘာမှမလုပ်ပေးတာကတော့ တစ်အချက် ကျွန်တော် နေမကောင်း တဲ့အတွက် ပါပဲ။ ဒုတိယအချက်ကတော့ ဆရာ့အနေနဲ့ တော်တော်နဲ့ ရောက်မလာလို့ပါပဲ။ နောက်ဆုံးမှာ ဆရာဟာ အလုပ်ကို စွန့်လွှတ်လိုက်ပြီ လို့တောင် ကျွန်တော်ထင်မိတယ်။ ယခု ဆရာရောက်လာပြီဆိုတော့ ဆရာ့ကို အဖြစ်အပျက်တွေကို အမှန်အတိုင်းပြောပြ ပါ့မယ်။ ဆရာ့ကို မြေတိုင်းစာရေးတစ်ယောက် အဖြစ်နဲ့ ခန့်အပ်တယ်လို့ ဆရာက ယူဆတယ်။ ဒါပေမဲ့ အဆင်မပြေတာက ကျွန်တော်တို့မှာ မြေတိုင်းစာရေး မလိုဘူး။ဒီမှာ မြေတိုင်းစာရေးလုပ်စရာ ဘာတစ်ခုမှ မရှိပါဘူး။ ကျွန်တော်တို့ ဒေသကလေးနဲ့ နယ်ခြား တွေကို အားလုံး တိုင်းထွာပြီးဖြစ်တယ်။ အားလုံး ကို တရားဝင် မှတ်တမ်းတင်ထားပြီး ဖြစ်တယ်။ အဲဒီတော့ မြေတိုင်းစာရေး တစ်ယောက်နဲ့ ကျွန်တော်တို့ ဘာလုပ်ကြရမှာလဲ"

"ကျွန်တော့်အတွက်တော့ တကယ့်အံ့သြစရာကြီးပဲ။ ကျွန်တော်ရဲ့ ကြိုတင် တွက်ဆထားသမျှတွေ အားလုံး ပျက်သွားရတယ်။ တစ်ခုပဲ မျှော်လင့်စရာရှိတယ်။ တစ်နေရာမှာ နားလည်မှု လွဲတာများ ရှိနေသလား"

"မရှိပါဘူး။ ကျွန်တော်ပြောတဲ့အတိုင်းပါပဲ"

"ဒါ ဖြစ်နိုင်ပါ့မလား။ ကျွန်တော် တပ်ခေါက်ပြီး ပြန်သွားရအောင် ခရီးရှည်ကြီးတစ်ခုကို မလာခဲ့ပါဘူး"

"ဒါက ပြဿနာတစ်ခုပဲ။ ဒါက ကျွန်တော်ဆုံးဖြတ်ရမယ့် ပြဿနာ မဟုတ်ပါဘူး။ ဒါပေမဲ့ ဒီလိုနားလည်မှုလွဲမှားတာ ဖြစ်နိုင်တဲ့အကြောင်းကိုတော့ ကျွန်တော် ရှင်းပြပါ့မယ်။ မြို့စားကြီးရဲ့ ကြီးမားလှတဲ့ အုပ်ချုပ်ရေး အဖွဲ့ကြီးမှာ ဒီဌာနက ဒီအမိန့် ထုတ်ပြီး တခြားဌာနက ဟိုအမိန့်ထုတ် တာမျိုး ဖြစ်နိုင်ပါတယ်။ တစ်ဌာန လုပ်တာကို တစ်ဌာနက မသိနိုင်ပါဘူး။ ဗဟိုအုပ်ချုပ်မှုက ပြည့်စုံကောင်းမွန်လှပေမဲ့ အခြေအနေအရ နောက်ကျနေတတ်ပါတယ်။ ဒါကြောင့် မကြာမကြာဆိုသလို အသေးအဖွဲ လွဲမှားမှု ကလေးတွေ ဖြစ်နိုင်ပါတယ်။ သေးသေးမွှားမွှား ကိစ္စလေးတွေမှာ ဖြစ်တတ်ပါတယ်။ ဥပမာ ဆရာ့ရဲ့ကိစ္စမျိုးပေါ့။ ကြီးကြီးမားမားကိစ္စတွေမှာ ဘာမှမဖြစ်ပါဘူး။ ဆရာရဲ့ အမှုရာဇဝင်ကို ကျွန်တော် ပွင့်ပွင့်လင်းလင်းပဲ ပြောပါ့မယ်။ ဘာတစ်ခုမှ လျှို့ဝှက်မထား ပါဘူး။ လွန်ခဲ့တဲ့ အချိန်တော်တော်ကြာ ကြာတုန်းက ကျွန်တော် ကျေးရွာဥက္ကဋ္ဌ ဖြစ်ခါစတုန်းက အမိန့်တစ်ခု ထွက်တယ်။ ဘယ်ဌာနကလဲ ဆိုတာတောင် မမှတ်မိဘူး။ မြေတိုင်း စာရေးတယောက် ခေါ်ယူဖို့ဖြစ်တယ်။ သူ့လုပ်ငန်းအတွက် လိုအပ်တဲ့ စီမံကိန်းတွေနဲ့ တိုင်းတာမှုတွေလုပ်ဖို့ မြူနီစီပယ်အဖွဲ့ကို ညွှန်ကြားတယ်။ ဒီအမိန့်ဟာ လူကြီးမင်းနဲ့ မသက်ဆိုင်နိုင်ဘူး။ ဘာဖြစ်လို့လဲဆိုတော့ လွန်ခဲ့တဲ့ နှစ်ပေါင်း များစွာက ထုတ်ခဲ့လို့ပဲ။ ကျွန်တော် အခုလို အိပ်ရာထဲမှာလဲပြီး စဉ်းစားချိန်တွေသာ အလုံအလောက်မရှိရင် အဲဒီလိုဟာတွေကို မှတ်မိစရာတောင် မရှိဘူး။ မစ်ဇီ"

သူက စကားပြောနေသည်ကို ရပ်လိုက်ပြီး အခန်းထဲတွင် တောင်တောင် မြောက်မြောက်တွေ လုပ်နေသော အမျိုးသမီးကို ခေါ်လိုက်သည်။

"အမိန့်စာကို တွေ့သလားလို့။ ဗီရိုထဲမှာ ရှာစမ်းပါ" ထို့နောက် ကေအား ဆက်လက်ရှင်းပြသည်။

"အဲဒီတုန်းက ကျွန်တော် အလုပ်ဝင်ခါစပဲ။ အဲဒီတုန်းက စာရွက်စာတမ်း တွေ အားလုံးကို ကျွန်တော် ဖိုင်တွဲထားတယ်"

အမျိုးသမီးက ချက်ချင်းပင် ဗီရိုကို ဖွင့်သည်။ ကေနှင့် ကျေးရွာဥက္ကဋ္ဌတို့က ကြည့်နေကြသည်။ ဗီရိုထဲတွင် စာရွက်တွေ ပြည့်သိပ်နေသည်။ ဗီရိုကို ဖွင့်လိုက်သောအခါ ထင်းချောင်းတွေကို စည်းထားသလိုမျိုး စည်းထားသော စက္ကူလိပ်ကြီး နှစ်လိပ် ထွက်ကျလာသည်။ အမျိုးသမီးက နောက်ဘက်သို့ လန့်ခုန်လိုက်သည်။

"အောက်ဘက်မှာ ရှိလိမ့်မယ်၊ ဟိုအောက်ဆုံးမှာ"

ကျေးရွာဥက္ကဋ္ဌက ခုတင်ပေါ်မှ ညွှန်ကြားနေသည်။

အောက်ဘက်မှ စာရွက်များကို တွေ့ရှိနိုင်ရန်အတွက် အမျိုးသမီးက လက်နှစ်ဖက်ဖြင့် ပွေ့ပြီး စာရွက်စာတမ်းတွေကို ထုတ်ပစ်နေသည်။ ယခုအခါ

စာရွက် စာတမ်းတွေသည် ကြမ်းပြင်တစ်ဝက်လောက်ကို ပြည့်သွားသည်။

"ဒီအထဲမှာ အလုပ်နဲ့ပတ်သက်တာတွေ အများကြီးပဲ။ ဒါတောင် တချို့ တစ်ဝက်လောက်ပဲ ရှိသေးတယ်။ သိပ်အရေးကြီးတဲ့ စာရွက်တွေကို စတို ခန်းထဲမှာ ပုံထားတယ်။ ဒါပေမဲ့ တချို့တွေက ပျောက်ကုန်ပြီ။ ဒါတွေကို ဘယ်သူက စုစည်း ထားနိုင်မှာလဲ။ စတိုခန်းထဲမှာ စာရွက်ပုံတွေ အများကြီး

ကျေးရွာဥက္ကဋ္ဌက ခေါင်းတညိတ်ညိတ်နှင့် ရှင်းပြနေရာမှ သူ့ဇနီးဘက်သို့ လှည့်လျက်

"အမိန့်စာကို မင်း ရှာလို့ရမလား။ မြေတိုင်းစာရေးဆိုတဲ့ ခေါင်းစဉ်ကို ခဲတံ အပြာနဲ့ မျဉ်းသားထားတဲ့ အမိန့်စာ"

"သိပ်မှောင်နေတယ်။ ကျွန်မ ဖယောင်းတိုင် သွားယူလိုက်ဦးမယ်"

အမျိုးသမီးက စာရွက်တွေပေါ်တွင် နင်းကာ ထွက်သွားသည်။

"ကျုပ်မိန်းမက အများကြီး အကူအညီရတယ်။ ဒါပေမဲ့ အခုလို ခက်ခဲတဲ့ ရုံးတာဝန်တွေမှာ နိုင်အောင်မလုပ်နိုင်ကြဘူး။

ကျုပ်မှာ နောက်ထပ် လက်ထောက်တစ်ယောက် ရှိသေးတယ်။ စာတွေရေးဖို့အတွက်ပဲ။ ကျောင်းဆရာ။ ဒါပေမဲ့ အလုပ် အားလုံးကို စနစ်တကျ သေသေသပ်သပ် ဖြစ်အောင် မလုပ်နိုင်ကြဘူး။ အမြဲတမ်းလိုပဲ အလုပ်တွေက ပုံပြီးကျန်ရစ်ခဲ့တယ်။ အဲဒါတွေကို ဟောဟိုဗီရိုထဲမှာ ထည့်ထားရတယ်"

သူက နောက်ထပ်ဗီရိုတစ်လုံးကို လက်ညှိုးထိုးပြသည်။

"အခုလို ကျွန်တော် အိပ်ရာထဲမှာလဲနေတော့ အလုပ်တွေက အထက်စီး ရ သွားတော့တာပေါ့"

"ဥက္ကဋ္ဌကြီးဇနီးကို ကူပြီး ကျွန်တော် ရှာပေးရမလား"

အမျိုးသမီး ဖယောင်းတိုင်ယူကာ ပြန်လာပြီး ဗီရိုရှေ့တွင် အမိန့်စာကို ရှာဖွေ နေသောအခါ ကေက မေးလိုက်သည်။

ကျေးရွာဥက္ကဋ္ဌ ပြုံး၍ ခေါင်းခါလိုက်ပြီး

"စောစောက ကျွန်တော်ပြောခဲ့သလိုပဲ ခင်ဗျားရှေ့မှာ ရုံးသဘော လျှို့ဝှက် မှုတွေ ဘာမှမလုပ်ချင်ပေမဲ့ ဒီစာရွက်စာတမ်းတွေ ခင်ဗျားကိုယ်တိုင် သွား ရှာတာကိုတော့ ကျွန်တော် ခွင့်မပြုနိုင်ပါဘူး"

ယခုအခါ အခန်းထဲတွင် တိတ်ဆိတ်လျက် ရှိသည်။ စာရွက်မြည်သံတွေပဲ ကြားနေရသည်။ ကျေးရွာဥက္ကဋ္ဌလည်း မိနစ်အနည်းငယ်မျှ အိပ်ငိုက်သွား ဟန်ရှိသည်။

တံခါးခေါက်သံ တိုးတိုးကလေး ပေါ်ထွက်လာသဖြင့် ကေ ကြည့်လိုက်သည်။ လက်ထောက်များ ဖြစ်ကြသည်။ သူတို့သည် လေ့ကျင့်သင်ကြားထား မှုအရ အခန်းတွင်းသို့ တစ်ဟုန်ထိုး တိုးဝင်မလာကြဘဲ ခပ်ဟဟကလေး ဖွင့်ထားသော တံခါး ပေါက်မှနေ၍ လေသံဖြင့် ပြောသည်။

"အပြင်မှာ သိပ်အေးတယ်"

"ဘယ်သူတွေလဲ"
ကျေးရွာဥက္ကဋ္ဌမှာ စူးစိုက်ကာကြည့်ရင်း မေးသည်။
"ကျွန်တော့်လက်ထောက်တွေပါ။ သူတို့ကို ဘယ်နေရာမှာ စောင့်ခိုင်းရမယ် မသိဘူး။ အပြင်မှာ သိပ်အေးတယ်။ အခု သူတို့ ဝင်လာနေကြတယ်"
"သူတို့ကို ဝင်လာဖို့ ခေါ်လိုက်ပါ။
"ပြီးတော့ သူတို့ကို ကျွန်တော် သိပါတယ်။ သိဟောင်းကျွမ်းဟောင်းတွေပါ"
"သူတို့က ကျွန်တော့်ဆီ လာကြတာပဲ"
ကေက တုံးတိကြီး ပြောလိုက်သည်။ ကေက လက်ထောက်များကို ကြည့်နေရာမှ ဥက္ကဋ္ဌကို ပြန်ကြည့်လိုက်သည်။ သူတို့သုံးယောက်စလုံး ပြုံးနေကြသည်။
"မင်းတို့ ဒီမှာရပ်နေကြရင်း ဥက္ကဋ္ဌကြီးရဲ့ဇနီးကို ကူပြီး ရှာပေးလိုက်ကြပါ။ မြေတိုင်း စာရေးဆိုတဲ့ စကားလုံးကို ခဲတံအပြာ မျဉ်းသားထားတဲ့ အမိန့် စာ"
ကျေးရွာဥက္ကဋ္ဌက မကန့်ကွက်ပါ။ ကေကို ရှာခွင့်မပြုခဲ့သည့် အချက်ကို လက်ထောက်များအား ရှာခွင့်ပြုလိုက်သည်။ သူတို့သည် ချက်ချင်းပင် စာရွက်တွေဆီ ရောက်သွားကြသည်။ သို့သော် သူတို့သည် စာရွက်ပုံကြီးကို ဖွနေသော်လည်း တစ်စုံတစ်ခုကို ရှာဖွေနေသည့်ပုံ မရှိပါ။ တစ်ယောက်က စာရွက်တစ်ထပ်ကို အသံထွက် ဖတ်နေသည်။ တခြားတစ်ယောက်က ဆွဲယူသွားသည်။ အမျိုးသမီးက ဗီရိုရှေ့တွင် ဒူးထောက်ပြီး ထိုင်နေသည်။ သူမ ရှာဖွေသည့်အလုပ်ကို လုံးဝလက်လျှော့လိုက်ဟန် ဖယောင်းတိုင်က သူမနှင့် အဝေးကြီးတွင် ရှိနေသည်။ ရှိသည်။ က
"လက်ထောက်တွေ၊ သူတို့က ဆရာ့ဆီကို လာတာလို့ပြောတယ်။
"ဒါပေမဲ့ သူတို့က ဆရာ့ရဲ့လက်ထောက်နှစ်ယောက်ပဲ"
ကျေးရွာဥက္ကဋ္ဌက ပြုံးပြီးပြောလိုက်သည်။
"သူတို့က ဒီကျေမှ ကျွန်တော်နဲ့တွေ့တာပဲ"
ကေက အေးဆေးစွာ ပြောလိုက်သည်။
"ဆရာနဲ့တွေ့ကြတာ၊ ဟုတ်လား။ ဆရာဆိုလိုတာက သူတို့ကို ဆရာ့ဆီမှာ တာဝန်ချထား ပေးလိုက်တာ၊ ဟုတ်လား"
"ဟုတ်တယ် ကျွန်တော့်ဆီမှာ တာဝန်ချထား ပေးလိုက်တာပဲ။"
သူတို့ကို စီစဉ်ပြီးမှ ခန့်ထားလိုက်တယ်ဆိုပေမဲ့ မိုးပေါ်က ကျလာသလိုပဲ"
"ဒီမှာ ဘာတစ်ခုမှ ကြိုတင်မစီစဉ်ဘဲနဲ့ မလုပ်ပါဘူး"
ကျေးရွာဥက္ကဋ္ဌက ပြောလိုက်သည်။ သူက ခြေထောက်နာနေသည်ကို မေ့သွားပြီး ထထိုင်လိုက်သည်။
"ဘာတစ်ခုမှ မစီစဉ်ဘဲနဲ့ မလုပ်ဘူး၊ ဟုတ်လား။"
"ဒါဆိုရင် ကျွန်တော့်ကို ဒီကို ဆင့်ခေါ်လိုက်တာကကော"
"ဆရာ့ကို ဆင့်ခေါ်လိုက်တာလည်း သေသေချာချာ စဉ်းစားပြီးမှ လုပ်တာပဲ။

ဒါပေမဲ့ တခြားအကြောင်းအချက်တစ်ခုက ဝင်လာပြီး အခြေအနေတွေ ရှုပ်ထွေးကုန်ရတော့တာပဲ။ ဆရာ့ကို ကျွန်တော် တရားဝင် ရုံးစာတွေနဲ့ အတူ ရှင်းပြမယ်"

"ရုံးစာတွေက ရှာမတွေ့ဘူး"

"ရှာမတွေ့ဘူး၊ ဟုတ်လား။ မစ်ဇီရေ နည်းနည်းမြန်မြန်လေး ရှာစမ်းပါ။ အမိန့်စာတွေ မရှိဘဲနဲ့လည်း ဇာတ်လမ်းကို ကျွန်တော် ရှင်းပြနိုင်တယ်။ ကျွန်တော် ပြောခဲ့တဲ့ အမိန့်စာကို ကျွန်တော် စာပြန်လိုက်တယ်။ ကျွန်တော် တို့မှာ မြေတိုင်းစာရေး တစ်ယောက် မလိုအပ်ပါဘူးလို့၊ ဒါပေမဲ့ ဒီအကြောင်း ပြန်စာက မူရင်းဌာနကို ရောက်သွားပုံ မရဘူး။ ဌာန အေပါ။

ဒါပေမဲ့ မှားပြီး အခြားဌာနတစ်ခုကို ရောက်သွားတယ်။ ဌာနဘီမှာ။ အဲဒီတော့ ဌာနအေဟာ ပြန်စာမရဘူး ဖြစ်သွားတယ်။ ဒါပေမဲ့ ကံဆိုးချင်တော့ ကျွန်တော်တို့ရဲ့ ပြန်စာအပြည့်အစုံကလည်း ဌာန ဘီကိုလည်း ရောက်မ သွားဘူး။ ကျွန်တော်တို့က အမိန့်စာကို ထည့်မပို့ဖြစ်တာလား၊ ဒါမှမဟုတ် လမ်းမှာ ပျောက်တာ လားတော့ မသိဘူး။ ကျွန်တော့်ဌာနမှာ မပျောက်တာတော့ သေချာတယ်။ ကျွန်တော် အာမခံနိုင်တယ်။ ဘာပဲဖြစ်ဖြစ် ဌာနဘီကို ရောက်သွားတာက ပူးတွဲစာအကြောင်း ဖော်ပြရာစာပဲဖြစ်ပြီး ပူးတွဲစာက ပါမသွားဘူး။ ပူးတွဲစာက မြေတိုင်းစာရေး ငှားရမ်းတဲ့ ကိစ္စပဲ။ အဲဒီအချိန်မှာ ဌာန အေက ကျွန်တော်တို့ဆီက ပြန်စာကို စောင့်နေတယ်။ သူတို့က အမှုနဲ့ ပတ်သက်ပြီး မှတ်တမ်းထုတ်ခဲ့တယ်။ ဒါပေမဲ့ ကျွမ်းကျင်တဲ့ ဌာနတွေမှာတော့ ဖြစ်တတ်တဲ့အတိုင်းပဲ မှတ်တမ်းထုတ်တဲ့လူက ကျွန်တော်တို့ သူ့ အမေးကို ဖြေကြားမှာပဲလို့ ယုံကြည်ထားတယ်။ အဲဒီနောက်မှာ သူက မြေတိုင်းစာရေးကို ဆင့်ခေါ် ခြင်းလည်း မလုပ်တော့ဘူး။ ကျွန်တော်တို့ဆီ ကို နောက်ထပ် စာရေးဖို့လည်း မလိုတော့ဘူး။ သူ့ရဲ့ သတိရမှတ်တမ်းနဲ့ ဘာမှမလုပ်တော့တဲ့ အတွက် တစ်ခါတည်း မေ့လျော့ သွားတော့တယ်။ ဒါပေမဲ့ ဌာန ဘီမှာကတော့ အမိန့်စာအကြောင်းဖော်ပြတဲ့ အမှာစာက စာပေးစာယူ စာရေးလက်ထဲကို ရောက်သွားတယ်။ အလုပ်ကို အင်မတန် တိတိကျကျ လုပ်တတ်တယ်လို့ နာမည်ကြီးတဲ့ စာပေးစာယူစာရေး ဆော်ဒီနီလက်ထဲကို ရောက်သွားတယ်။ အီတလီလူမျိုးတစ်ယောက်ပဲ။ သူက အကျိုးအကြောင်း ဖော်ပြ ထားတာ ပါရှိပြီး ပူးတွဲပါ အမိန့်မရှိတဲ့စာကို လိုအပ်တာ ထပ်ဖြည့်ပေးဖို့ ပြန်ပို့ လိုက်တယ်။ စာရွက်စာတမ်းတစ်ခုဟာ ပုံ မှန်လမ်းကြောင်းအတိုင်းသွားခဲ့ရင် ပို့လိုက်တဲ့ ဌာနကို တစ်နေ့အတွင်း ရောက်ရမယ်။ တစ်နေ့အတွင်း လုပ်ဆောင်လို့ ပြီးစီးရမယ်။ ဒါပေမဲ့ အဲဒီစာဟာ လမ်းမှာပျောက်နေခဲ့လို့ရှိရင် ကျွန်တော်တို့လို စွမ်းဆောင်နိုင်စွမ်းရှိတဲ့ အဖွဲ့အစည်းမှာ အဲဒီစာကို မရမနေ လိုက်ရှာရတယ်။ အဲဒီလိုမရှာဘဲနဲ့ မ တွေ့နိုင်ဘူး။ အဲဒီလိုရှာတာဟာ အချိန်တွေ အကြာကြီးဖြစ်နိုင်တယ်။ အခု လို အချိန်တွေ နှစ်နဲ့ချီပြီး မဟုတ်တောင် လနဲ့ချီပြီး ကြာသွားတဲ့ အခုလို အချိန်မျိုးမှာ၊

ဆော်ဒီနီရဲ့ အမှာစာကို ရရှိတဲ့အချိန်မှာ ကျွန်တော်တို့ဟာ အမှု ကိစ္စကို ခပ်ရေးရေးပဲ မှတ်မိတော့တယ်။ အဲဒီ အချိန်တုန်းက ကျွန်တော်တို့ မှာ အင်အားနှစ်ယောက်ပဲ ရှိတယ်။ ကျွန်တော်နဲ့ မစ်ဇီပဲ။ ကျောင်းဆရာက ကျွန်တော်တို့ဆီကို မရောက်သေးဘူး။ ကျွန်တော်တို့က သိပ်အရေး ကြီးတာ တွေကိုပဲ မိတ္တူထားနိုင်တယ်။ ဒါကြောင့်မို့လို့ မြေတိုင်းစာရေး ငှားရမ်းတာကို ကျွန်တော်တို့ မသိတဲ့အကြောင်းနဲ့ မြေတိုင်းစာရေး တစ်ယောက် မလိုအပ်တဲ့အကြောင်း ကျွန်တော်တို့ ခပ်ဝါးဝါးသာ အကြောင်းပြန်နိုင်တယ်"

ဤတွင် ကျေးရွာဥက္ကဋ္ဌသည် ရှည်လျားသော သူ့ဇာတ်လမ်းတွင် မျောပါ သွားနေရာမှ ရုတ်တရက်ဆိုသလို ကေ့ကိုမေးလိုက်သည်။

"ဒါနဲ့ ဒီဇာတ်လမ်းကို ခင်ဗျား မငြီးငွေ့ဘူးလား"

"ဟင့်အင်း၊ ကျွန်တော့်ကို ပျော်မြူးစေတယ်"

"ခင်ဗျားပျော်မြူးရအောင် ကျွန်တော် ပြောတာမဟုတ်ဘူး"

ဥက္ကဋ္ဌက ပြောလိုက်သည်။

"ကျွန်တော့်ကို ပျော်မြူးစေတာပဲ။ ဘာပြုလို့လဲဆိုတော့ ရယ်စရာကောင်း တဲ့ အရှုပ်အထွေးကြီးရဲ့ အတွင်းပိုင်းကို မြင်တွေ့ရလို့ပဲ။ အဲဒီ အရှုပ်အထွေး ကြီးက တချို့ အခြေအနေတွေမှာ လူသားတစ်ယောက်ရဲ့ ဘဝကို အဆုံးအဖြတ်ပေးတယ်"

"ဆရာ့အနေနဲ့ အခုအထိ အတွင်းပိုင်းကို မတွေ့ရသေးပါဘူး။ ကျွန်တော့်ဇာတ်လမ်းကို ကျွန်တော် ဆက်ပြီးပြောပါ့မယ်" ကျေးရွာဥက္ကဋ္ဌက ပြောသည်။ "ဆော်ဒီနီက ကျွန်တော်တို့ရဲ့ ပြန်ကြားချက်ကို မကျေနပ်ဘူး။ သူက ကျွန်တော့်အတွက် ပြဿနာတစ်ခုဖြစ်ပေမဲ့ သူ့ကို ကျွန်တော် ချီးကျူး ပါတယ်။ သူက ယေဘုယျအားဖြင့် ဘယ်သူ့ကိုမှ မယုံပါဘူး။ ဆိုကြပါစို့၊ သူက အကြောင်းကြောင်းနဲ့ပတ်သက်ပြီး လူတစ်ယောက်ကို ကမ္ဘာပေါ်မှာ သူ အယုံကြည်ရဆုံး လူတစ်ယောက်အဖြစ်နဲ့ သိရှိခဲ့ရပေမဲ့ အကြောင်းအရာ သစ် တစ်ခုပေါ်လာတဲ့အခါ အဲဒီလူကို သူ မယုံကြည်တော့ပါဘူး။ အဲဒီလူနဲ့ သူ အသိမလုပ်ချင်တော့ဘူး။ ဒါမှမဟုတ်လည်း အဲဒီလူကို လူဆိုးတစ် ယောက် ကြည့်မြင်လိုက်တယ်။ ကျွန်တော်စဉ်းစားကြည့်တော့ အဲဒါ မှန်ပါတယ်။ နည်းလမ်းကျပါတယ်။

အာဏာပိုင်တစ်ယောက်ဟာ ဒီအတိုင်းပဲ ဖြစ်ရမယ်။ ဒါပေမဲ့ ကံမကောင်း တာကတော့ ကျွန်တော့်စရိုက်က အဲဒီလူ လို လိုက်ပြီး မကျင့်သုံးနိုင်ပါဘူး။ ဒါပေမဲ့ ဆော်ဒီနီ ကတော့ ကျွန်တော်တို့ ပြန်စာကို ဖတ်တဲ့အခါမှာ သံသယရှိပါတယ်။ အခုဆိုရင် အပြန်အလှန် စာတွေအများကြီး ဆက်သွယ် ကြရပါတယ်။ ဆော်ဒီနီက မေးတယ်။ {မြေတိုင်း စာရေးကို မခေါ်သင့်ဘူးလို့ ကျွန်တော်က ဘာကြောင့် ချက်ချင်းပြောရတာလဲ} တဲ့။ ကျွန်တော်က မစ်ဇီရဲ့မှတ်ဉာဏ်ကို အားကိုးပြီး အကြောင်းပြန် လိုက်တယ်။ ဒီအဆိုက ပထမဆုံး တရားရေးရုံးချုပ်က လာတာလို့ (ဒါပေမဲ့ ကျွန်တော်တို့ တော်တော်ကြာကြာ ကတည်းက မေ့လျော့နေတဲ့ အခြားဌာန

တစ်ခုက လာတာဖြစ်တယ်)"

ဆော်ဒီနီက မေးတယ်။

"ဒီတရားဝင်အမိန့်စာကို ဘာပြုလို့ အခုမှဖော်ကြရတာလဲ"

ကျွန်တော်က ပြန်ဖြေတယ်။

"ဘာပြုလို့လဲဆိုတော့ ကျွန်တော်က ဒါကို အခုမှ သတိရလို့ပါ"

ဆော်ဒီနီ။။။"ဒါက အင်မတန်ထူးဆန်းတာပဲ"

ကျွန်တော်က။။။"ဒီလိုကြာနေတဲ့ကိစ္စတစ်ခုမှာ လုံးဝမထူးဆန်းပါဘူး"

ဆော်ဒီနီ။။။"မဟုတ်ဘူး။ ထူးဆန်းတယ်။ ကျွန်တော်မှတ်မိ သလောက်တော့ ဒီအမိန့်စာက မရှိဘူး"

ကျွန်တော်။။။"မရှိဘူးဆိုတာ မှန်ပါတယ်။ အမှုတွဲတစ်ခုလုံး ပျောက် နေလို့ "

ဆော်ဒီနီ။။။"ပထမဆက်သွယ်မှုနဲ့ပတ်သက်ပြီး အကြောင်းကြားတာ ရှိရမယ်။ ဒါပေမဲ့ မရှိဘူး"

"အဲဒါက ဆော်ဒီနီရဲ့ဌာန အမှားဖြစ်လိမ့်မယ်။ ဒါပေမဲ့ ကျွန်တော် မပြော ရဲဘူး။ ယုံလည်း မယုံနိုင်ဘူး။ မြေတိုင်းစာရေးကြီးရဲ့စိတ်ထဲမှာ ဆော်ဒီနီကို အပြစ်တင်နေ လိမ့်မယ်။ ဒီကိစ္စကို သူ့အနေနဲ့ တခြားဌာနတွေမှာ စုံစမ်းသင့်တယ်။ အဲဒါကြောင့် အမှားအယွင်းဖြစ်ရတာပဲ။ ဒါပေမဲ့ ဒီလူကို ကျွန်တော် စာပြန်မဆက်သွယ်ပါဘူး။ ဆရာလည်း အပြစ်မတင်သင့်ဘူး။ ဒါက ဗျူရိုချုပ်ရဲ့အခြေခံသဘောတရားပဲ။ မှားယွင်း နိုင်တဲ့အချက်တွေ အားလုံးကို ဖယ်ထုတ်ပစ်ရမယ်။ ဆော်ဒီနီရဲ့စုံစမ်းမှုကို တခြားဌာနတွေက ဖြေမှာမဟုတ်ဘူး။ ဘာဖြစ်လို့လဲဆိုတော့ ဒါဟာ အမှားရှာဖွေတာ ဖြစ်နိုင် တယ်လို့ သူတို့ ယူဆနိုင်လို့ပဲ"

"ကျွန်တော် ဖြတ်ပြီး မေးခွန်းတစ်ခုမေးပါရစေ ဥက္ကဋ္ဌကြီး၊ အုပ်ချုပ်ရေး အာဏာပိုင်အဖွဲ့ကြီး အကြောင်း ဥက္ကဋ္ဌကြီး တစ်ခါပြောခဲ့တယ် မဟုတ် လား။ ဒါဟာ အုပ်ချုပ်ရေးအာဏာပိုင် အဖွဲ့ကြီးရဲ့တာဝန် မဖြစ်နိုင်ဘူးလား"

"ဆရာက အင်မတန် စည်းကမ်းထားတာပဲ။ ဒီလိုမေးခွန်းမျိုးကို ဆရာ့လို လူစိမ်းတစ်ယောက်ကပဲ မေးနိုင်တယ်။ အုပ်ချုပ်ရေးအာဏာပိုင် အဖွဲ့ကြီးတစ်ခု ရှိသလားလို့။ အုပ်ချုပ်ရေး အာဏာပိုင် အဖွဲ့ကလေးတွေပဲ ရှိတယ်။ ပွင့်ပွင့်လင်းလင်း ပြောရရင် သူတို့တာဝန်က အမှားရှာဖို့မဟုတ်ဘူး။ ဘာ ဖြစ်လို့လဲဆိုတော့ အမှားဆိုတာ မရှိလို့ပဲ။ တကယ်လို့ အမှားတစ်ခုဖြစ် တယ် ဆိုရင်လည်း ဥပမာ ဆရာ့အမှုမှာပေါ့၊ ဒါကို ဘယ်သူက အမှားပါလို့ ပြောနိုင်မှာလဲ"

"ဒါ သတင်းပဲ"

ကေ ဟစ်အော်လိုက်သည်။

"ကျွန်တော့်အတွက်တော့ သတင်းဟောင်းပဲ"

ကျေးရွာဥက္ကဋ္ဌက ပြောသည်။

"အမှားတစ်ခုဖြစ်ခဲ့တယ်ဆိုတာ ကျွန်တော် သဘောပေါက်တယ်။ ဒီအတွက် ဆော်ဒီနီဟာ အတော်ကြီး စိတ်ပျက်ခဲ့ရတယ်။ အမှားကိုတွေ့ရှိခဲ့ပြီး အမှားကို အသိ

အမှတ်ပြုခဲ့တယ်။ ပထမ အုပ်ချုပ်မှုအာဏာပိုင်အဖွဲ့ကို ကျွန်တော်တို့ လေးစားပါတယ်။ ဒါပေမဲ့ ဒုတိယအာဏာပိုင်အဖွဲ့က ဒီအတိုင်းပဲ ဆုံးဖြတ်မယ်လို့ ဘယ်သူပြောနိုင်မလဲ။ နောက်ပြီးတော့ တတိယ နဲ့ တခြားအာဏာပိုင် အဖွဲ့တွေကကော"

"ဖြစ်နိုင်ပါတယ်"

ကေက ပြောလိုက်သည်။

"ဒီတွက်ဆမှုတွေကို ကျွန်တော် မလုပ်နိုင်ပါဘူး။ နောက်ပြီးတော့ ဒီအာဏာပိုင် အဖွဲ့ကလေးတွေ အကြောင်းလည်း ကျွန်တော် ခုမှ ပထမဆုံး ကြားရတာပါ။ ဒါတွေကို ကျွန်တော် သဘောမပေါက်နိုင်တာ အမှန်ပဲ။ ကျွန်တော်နဲ့ ပတ်သက်တဲ့အကြောင်း ပြောပါဦး"

"ဆော်ဒီနီ ဆီကို ကျွန်တော် မရောက်ဖူးပါဘူး။ သူကလည်း ဒီကို မလာနိုင်ပါဘူး။ သူက အလုပ်တွေနဲ့ ပိနေပါတယ်။ သူ့အခန်းနဲ့ပတ်သက်ပြီး ကျွန်တော် ကြားဖူး သမျှဆိုရင် နံရံတိုင်းမှာ စာရွက်ပုံတွေနဲ့ ပြည့်နေတယ်။ အမှုတွဲတွေဟာ တစ်ပုံပေါ်တစ်ပုံ ဆင့်နေတယ်။ ဒါတွေက ဆော်ဒီနီ လောလောဆယ် ကိုင်နေတဲ့ အမှုတွဲတွေပဲ။ အမှုတွဲကို ကမန်းကတန်း ဆွဲယူသွားကြ၊ ပြန်ပို့လိုက်ကြနဲ့ဆိုတော့ ကြမ်းပေါ်မှာ အမြဲတမ်းကို ကျနေကြတယ်။ တစ်ခုအပေါ်တစ်ခု ပိနေကြတယ်။ ဒါဟာ ဆော်ဒီနီရဲ့ အခန်း မြင်ကွင်းပဲ။ သူက အမှုကလေးတွေရော၊ အမှုကြီးတွေရော အားလုံး အလေးထားပြီး လုပ်တယ်"

"ဥက္ကဋ္ဌကြီးက ကျွန်တော့်ကိစ္စကို အမှုကလေးလို့ အမြဲတမ်းပြောလေ့ရှိတယ်။ ဒါပေမဲ့ ဒီအမှုဟာ အာဏာပိုင်တွေအများကြီးကို အလုပ်ပေးခဲ့တယ်။ ဒီအမှုဟာ စကတည်းက ဘာမှအရေးမကြီးတဲ့ အမှုလို့ ဆိုတယ်။ ဒါပေမဲ့ ဆော်ဒီနီလို အာဏာ ပိုင်ကြီးတွေမှာ အလုပ်ကြီးတွေ ဖြစ်ခဲ့ရတယ်။ အမှန်တော့ ကျွန်တော်နဲ့ပတ်သက်ပြီး အမှုတွဲတွေ ဒါလောက်အများကြီး ပုံနေဖို့ မလိုဘူး။ မြေတိုင်းစာရေးတစ်ယောက်ရဲ့ ပုံဆွဲစားပွဲပေါ်မှာ ရိုးရိုးရှင်းရှင်း ကလေးပဲ ရှိနေဖို့ လိုတယ်"

ကေက ပြောလိုက်သည်။

"မဟုတ်ဘူး။ ရောမအလုပ်ကြီးတစ်ခု မဟုတ်ဘူး။ ဒါနဲ့ပတ်သက်ပြီး ဆရာ ဖြေဖို့မလိုဘူး။ အသေးအဖွဲကလေးတွေ ထဲက အသေးအဖွဲကလေး တစ်ခုပဲ။ အမှုတစ်ခုရဲ့ အရေးပါပုံက အလုပ်တွေ ဘယ်လောက်များတာနဲ့ မ ဆိုင်ဘူး။ အလုပ်တွေအများကြီး ရှုပ်ခဲ့တဲ့တိုင်အောင် ဆရာ့ရဲ့အမှုက အမှု ကလေးပဲ။ အမှားအယွင်းမရှိတဲ့ ရိုးရိုးအမှုတွေမှာ အလုပ်တွေ ပိုများတယ်။ အလုပ်တွေ ပိုပြီးလုပ်ကြရတယ်။ ဆရာ့ရဲ့အမှုနဲ့ ပတ်သက်ပြီး အမှန်တကယ် ဘာတွေဖြစ်ခဲ့တယ်ဆိုတာကို ဆရာမသိဘူး။ အဲဒီအကြောင်းတွေကို ကျွန်တော် အခု ပြောပြမယ်။ လောလောဆယ်မှာ ဆော်ဒီနီက ကျွန်တော်နဲ့ လက်လှမ်းမီ ရာမှာ မရှိဘူး။ ဒါပေမဲ့ စာရေးတွေ ရောက်လာကြတယ်။ နေ့ တိုင်းလိုပဲ ဟာရင်ဟော့ တည်းခိုခန်းမှာ ထင်ရှားတဲ့ ပုဂ္ဂိုလ်ကြီးတွေပါဝင်တဲ့ စုံစမ်းစစ်ဆေးရေး အဖွဲ့တစ်ခု

တွေ့ဆုံပြီး ကြားနာစစ်ဆေးကြတယ်။ အများ စုက ကျွန်တော်တင်ပြတာကို လက်ခံကြတယ်။ လူနည်းစုတင် လက်မခံ နိုင်ဘဲ ရှိကြတယ်။ မြေတိုင်းစာရေး ကိစ္စကိုလည်း လယ်သမားတွေက စိတ်ဝင်စားကြတယ်။ အဲဒီအထဲမှာ ခေါင်းဆောင်တစ်ယောက် ထွက်လာတယ်။ ဘရန်ဝစ် ဆိုတဲ့လူပဲ။ ခု လက်ဆီမန်းရဲ့ သမက်ပဲ။ သူ့ကြောင့် မြေတိုင်း စာရေးတစ်ယောက် မလိုဘူးဆိုတဲ့ကိစ္စ မြို့နယ်ကောင်စီက အစည်းအဝေးမှာ သံသယ ဝင်လာကြတယ်"

"လက်ဆီမန်းဆိုတာ ဆေးဆိုးသမားလား"

ကေက လက်ဆီမန်းအိမ်မှာ တွေ့ခဲ့ရသော မုတ်ဆိတ်မွေး ဗရပျစ်နဲ့ လူရဲ့ ပုံပန်းသဏ္ဌာန်ကို ပြောပြလိုက်သည်။

"ဟုတ်တယ်၊ အဲဒီလူပဲ"

ကျေးရွာဥက္ကဋ္ဌက ပြောသည်။

"သူ့မိန်းမကိုလည်း ကျွန်တော်သိတယ်"

"အဲဒါ ဖြစ်နိုင်ပါတယ်"

"သူက လှတယ်။ ဒါပေမဲ့ အသားအရေတွေ ဖျော့ပြီး နေမကောင်းဘူး။ သူက ရဲတိုက်ကြီးကလား"

ကေက စူးစမ်းသလို ပြောလိုက်သည်။

ကျေးရွာဥက္ကဋ္ဌက နာရီကိုကြည့်သည်။ ဇွန်းထဲသို့ ဆေးဝါးတချို့ ထည့်ပြီး ကပျာကယာ မော့ချလိုက်သည်။

"ဥက္ကဋ္ဌကြီးက ရဲတိုက်ကြီးက ဝန်ထမ်းတွေကိုပဲ သိသလား”

"အဲဒီလိုပဲ။ အဲဒါကလည်း သိပ်အရေးကြီးတယ်။ ဘရန်ဝစ်နဲ့ပတ်သက်ပြီး ပြောရရင် သူ့ကို ကောင်စီထဲကနေ ဖယ်ထားလိုက်နိုင်ရင် အားလုံး ဝမ်းသာ မှာပဲ။ လက်ဆီမန်းရောပဲ။ ဒါပေမဲ့ အဲဒီအချိန်တုန်းက ဘရန်ဝစ်က သြဇာရှိ နေတယ်။ သူက စကားပြောကောင်းတဲ့လူ မဟုတ်ဘူး။ စွာကျယ်စွာကျယ် လုပ်တာ။ ဒါပေမဲ့ အဲဒါကိုပဲ လုပ်ဆောင်နိုင်စွမ်းရှိတယ်။ အဲဒီတော့ ကျွန်တော်က မြို့နယ်ကောင်စီ အစည်းအဝေးမှာ တင်ပြရတော့တာပေါ့။ ဒါပေမဲ့ ဘရန်ဝစ်ရဲ့အောင်မြင်မှုက ခဏကလေးပဲ။ မြို့နယ် ကောင်စီဝင် အများစုက မြေတိုင်းစာရေးအကြောင်း မကြားနာချင်ဘူးလို့ ငြင်းဆန် ကြတယ်။ အဲဒါက ဟိုရှေးပဝေသဏီကပဲ။ ဒါပေမဲ့ ဒီကိစ္စက ငြိမ်မသွားဘူး။ ဆော်ဒီနီရဲ့ စည်းကမ်း တိကျမှုကြောင့်ပဲ။ သူက အများစုရဲ့သဘောထားကို လေ့လာသလို အနည်းစုရဲ့ သဘောထားကိုလည်း လေ့လာတယ်။ ဘရန်စစ် ရဲ့ မိုက်ကန်းမှုနဲ့ ရည်မှန်းချက်ကြောင့်ပဲ။ သူက အာဏာပိုင်အဖွဲ့က ပုဂ္ဂိုလ် အတော်များများနဲ့ ရင်းနှီးတယ်။ အဲဒီပုဂ္ဂိုလ်တွေကို သူ့စိတ်ထဲမှာ ထင်တာ တွေကို တင်ပြတယ်။ ဒါပေမဲ့ ဆော်ဒီနီကို ဘရန်ဝစ် မလှည့်စားနိုင်ပါဘူး။ ဆော်ဒီနီလို ပုဂ္ဂိုလ်မျိုးကို ဘယ်သူက လှည့်စားနိုင်မှာလဲ။ အမှုတစ်ခုဟာ သိပ်ကြာတဲ့အခါမှာ ဒီအမှုကို အသေအချာပဲ စဉ်းစားခဲ့တယ် ထားဦး၊ အမှန် ကို ဆုံးဖြတ်သလို ဒွိဟဖြစ်စရာတွေလည်း ရှိနိုင်တယ်။ စာရေးတစ်ယောက်

က ဆုံးဖြတ်ချက်ကို ရေးလိုက်တာလည်း ဖြစ်နိုင်တယ်။ စာနဲ့ ရေးမထားတဲ့ ဆုံးဖြတ်ချက်လည်း ဖြစ်နိုင်တယ်။ ဒါပေမဲ့ ဒါကို ကျွန်တော်တို့ မသိနိုင်ဘူး။ ဗဟိုဗျူရိုကလည်း မသိနိုင်ဘူး။ ဆရာရဲ့ကိစ္စမှာလည်း ဒီအတိုင်း ဟုတ် မဟုတ် မသိဘူး။ တချို့က ဟုတ်တယ်လို့ ပြောတယ်။ တချို့က မဟုတ်ဘူး လို့ ပြောတယ်။ ဒါပေမဲ့ တကယ်ဖြစ်ခဲ့တယ်။ ဆရာ့ဆီကို ဆင့်စာပို့ လိုက်တယ်။ ဆရာ ဒီကိုရောက်အောင် ခရီးရှည်ကြီး လာခဲ့ရတယ်။ အချိန်တွေ အများကြီး ကုန်ဆုံးသွားတယ်။ ဆော်ဒီနီက ဒီအချိန်မှာ သူ ခြေကုန် လက်ပန်းကျတဲ့အထိ လုပ်ခဲ့တယ်။ ဘရန်ဝစ်က အများကြီး ဝင်ရှုပ်ခဲ့တယ်။ သူတို့နှစ် ယောက်ကြောင့် ကျွန်တော့်မှာ ပြဿနာ ဖြစ်ခဲ့ရတယ်။ ဒါတွေ အားလုံးဟာ ဖြစ်နိုင်ခြေ ရှိတယ်လို့သာ ကျွန်တော် ပြောနိုင်တယ်။ ဒါပေမဲ့ ကျွန်တော် သေသေချာချာ သိထားတဲ့ အဖြစ်မှန်ကတော့ လွန်ခဲ့တဲ့ နှစ် ပေါင်းများစွာက မြို့နယ်ကောင်စီကို ဌာနအေက မြေတိုင်း စာရေးနဲ့ ပတ်သက်ပြီး မေးမြန်းစုံစမ်းခဲ့တယ်။ ပြန်ကြားစာကို မရရှိဘူး။ ကျွန်တော့် ဆီကို စုံစမ်းမေးမြန်းမှု အသစ်တစ်ခုလုပ်ခဲ့ပြန်တယ်။ အခုတော့ ပြဿနာ အားလုံးဟာ တကယ်ပဲ ရှင်းသွားပြီ။ ဌာနအေက မြေတိုင်းစာရေး တစ် ယောက် မလိုဘူးလို့ ကျွန်တော်ပြန် လိုက်တဲ့စာကို လက်ခံတယ်။ ဆော်ဒီနီ ကလည်း သူကြိုးပမ်းခဲ့ရတာတွေ အလဟဿ ဖြစ်တယ်ဆိုတာကို နောက်ဆုံးမှာ လက်ခံလိုက်ရတယ်။ ဆရာရဲ့ကိစ္စဟာ အသေးအမွှားတွေထဲ က အသေးအမွှားဆုံး တစ်ခုဖြစ်လို့ ကျွန်တော်တို့ အသက်ရှူလို့ ရသွား ကြတယ်။ ဆော်ဒီနီရောပေါ့။ ဘရန်ဝစ်တစ်ယောက်ပဲ မကျေမနပ်ဖြစ်နေတယ်။ ဒါလည်း ရယ်စရာတစ်ခုပဲ။ အဲဒီလိုကိစ္စတွေ အားလုံး ပြီးစီးသွားတဲ့ အခါမှာ ဆရာက ဖြုန်းခနဲ ပေါ်လာပြီး ပြဿနာကြီးတစ်ခုလုံးကို အစက ပြန်စရမလို ဖြစ်နေတယ်။ ဒီလိုမျိုး ဘယ်လိုနည်းနဲ့မှ ပြန်မဖြစ်ရအောင် ကျွန်တော် ခိုင်ခိုင်မာမာ ဆုံးဖြတ်ထားတယ်"

"ဒါပေမဲ့ ကျွန်တော် အခုအထိ သိထားတာကတော့ ကျွန်တော့်ရဲ့အမှုမှာ မ တရားပြုမှု ခံထားရတာပဲပေါ့။ တရားဥပဒေပဲပေါ့။ အဲဒီအမြင်ကနေ ကျွန်တော့်ကို ကာကွယ်ရမယ်"

"ဆရာ ဘယ်လိုကာကွယ်မှာလဲ"

ကျေးရွာဥက္ကဋ္ဌက မေးလိုက်သည်။

"ဒါကိုတော့ ကျွန်တော် မပြောနိုင်ပါဘူး"

ကေက ဖြေလိုက်သည်။

"ဆရာ့ကို ကျွန်တော် အတင်းအကျပ် မမေးချင်ပါဘူး။ ဒါပေမဲ့ ကျွန်တော် နဲ့ ပတ်သက်ပြီး ဆရာသိထား စေချင်တာကတော့ ကျွန်တော်တို့ဟာ မိတ်ဆွေတွေ မဟုတ်ဘဲ သူစိမ်းတစ်ရံဆံတွေ ဖြစ်ပေမဲ့ လုပ်ငန်းမိတ်ဆွေ တစ်ယောက်လို့တော့ ယူဆစေချင် ပါတယ်။ တစ်ခုပဲ၊ ကျွန်တော် သဘောမ တူနိုင်တာကတော့ ဆရာ့ကို မြေတိုင်းစာရေး တစ်ယောက်အနေနဲ့ လက်ခံဖို့ပဲ။ ဒါပေမဲ့ တခြားကိစ္စတွေမှာဆိုရင်တော့ ကျွန်တော့်ကို ယုံကြည်စိတ်ချစွာ ဆက်ဆံပါ။

ပွင့်ပွင့်လင်းလင်း ပြောရရင် ကျွန်တော် လုပ်ပေးနိုင်တဲ့ အတိုင်းအတာမှာပေါ့။ အဲဒါက သိပ်ကြီးကြီးမားမားတော့ မဟုတ်ပါဘူး"

"ဥက္ကဋ္ဌကြီးက စကားတစ်ခွန်းကို အမြဲတမ်း ပြောလေ့ရှိတယ်။ ကျွန်တော့်ကို မြေတိုင်းစာရေး တစ်ယောက်အနေနဲ့ လက်မခံနိုင်ဘူးပေါ့။ ဒါပေမဲ့ ကျွန်တော်ဟာ မြေတိုင်းစာရေးတစ်ယောက်ပဲ။ ဒီမှာ ကလမ်ရဲ့စာ"

"ကလမ်ရဲ့ စာ၊ ကလမ်ကိုယ်တိုင် လက်မှတ်ရေးထားတဲ့အတွက် ဒီစာဟာ တန်ဖိုးရှိပြီး လေးစားလေ လေးစားလောက်ပါတယ်။ ကလမ်ရဲ့လက်မှတ်ကလည်း အစစ်အမှန် ဖြစ်ပုံရပါတယ်။”

“ဒါပေမဲ့ ကျွန်တော့်ရဲ့စကားတွေပေါ်မှာ မ သက်ရောက်စေနိုင်ပါဘူး။ မစ်ဇီ"

သူ အော်ခေါ်လိုက်သည်။

"မင်း ဘာလုပ်နေသလဲ"

မစ်ဇီနှင့် လက်ထောက်များ အမှတ်မထင် ထွက်သွားကြသည်မှာ အတော်ကလေး ကြာသွားပြီ။ သူတို့ရှာသည့် စာရွက်ကို မတွေ့သည်မှာ ထင်ရှားသည်။ ပစ္စည်းတွေအားလုံးကို ဗီရိုထဲ ပြန်ထည့်လိုက်ကြပြီ။ ဒါပေမဲ့ စာရွက် တွေ ရှုပ်ပွပြီးနေတာ ကိုတော့ သူတို့ မတတ်နိုင်ကြ။ လက်ထောက်နှစ် ယောက်သည် သူတို့အလုပ် ပြီးပြီဟု ယူဆထားကြဟန်ရှိသည်။ သူတို့က ဗီရိုကို ကြမ်းပြင်ပေါ်မှာ ပြန်ထားလိုက်သည်။ စာရွက်စာတမ်းတွေ ပြည့် သိပ်လျက်ဖြစ်သည်။ သူတို့က မစ်ဇီနှင့်အတူ ကြမ်းပြင်ပေါ်တွင် ဒူးထောက်ပြီး ဗီရိုတံခါးကို ပိတ်ရန်ကြိုးစားနေကြသည်။

"အမှုတွဲကို ရှာမရဘူး၊ ဟုတ်လား။ ဆိုးတာပဲ" ကျေးရွာဥက္ကဋ္ဌက ပြောလိုက်သည်။

"ဒါပေမဲ့ ဇာတ်လမ်းတစ်ခုလုံးကို ဆရာ သိပြီးပြီပဲ။ လက်ရှိအချိန်မှာ အမှုတွဲကို ကျွန်တော်တို့ မလိုပါဘူး။ ဒါပေမဲ့ တစ်နေ့ကျရင် ပြန်တွေ့မှာပဲ။ ကျောင်းဆရာဆီမှာ ရှိနိုင်တယ်။ အဲဒီမှာလည်း စာရွက်စာတမ်းတွေ တစ်ပုံ ကြီးပဲ။ မစ်ဇီရေ ဖယောင်း တိုင်ယူပြီး ဒီကိုလာခဲ့ပါ။ ဒီစာကို ကိုယ့်ကို ဖတ် ပြပါဦး"

မစ်ဇီ ကျေးရွာဥက္ကဋ္ဌထံ သွား၍ ခုတင်စွန်းတွင် ထိုင်ပြီး လူတစ်ယူသန်ကြီး ဘက်သို့ တိမ်းစောင်း လိုက်သည်။

ဥက္ကဋ္ဌကြီးက သူမ၏ခါးကို ဖက်ထားလိုက်သည်။ သူမက စာကို တစ်ချက် ငဲ့စောင်းကြည့်ကာ {ဟာကလမ်} ဆီက စာပဲဟု ပြောလိုက်သည်။ ထို့နောက် သူတို့စာကို အတူဖတ်ကြသည်။ ခဏတာမျှ တီးတိုးစကား ပြောနေကြသည်။ ထိုအချိန်တွင် လက်ထောက် နှစ်ယောက်သည် ဗီရိုတံခါးကို ပိတ်ပြီး သွားပြီဖြစ်သဖြင့် "အောင်ပြီ" ဟု အော်လိုက်ကြသည်။ မစ်ဇီက ကျေးဇူးတင်သည့်အနေဖြင့် ကြည့်နေသည်။ ကျေးရွာ ဥက္ကဋ္ဌက ..

"ကျွန်တော်နဲ့ မစ်ဇီနဲ့ တစ်သဘောတည်းပဲ။ ဒါကို ကျွန်တော် ပြောပြနိုင်ပါတယ်။ ဒီစ က တရားဝင် ရုံးစာမဟုတ်ဘူး။ ကိုယ်ရေးကိုယ်တာ ပုဂ္ဂလိကစာပဲ။

လိပ်မူထားပုံမှာက ဒီသဘော ရှင်းနေပါတယ်။ (ခင်မင်ရသော လူကြီး မင်း) တဲ့။ နောက်ပြီးတော့ ဆရာ့ကို မြေတိုင်းစာရေး တစ်ယောက်အဖြစ် လက်ခံထားတဲ့စာလုံး တစ်လုံးတလေမှ မပါဘူး။ ဒီစာရဲ့သဘောက ယေဘုယျအားဖြင့် အစိုးရလုပ်ငန်းသဘောပဲ။ ဒီနေရာမှာတော့ အာမခံချက် ပေးမထားပါဘူး။ ဆရာ့ကို ပေးအပ်တဲ့ နေရာမှာသာ လက်ခံတာပါ။ နောက်ဆုံးအနေနဲ့ ရိုးသဘောအနေနဲ့ ပြောရရင် ဆရာ့ကို ကျွန်တော့် လက်ကို အပ်တာပါ။ ကျေးရွာဥက္ကဋ္ဌကို အပ်တာပါ။ ဆရာ့ရဲ့ အထက်လူကြီး အဖြစ် ကျွန်တော့်ကို ဖော်ပြထားတာပါ။ တရားဝင်ရုံးစာနဲ့ တရားဝင် မဟုတ်တဲ့စာကို ခွဲခြားပြီး ဖတ်တတ်တဲ့လူတွေအတွက် ရှင်းနေပါတယ်။ လူကြီးမင်းဟာ လူစိမ်းတစ်ယောက် ဖြစ်တဲ့အတွက် ဒါကို မသိဘူးဆိုတာကို ကျွန်တော် မအံ့သြပါဘူး။ ယေဘုယျသဘော ပြောရရင် ဆရာ့ကို အစိုးရ အလုပ်မှာထည့်ထားရင် ဆရာ့ကို ပုဂ္ဂိုလ်ရေးအရ ကလမ် စိတ်ဝင်စား ကြောင်း ဖော်ပြထားတာပါ"

"ဥက္ကဋ္ဌကြီးခင်ဗျား၊ စာရဲ့အဓိပ္ပာယ်ကို ဥက္ကဋ္ဌကြီး အဓိပ္ပာယ်ဖွင့်ဆိုတာ ဟာ ဘာမှ မလိုအပ်တော့ပါဘူး။ ဒါပေမဲ့ စာရွက်ပေါ်က လက်မှတ် ကျန်နေ ပါသေးတယ်။ ဒီလိုလုပ်တာဟာ ဥက္ကဋ္ဌကြီးရဲ့စာ ဟန်ဆောင်တဲ့ ကလမ်ရဲ့ နာမည်ကို တန်ဖိုးမထားရာ မရောက်ဘူးလား"

"ဆရာက ကျွန်တော့်ကို အထင်မှားနေပြီ။ ကျွန်တော်က အဓိပ္ပာယ်ဖွင့် တာ မမှားပါဘူး။ ကျွန်တော် မလေးစားတာ မဟုတ်ပါဘူး။ လေးစားပါတယ်။ ကလမ်ဆီက ပုဂ္ဂိုလ်ရေးစာ တစ်စောင်ဟာ ရုံးသဘော စာတစ် စောင်ထက် ပိုပြီး အရေးကြီးပါတယ်။ ဒါပေမဲ့ ဆရာတွက်ထားသလို အရေးကြီးပုံမျိုးတော့ မဟုတ်ပါဘူး"

"ရှဝါဇာကို ဥက္ကဋ္ဌကြီး သိသလား"

ကေက မေးလိုက်သည်။

"မသိပါဘူး၊ မစ်ဇီရေ မင်းကော သူ့ကို သိသလား။ မင်းလည်း မသိဘူး ဟုတ်လား။ သူ့ကို ကျွန်တော်တို့ မသိပါဘူး"

"ဒါ ထူးဆန်းတယ်။ သူက လက်ထောက်ရဲတိုက်မှူး တစ်ယောက်ရဲ့ သားပဲ"

"မြေတိုင်းစာရေးကြီးရယ်၊ လက်ထောက်ရဲတိုက်မှူး တစ်ယောက်ရဲ့ သားတစ်ယောက်ကို ကျွန်တော်က ဘယ်လိုလုပ်ပြီး သိနိုင်မှာလဲ"

"ဟုတ်ပြီ၊ ဒါဆိုရင် သူဟာ လက်ထောက်ရဲတိုက်မှူး တစ်ယောက်ရဲ့ သား ဆိုတာ ကျွန်တော်ပြောတာကို လက်ခံပါ။ ကျွန်တော်ရောက်တဲ့နေ့မှာပဲ ဒီရှ ဝါဇာ ဆိုတဲ့လူနဲ့ ကျွန်တော်တွေ့ရတယ်။ နောက်ပိုင်းမှာ သူဟာ ဖရစ် ဆိုတဲ့ လက်ထောက် ရဲတိုက်မှူးတစ်ယောက်ဆီကို ပို့ဖို့ ဆက်ပြီးစုံစမ်းတဲ့အခါမှာ ကျွန်တော့်ကို မြေတိုင်း စာရေးတစ်ယောက် အနေနဲ့ ငှားရမ်းထားတယ်ဆို တဲ့ သတင်းကို သူ သိရတယ်။ ဒါကို ဥက္ကဋ္ဌကြီး ဘယ်လိုပြောမလဲ"

"ရှင်းရှင်းကလေးပဲ၊ ဆရာဟာ အခုအချိန်ထိ ကျွန်တော်တို့ရဲ့ အာဏာပိုင်

အဖွဲ့နဲ့ တစ်ခါမှ တကယ်မတွေ့ဖူးသေးဘူး။ ဆရာ ဆက်သွယ်မိတာတွေ အားလုံးဟာ ထင်ယောင်ဝိုးဝါးတွေပဲ။ ဆရာက အခြေအနေတွေကို မသိတော့ ထင်ယောင်ဝိုးဝါး တွေကို တကယ်လို့ ထင်နေတယ်။ အဲ တယ်လီဖုန်း ကိစ္စပဲ ဆိုကြပါစို့။ ဆရာမြင်တဲ့ အတိုင်းပဲ။ ကျွန်တော်ဆိုရင် အာဏာပိုင် တွေနဲ့ ဆက်သွယ်နေရတယ်။ ဒါပေမဲ့ ကျွန်တော့်မှာ တယ်လီဖုန်း မရှိဘူး။ တည်းခိုခန်းနဲ့ အဲဒီလိုနေရာမျိုးတွေမှာ သုံးနေတာ တွေဟာ ပိုက်ဆံထည့် လိုက်ရင် တေးသံမြည်တဲ့ ကိရိယာမျိုးပဲ။ ဆရာ ဒီမှာ တယ်လီဖုန်း ဆက်ဖူး သလားဟင်။ ဆရာ ဆက်ဖူးပါတယ်။ ဒါဆိုရင် ကျွန်တော်ပြောတာကို သဘော ပေါက်မှာပါ။ ရဲတိုက်ကြီးမှာ တယ်လီဖုန်းတွေဟာ အမြဲတမ်းအလုပ်လုပ် နေကြတယ်။ အဲဒီအတွက် အလုပ်တွေကို မြန်မြန်ပြီးစေတယ်။ ကျွန်တော်တို့ရဲ့ တယ်လီဖုန်းတွေ အလုပ်လုပ်နေပုံက တေးညည်းတာနဲ့ တေးဆိုတာပဲ။ ဆရာလည်း ဒါကို နားထောင် ဖူးမှာပါ။ ကျွန်တော်တို့ရဲ့ တယ်လီဖုန်းတွေ တေးညည်းပြီး တေးဆိုနေတာက တကယ် အစစ်အမှန်တွေပဲ။ ကျန်တာတွေက လှည့်စားမှုတွေပဲ။ ရဲတိုက်ကြီးနဲ့ အသေချိတ်ဆက် ထားတယ်ဆိုတာ မရှိဘူး။ ဗဟိုအိတ်ချိန်းဆိုတာ မရှိဘူး။

တစ်ယောက်ယောက်က ဒီကနေပြီး ရဲတိုက်ကြီးကို ဖုန်းဆက်တဲ့အခါ ဌာနခွဲ တွေမှာရှိတဲ့ တယ်လီဖုန်းတွေအားလုံး မြည်ကြတယ်။ ဒါပေမဲ့ ဘယ် သူမှ ဖုန်းမကိုင်ကြဘူး။ ဒါပေမဲ့ တစ်ခါတလေမှာ အင်မတန် ပင်ပန်း နွမ်းနယ်နေတဲ့ အရာရှိတစ်ယောက်က အာရုံပြောင်းတဲ့အနေနဲ့ အထူးသဖြင့် ညပိုင်းမှာတော့ ဖုန်းကို ကိုင်တတ်တယ်။ အဲဒီအခါမှာ ကျွန်တော်တို့ဟာ အဖြေတစ်ခု ရတတ်တယ်။ ဒါပေမဲ့ အဲဒီအဖြေက ပျော်စေ ပျက်စေသဘောပဲ။ ဆိုကြပါစို့ သူစိမ်းတစ်ယောက်က ဆော်ဒီနီဆီကို ဖုန်းဆက်ခဲ့ရင် ဖုန်း ကိုင်တဲ့လူဟာ တကယ်ပဲ ဆော်ဒီနီအစစ် ဖြစ်နေမယ်၊ ဒါမှမဟုတ် အခြား ဌာန တစ်ခုက စာရေးတစ်ယောက် ဖြစ်ချင်ဖြစ်နေမယ်။ အဲဒီအခါမှာ အကောင်းဆုံးကတော့ တယ်လီဖုန်း တစ်ကြိမ်မြည်တာနဲ့ အဲဒီနေရာကနေ ထွက်ပြေးသွားဖို့ပဲ"

"အဲဒီလိုမျိုးဆိုတာ ကျွန်တော် မသိဘူး။ အဲဒီထူးခြားမှုတွေကို ကျွန်တော် မသိဘူး။ ဒါပေမဲ့ တယ်လီဖုန်းနဲ့ ပြောတာတွေကို ယုံကြည်စိတ်ချရမှု မရှိဘူးဆိုရင် ကျွန်တော်သိချင်နေတာက ရဲတိုက်ကြီးမှာ ဘာတွေ အမှန် တကယ်ဖြစ်ပျက်နေသလဲ"

"မဟုတ်ပါဘူးခင်ဗျာ၊ တယ်လီဖုန်းကနေ ပြန်ကြားတာတွေက အဓိပ္ပာယ် ရှိပါတယ်။ ဘာဖြစ်လို့ အဓိပ္ပာယ် မရှိရမှာလဲ။ ရဲတိုက်ကြီးကနေ အရာရှိတစ်ယောက် ပြန်ကြားတဲ့စကားဟာ ဘာဖြစ်လို့ အရေးမကြီးရမှာလဲ။ ကလမ်ရဲ့စာကိစ္စတုန်းက ကျွန်တော် ပြောခဲ့သလိုပါပဲ။ ဒီပြန်ကြားချက်တွေ အားလုံးမှာ ရုံးသဘော အရေးပါမှု မရှိကြဘူး။ ဒါကို ဆရာက တရားဝင်ရုံး သဘောလို့ တွက်လိုက်ရင် လွဲသွားပြီ။ ဒါပေမဲ့ သူတို့က ပုဂ္ဂိုလ်ရေးအရ အင်မတန် အရေးပါကြတယ်။ ရုံးသဘော ဆက်သွယ်မှုထက် ပိုပြီးအရေးပါ ကြတယ်"

"ဟုတ်ပြီ၊ ဒါဆို ဒီအတိုင်းပဲ ကျွန်တော် လက်ခံလိုက်မယ်။ ရဲတိုက်ကြီးမှာ ကျွန်တော့်ရဲ့ မိတ်ဆွေတွေ အများကြီးရှိတယ်။ ပြီးခဲ့တဲ့နှစ်တွေအတွင်းမှာ အဲဒီဌာနတွေမှာ ဖြစ်ခဲ့တာကို ကြည့်လိုက်ရင် မြေတိုင်းစာရေးတစ်ယောက် လာခဲ့ပါလို့ ပြောခဲ့တဲ့ကိစ္စဟာ ကျွန်တော့်ကို ပုဂ္ဂိုလ်ရေးအရ ဆက်ဆံကြတယ်။ ဒါပေမဲ့ နောက်ဆက်တွဲ တစ်ခုပြီးတစ်ခု ဖြစ်ပေါ်လာတာက ပထမ ကျွန်တော့်ကို ဒီကိုလာဖို့ ဆွဲဆောင်တယ်။ နောက်ပြီးတော့ ကျွန်တော့်ကို ဒီကနေ မောင်းထုတ်ဖို့ ခြိမ်းခြောက်မယ်"

"ဆရာသုံးသပ်တဲ့အထဲမှာ မှန်တာတွေ အများကြီးပါပါတယ်။ ရဲတိုက်ကြီးက ထုတ်ပြန်ချက်တွေကို အတိအကျယူလို့ မရဘူးဆိုတာ မှန်ပါတယ်။ ဒါပေမဲ့ ဆရာ့ကို ဆွဲဆောင်တယ်လို့ ပြောတာကိုတော့ ကျွန်တော် နားမ လည်နိုင်ဘူး။ ကျွန်တော် ရှင်းပြတာတွေကို ဆရာ သေသေချာချာ နားထောင်မယ်ဆိုရင် ဆရာ့ကို ဒီကိုလာဖို့ ဆင့်ခေါ်တဲ့ကိစ္စမှာ အခုချက်ချင်း လက်ငင်း တိုတိုကလေး ပြောရုံနဲ့ ဖြေရှင်းနိုင်ဖို့ အင်မတန်ခက်ခဲပါတယ်"

"ဒါဆိုရင် ကျန်နေတဲ့ ကောက်ချက်တစ်ခုကတော့ ကိစ္စအားလုံးဟာ ဘာမှ ရေရေရာရာ မရှိဘူး။ ဘာမှ မဖြေရှင်းနိုင်ဘူး။ ဥပမာ ကျွန်တော့်ကို မောင်း ထုတ်ဖို့ကိစ္စက အစပေါ့"

"မြေတိုင်းစာရေးကြီးကို ဘယ်သူက မောင်းထုတ်ပါ့မလဲ။ ဆရာ့ကို ဆင့်ခေါ်မှုဟာ မသေချာမရေရာတဲ့ အတွက်ကလည်း ဆရာ့ကို လေးလေးစားစား ဆက်ဆံဖို့ ဖြစ်ပါတယ်။ တစ်ခုပဲရှိတယ်။ ဆရာက အကဲဆတ်လွန်းနေတာပါပဲ။ ဆရာ့ကို ဘယ်သူကမှ ဒီမှာ ခေါ်မထားဘူး။ အဲဒီအတွက် ဘယ်သူကမှ ဆရာ့ကို မောင်းထုတ်ဖို့မလိုဘူး"

"ဒီမယ်ဥက္ကဋ္ဌကြီး၊ ဥက္ကဋ္ဌကြီးဟာ အင်မတန်လွယ်တဲ့ ကိစ္စကလေးတွေ ကနေ ဝေးသွားပြန်ပြီ။ ဥက္ကဋ္ဌကြီးတွက်လို့ လွယ်အောင် ကျွန်တော် ဒီမှာရှိနေရ တဲ့ အကြောင်းရင်းတွေကို တန်းစီပြမယ်။ ကျွန်တော့်အိမ်ကို စွန့်ခွာခဲ့ရတယ်။ အင်မတန်ခက်ခဲပင်ပန်းတဲ့ ခရီးရှည်ကြီးတစ်ခုကို လာခဲ့ရတယ်။ ကျွန်တော့်ကို ဒီမှာ အလုပ်ခန့်တဲ့အပေါ်မှာ အများကြီး မျှော်လင့် အားထားခဲ့ရတယ်။ ဒီအလုပ်ကို လက်ခံလိုက်တဲ့အတွက် ကိုယ့်အရပ်မှာရနိုင်တဲ့ အလုပ်တစ်ခုကို မရနိုင်တော့ဘူး။ နောက်ပြီးတော့ ဒီမှာနေနေတဲ့ ကျွန်တော့်ရည်းစား"

"အို ဖရီဒါကို ပြောတာလား။ ကျွန်တော် သိပါတယ်" ဥက္ကဋ္ဌကြီးက အံ့သြဟန် အနည်းငယ်မျှမပြဘဲ ပြောလိုက်သည်။

"ဖရီဒါက ခင်ဗျားသွားလေရာကို လိုက်နိုင်ပါတယ်။ ကျန်တဲ့အချက်တွေ ကိုတော့ စဉ်းစားရမယ်။ ဒီကိစ္စကို ကျွန်တော် ရဲတိုက်ကြီးနဲ့ဆက်သွယ်ပြီး ပြောပါ့မယ်။ တကယ်လို့ ဆုံးဖြတ်ချက် တစ်ခုကျရင် ဒါမှမဟုတ်၊ ဒါမှ မဟုတ် ဆရာ့ကို မေးစရာ မြန်းစရာရှိတယ်ဆိုရင် ကျွန်တော် ဆရာ့ကို ခေါ် လိုက်ပါ့မယ်။ ဘယ့်နှယ်လဲ၊ ကျွန်တော် ပြောတာ သဘောတူလား"

"မတူဘူး လုံးဝသဘောမတူဘူး။ ကျွန်တော်က ရဲတိုက်ကြီးကပေးတဲ့ ဘယ်လို လိုက်လျောမှုကိုမှ မလိုချင်ပါဘူး။ ကျွန်တော့်ရဲ့အခွင့်အရေးကိုပဲ လိုချင်တယ်"

" မစ်ဇီ"

ဥက္ကဋ္ဌကြီးက သူ့ဇနီးကို ခေါ်လိုက်သည်။ သူက ဥက္ကဋ္ဌကြီးကိုမှီပြီး ထိုင်နေဆဲ ဖြစ်သည်။ ကလမ်၏စာကို စက္ကူလေှကလေးအဖြစ် အချိန်ဖြုန်းရင်း စိတ်ကူးယဉ်နေသည်။ ကေက အထိတ်တလန့်ဖြင့် စာကို ဆွဲယူလိုက်သည်။

"မစ်ဇီ၊ ကိုယ့်ခြေထောက် ကိုက်လာပြန်ပြီ။ ပတ်တီးအသစ် လဲပေးပါဦး"

ကေ မတ်တတ် ရပ်လိုက်သည်။

"ကျွန်တော် ပြန်ပါဦးမယ်"

"အင်း" ဆေးပတ်တီးတစ်ခုကို ပြင်ဆင်နေရင်း "နောက်ဆုံး ပတ်တီးကို တော်တော်ပြင်းပြင်း လုပ်ထားတာပဲ"

ကေ လှည့်ထွက်သည်။ ကေ၏နောက်ဆုံးစကားကြောင့် သူ့တပည့် နှစ်ယောက်က တံခါးနှစ်ချပ်စလုံးကို တွန်းဖွင့်လိုက်ကြသည်။ လူမမာအခန်းထဲ သို့ အပြင်က တိုးဝင်လာသော လေအေးဒဏ်ကို ကာကွယ်နိုင်ရန်အတွက် ကေက ဥက္ကဋ္ဌကြီးကို ခပ်မြန်မြန်ဦးညွှတ်ပြီး အလေးပြုလိုက်သည်။ ထို့နောက် လက်ထောက် နှစ်ယောက်ကို သူ့ရှေ့မှ တွန်းထုတ်ပစ်လိုက်ပြီး အခန်းထဲမှ တရကြမ်းထွက်ကာ တံခါးကို လျင်မြန်စွာ ပိတ်လိုက်သည်။

# ၆

တည်းခိုခန်းပိုင်ရှင်သည် တည်းခိုခန်းရှေ့မှနေ၍ သူ့ကို စောင့်ဆိုင်းလျက်ရှိသည်။ ကေက မမေးဘဲနှင့် သူက ဘာမျှပြောမည်မဟုတ်မှန်းသိသဖြင့် ကေက ဘာကိစ္စရှိလို့လဲဟု မေးလိုက်သည်။

"ဆရာ နေရာသစ် ရပလား"

ပိုင်ရှင်က မြေပြင်ကိုကြည့်ရင်း မေးသည်။

"ခင်ဗျားမိန်းမက မေးခိုင်းတာလား။ ခင်ဗျားက သူ့ဩဇာအောက်မှာပဲ"

"မဟုတ်ပါဘူး။ ကျွန်တော့်မိန်းမက မေးခိုင်းလို့ မေးတာ မဟုတ်ပါဘူး။ ဒါပေမဲ့လည်း ခင်ဗျားအတွက် တော်တော်ကြီး စိတ်အနှောင့်အယှက်ဖြစ်နေတယ်။ စိတ်မကောင်းဖြစ်နေတယ်။ ဘာအလုပ်မှ မလုပ်နိုင်ဘူး။ အိပ်ရာပေါ် မှာလှဲပြီး သက်ပြင်း တမမဖြစ်နေတယ်"

"ကျွန်တော် သူ့ကို သွားတွေ့ရမလား"

ကေက မေးလိုက်သည်။

"သွားတွေ့လိုက်ရင် ကောင်းမယ်" ပိုင်ရှင်က ပြောသည်။ "ဆရာ့ကို ခေါ် ရအောင် ဥက္ကဋ္ဌကြီးအိမ်ကို ကျွန်တော် ရောက်သေးတယ်။ ဆရာတို့ စကားပြောနေကြတာကို ကျွန်တော် တံခါးဝကနေ နားထောင်နေခဲ့တယ်။ ကျွန်တော်က ဆရာ့ကို အနှောင့်အယှက် မပေးချင်တာနဲ့၊ ပြီးတော့ ကျွန်တော့်မိန်းမအတွက် စိတ်ပူတာနဲ့ ဒီကို ပြန်လာခဲ့တယ်။ ဒါပေမဲ့ သူက ကျွန်တော့်ကို အတွေ့မခံဘူး။ ဒါနဲ့ ဆရာ့ကို စောင့်နေရတော့တာပဲ"

"ဒါဆိုရင် အခုချက်ချင်းသွားကြမယ်။ ကျွန်တော် သူ့ကို အားပေးလိုက်ပါ့ မယ်"

"အဲဒီလိုလုပ်ပေးပါ" ပိုင်ရှင်က ပြန်ပြောသည်။

သူတို့နှစ်ယောက် အလင်းရောင်ကောင်းသော မီးဖိုချောင်ကိုဖြတ်ပြီး ဝင် သွား ကြသည်။ မိန်းကလေး သုံးလေးယောက် ကိုယ့်အလုပ်နှင့်ကိုယ် ရှိနေကြသည်။ ကေ့အား မြင်တွေ့လိုက်ရသောအခါ ထိတ်လန့်သွားကြဟန် ရှိသည်။ ပိုင်ရှင်ကတော်၏ အသက်ရှူသံကို မီးဖိုချောင်မှ အတိုင်းသား ကြား ကြရသည်။ သူမက မီးဖိုချောင်နှင့် နံရံတစ်ချပ် ခြားထားသော အဖီကလေး ထဲတွင် လဲလျောင်းနေသည်။ ပြတင်းပေါက် မရှိပါ။ အခန်းထဲတွင် ခုတင် ကြီးတစ်လုံးနှင့် သေတ္တာကြီး တစ်လုံးသာရှိသည်။ ခုတင်ကြီးချထားသော နေရာမှနေ၍ မီးဖိုချောင်တစ်ခုလုံးကို မြင်နေသည်။ ဤနေရာမှနေ၍ လုပ်ငန်းများကို စီမံအုပ်ချုပ်နိုင်သည်။ သို့သော် မီးဖိုချောင်မှမူ အဖီတွင်းသို့ လှမ်းမမြင်နိုင်ပါ။ အခန်း ထဲတွင် မှောင်နေသည်။ ခရမ်းရောင်အိပ်ရာခင်း ကိုသာ ခပ်ရေးရေး တွေ့မြင်နိုင်သည်။ အခန်းထဲတွင် ခဏနေပြီး မျက်စိ ကျင့်သားရသွားသော အခါမှသာ အခန်းတွင်း၌ ရှိသည်များကို ခွဲခြားတွေ့မြင် နိုင်မည် ဖြစ်သည်။

"နောက်ဆုံးတော့ ဆရာ ရောက်လာတာပဲ"

သူမက တုန်ယင်စွာဖြင့်ပြောလိုက်သည်။ သူမက ပက်လက်လှန်ပြီး လဲလျောင်း လျက်ရှိသည်။ သူမက အသက်ကို အားယူပြီး ရှူနေရဟန်ရှိသည်။ သူမက ငှက်မွေး ဂွမ်းစောင်ကြီးကို တွန်းပစ်ထားသည်။ ခုတင်ပေါ်တွင် သူမကိုတွေ့ရသည်မှာ ပိုမို ငယ်ရွယ်နေဟန် ရှိသည်။ သူမခေါင်းတွင် ဆောင်းထားသော ညဆောင်းဦးထုပ်ကလေး ကလည်း သေးငယ်လှသည်။ သူမကိုကြည့်ရသည်မှာ သနားဖွယ်ရာဖြစ်နေသည်။

"ကျွန်တော်က ဘာဖြစ်လို့ ရောက်လာရမှာလဲ။ ခင်ဗျားက ကျွန်တော့်ကို ခေါ်လိုက်တာမှ မဟုတ်ဘဲ"

ကေက တိုးညင်းစွာပြောလိုက်သည်။

"ဆရာ ကျွန်မကို ဒီလောက်အကြာကြီး အစောင့်ခိုင်းဖို့ မကောင်းဘူး"

သူမက လူမမာတစ်ယောက်၏ လေသံဖြင့် ပြောလိုက်ပြီး ခုတင်တစ်နေရာကို လက်ညှိုးထိုးပြကာ "ထိုင်ပါဆရာ" ထို့နောက် တခြားလူများ ဘက်သို့ လှည့်ပြီး "နင်တို့ သွားကြ"

ထိုအချိန်တွင် အခန်းတွင်း၌ မိန်းကလေးများနှင့် လက်ထောက်နှစ် ယောက်တို့နှင့် ပြွတ်သိပ်လျက်ရှိသည်။

"ကိုယ်လည်းသွားမယ် ဂါဒီနာ"

"တည်းခိုခန်းပိုင်ရှင်က ပြောလိုက်သည်။ သူမ၏နာမည်ကို ကေ ပထမ ဆုံး ကြားဖူးခြင်း ဖြစ်သည်။

"အင်း အင်း၊ ရှင်လည်း ဘာဖြစ်လို့ နေရမှာလဲ"

သူတို့အားလုံး အခန်းထဲမှ ထွက်သွားကြသည်။ သည်တစ်ကြိမ်တွင်တော့ လက်ထောက် နှစ်ယောက်ပါ ချက်ချင်း ထွက်သွားကြသည်။ မိန်းကလေး တစ်ယောက်ပဲ ကျန်ရစ်သည်။ ဤအခန်းတွင် တံခါးမရှိသဖြင့် သူပြောတာ တွေကို သူများ ကြားသွားမည်ကို ဂါဒီနာက အထူးစိုးရိမ်နေပုံ ရသည်။ သူမ က အားလုံးကို ထွက်ခိုင်းသည်။ မီးဖိုချောင်ထဲမှပါ ထွက်ခိုင်းသည်။ ချက်ချင်းဆိုသလိုပင် အားလုံးထွက်သွားကြသည်။

"မြေတိုင်းစာရေးကြီး၊ သေတ္တာကြီးအပေါ်ဘက်မှာ တဘက်တစ်ထည် လွှားထားတာရှိတယ်။ အဲဒါ ယူပေးစမ်းပါ။ အဲဒီတဘက်ကို ကျွန်မ ခြုံထား ရမယ်။ ဒီဂွမ်းစောင်ကြီးကို ကျွန်မ မခြုံနိုင်ဘူး။ ကျွန်မ အသက်ရှူရ အရမ်းကျပ်တယ်"

ကေက တဘက်ကို ပေးလိုက်သည်။ သူမက ဆက်ပြီး ပြောသည်။

"ဒီတဘက်ကလေး မလှဘူးလား"

ကေအဖို့မူ သာမန်သိုးမွေး တဘက်ကလေးတစ်ထည်ပဲ ဖြစ်သည်။

သူမက တဘက်ကို လက်နှင့်စမ်းကြည့်နေသော်လည်း ပါးစပ်မှ ဘာမျှပြန်မပြောပါ။

"ဟုတ်တယ်၊ အင်မတန်လှတဲ့ တဘက်ကလေးပဲ"

ဂါဒီနာက တဘက်ကိုခြုံရင်း ပြောလိုက်သည်။

သူမက ယခုအခါ သက်သောင့်သက်သာ ပြန်ပြီးလဲလျောင်းလျက်ရှိသည်။ သူမ၏ ဝေဒနာများအားလုံး ပျောက်ကင်းသွားဟန် ရှိသည်။ သူမ၏ဆံပင် တွေ ပြေနေသည်ကိုပင် သတိထားမိသွားဟန် ရှိသည်။ သူမက အိပ်ရာမှ ထ လိုက်ပြီး ဆံပင်ကို ပြင်ထုံးသည်။ သူမက ဆံပင်ကောင်းသည်။

ကေ စိတ်မရှည်တော့သဖြင့်

"နေရာသစ်ရပလားလို့ မဒမ်က ကျွန်တော့်ကို မေးတယ်မဟုတ်လား"

"ကျွန်မက မေးသလား၊ ဟုတ်လား။ ဟင့်အင်း၊ ကျွန်မ မမေးပါဘူး။ ဆရာ မှားနေပြီ"

"မဒမ်ရဲ့ယောက်ျား ခုနကလေးကပဲ ကျွန်တော့်ကို မေးတယ်"

"ဖြစ်နိုင်ပါတယ်။ ကျွန်မနဲ့ သူနဲ့က ဆန့်ကျင်ဘက်ပဲ။ ဆရာ့ကို ကျွန်မက ဒီမှာမထားခင်တုန်းက သူက တားတယ်။ အခု ကျွန်မက ဆရာ့ကို ဒီမှာ ကြိုဆိုတော့ သူက မောင်းထုတ်တယ်။ သူက အမြဲတမ်း ဒီအတိုင်းပဲ"

"ဒါဆိုရင် နှစ်နာရီလောက်အတွင်းမှာ မဒမ်က ကျွန်တော်နဲ့ ပတ်သက်ပြီး သဘောထား ပြောင်းသွားတယ်ပေါ့"

ကေက မေးလိုက်သည်။

"ကျွန်မ သဘောထား မပြောင်းပါဘူး။ ဆရာ့လက်ကို ပေးစမ်းပါ။ အခု အချိန်ကစပြီး ကျွန်မနဲ့ ပွင့်ပွင့်လင်းလင်း ဆက်ဆံမယ်လို့ ကတိပေးစမ်းပါ။ ကျွန်မကလည်း ပွင့်ပွင့်လင်းလင်း ဆက်ဆံပါ့မယ်"

"ကောင်းပါပြီ၊ ဘယ်သူကစပြီး ပြောမလဲ"

"ကျွန်မ စပြောပါ့မယ်"

သူမက စတင်ကာ ပြောလိုက်သည်။

သူမက ခေါင်းအုံးအောက်မှ ဓာတ်ပုံတစ်ပုံယူပြီး ကေကို လှမ်းပေးသည်။

"ဒီပုံကို ကြည့်စမ်းပါ"

သူမက စိတ်အားထက်သန်စွာနှင့် ပြောသည်။

ကေ က ဓာတ်ပုံကို သေသေချာချာ မြင်နိုင်အောင် မီးဖိုချောင်ထဲသို့ သွားသည်။ သို့သော် မီးဖိုချောင်ထဲမှာပင် ဓာတ်ပုံကို သဲကွဲစွာ မမြင်ရ။ ဓာတ်ပုံက ဟောင်းနွမ်း လှသည်။ နေရာတိုင်းမှာပင် အစင်းအကြောင်းတွေ ရှိ နေသည်။ တွန့်ကြေနေသည်။ ညစ်ပတ်ပေရေနေသည်။

"ဓာတ်ပုံအခြေအနေက သိပ်မကောင်းတော့ဘူး"

ကေက ပြောလိုက်သည်။

"အင်း ဟုတ်တယ်။ ဒါပေမဲ့ ပစ္စည်းတစ်ခုကို နှစ်ပေါင်းများစွာ သိမ်းထား တယ် ဆိုတာ လူတစ်ယောက်အဖို့ အရေးကြီးလို့ပဲ။ ဒါပေမဲ့ ဆရာ သေသေချာချာကြည့်လို့ ရှိရင် ဘာဆိုတာ သိနိုင်ပါတယ်။ နောက်ပြီးတော့ ကျွန်မကလည်း ရှင်းပြပေးနိုင်ပါတယ်။ ဆရာ ဘာမြင်ရသလဲဆိုတာ ပြော စမ်းပါ။

ခတ်ပုံအကြောင်းအရာကို လူတစ်ယောက်က ပြောတာကို ကျွန်မ ကြားချင်ပါတယ်။ ပြောစမ်းပါ"

"လူရွယ်တစ်ယောက်ပဲ"

"ဟုတ်တယ်။ သူ ဘာလုပ်နေသလဲ"

ကျွန်တော် တွေ့ရတာကတော့ သူက ပျဉ်ချပ်တစ်ခုပေါ်မှာလှဲပြီး သမ်း နေ“
"တယ်

ပိုင်ရှင်ကတော် ရယ်လိုက်ပြီး

"လုံးဝမှားတယ်"

"ဒီမှာ ပျဉ်ချပ်ကြီး၊ သူက အဲဒီပေါ်မှာ လှဲနေတယ်"

ကေက ထပ်ပြောလိုက်သည်။

ပိုင်ရှင်ကတော်က မကျေနပ်ဟန်ဖြင့်

"သေသေချာချာကြည့်ပါဦး၊ သူ တကယ်ပဲ လှဲနေသလား“

"အင်း မဟုတ်ဘူး။ သူက လွင့်မျောနေတယ်။ အင်း အခု ကျွန်တော် မြင်ရပြီ။ ပျဉ်ချပ်ကြီး မဟုတ်ဘူး။ ကြိုးတစ်ချောင်းနဲ့တူတယ်။ လူရွယ်က အမြင့် ကြီး ခုန်နေတယ်"

"ဟုတ်သွားပြီ"

အမျိုးသမီးက ကျေနပ်အားရစွာနှင့် ပြောလိုက်သည်။

သူ ခုန်နေတာပဲ။ ဒါဟာ ရုံးက ဆက်သားတွေ လေ့ကျင့်တဲ့နည်းပဲ။ ဆရာ“
အမှန်အတိုင်း ပြောနိုင်လိမ့်မယ် ဆိုတာ ကျွန်မ သိပါတယ်။ ဆရာ သူ့
"မျက်နှာကိုကော ကြည့်လို့ ရသလား

"သူ့မျက်နှာကို မှုန်ဝါးဝါးလေးပဲ တွေ့ရတယ်။ သူက အင်မတန် ကြိုးပမ်းအားထုတ်နေတဲ့ပုံပဲ။ သူ့ပါးစပ်ကို ဟထားတယ်။ မျက်လုံးတွေကို မှိတ်ထားတယ်။ သူ့ဆံပင်တွေက ဝဲပြီး လွင့်နေတယ်"

"တော်ပါပေတယ်။ သူ့ကို မတွေ့ဖူးရင် ဘယ်သူမှ ဒါ့ထက်ပိုပြီး ပြောနိုင်မှာ မဟုတ်ဘူး။ ဒါပေမဲ့ သူဟာ လူချောကလေးတစ်ယောက်ပဲ။ ကျွန်မ သူ့ကိုတစ်စက္ကန့် ကလေးလောက်ပဲ တစ်ခါပဲ တွေ့ဖူးတယ်။ ဒါပေမဲ့ ကျွန်မ သူ့ကို ဘယ်တော့မှ မေ့မှာ မဟုတ်ဘူး"

"သူက ဘယ်သူလဲ"

"ကျွန်မဆီကို ကလမ်က ပထမဆုံးအကြိမ် စာပေးလွှတ်လိုက်တဲ့ ဆက်သားပဲ"

ကေ ကောင်းကောင်းမကြားရပါ။ မှန်သားပေါ်တွင် ထိခတ်နေသည့်အသံ က သူ့ကို အနှောင့်အယှက် ပေးနေသည်။ ထိုအခြင်းအရာ ဘာဖြစ်သည်ကို သူ ချက်ချင်းပင် သိရှိရသည်။ ခြံဝင်းထဲရှိ လက်ထောက် နှစ်ယောက်သည် နှင်းတောထဲတွင် ခုန်ဆွခုန်ဆွ လုပ်ပြီး သူ့ကို ကြည့်နေကြသည်။ သူတို့က သူ့ကို လက်ညှိုးထိုးပြနေရင်း တစ်ချိန်တည်းမှာပင် ပြတင်းပေါက်မှန်ကို

ခေါက်နေကြခြင်းဖြစ်သည်။ ကေထံမှ ခြောက်လှန့် လိုက်သောအမူအရာကို တွေ့ရသောအခါ တစ်ယောက်ကိုတစ်ယောက် ဆွဲခေါ်သွား ကြသည်။ သို့သော် တစ်ယောက်လက်မှ တစ်ယောက် လွတ်ထွက်ပြီး ခဏအကြာတွင် နှစ်ယောက်စလုံး ပြတင်းပေါက်သို့ ပြန်ရောက်လာကြသည်။ ကေက ချက်ချင်း ဆိုသလိုပင် သူတို့ကို မတွေ့မြင်နိုင်သော အဖီထဲသို့ ဝင်သွားသည်။ သူတို့ကလည်း သူ့ကို မတွေ့မြင်နိုင်တော့ပါ။ သို့သော် မှန်ကိုခေါက်နေသည့် အသံတွေက အတော်ကြီး ကြာအောင် ထွက်ပေါ်နေသည်။

"လက်ထောက်နှစ်ယောက်ပဲ"

ကေက တောင်းပန်သည့် အနေဖြင့် ပြောလိုက်သည်။

သို့သော် သူမက သူ့ကို အမှုမထားတော့ပါ။ သူမက ဓာတ်ပုံကို သူ့လက်ထဲမှ ပြန်ယူလိုက်သည်။ ဓာတ်ပုံကိုကြည့်သည်။ လက်ဖြင့် ဖြန့်ကပ်သည်။ ထို့နောက် ခေါင်းအုံးအောက်သို့ ပြန်ထည့်ထားလိုက်သည်။ သူမ၏ လှုပ်ရှားမှုများက လေးကန်သည်။ သို့သော် ပင်ပန်းနွမ်းနယ်ခြင်းမျိုး မဟုတ်ပါ။ တစ်ခုတစ်ခုကို လေးလေးနက်နက် အမှတ်ရနေသော ဟန်ဖြင့် ဖြစ်သည်။ သူမက ကေ့အား သူမ၏ဇာတ်လမ်းကို ပြောပြချင်နေသည်။

သူမ၏ဇာတ်လမ်းကို စဉ်းစားရင်း သူ့ကို မေ့လျော့နေဟန်ရှိသည်။

သူမက တစ်ဖက်က နားကို ပွတ်သပ်လျက်ရှိသည်။ အချိန်အနည်းငယ် ကြာသွားသည်။ ပြီးတော့မှ မော့ကြည့်ကာ ပြောသည်။

"ဒီတဘက်က ကျွန်မကို ကလမ်က ပေးတာပဲ။ ညဆောင်းဦးထုပ်ရောပဲ။ ဓာတ်ပုံ၊ တဘက်၊ ညဆောင်းဦးထုပ်၊ ဒါတွေဟာ သူ ကျွန်မကိုပေးတဲ့ အမှတ်တရ လက်ဆောင်တွေပဲ။ ကျွန်မက ဖရီဒါလောက် မငယ်ပါဘူး။ နောက်ပြီးတော့ ကျွန်မက သူ့လောက်လည်း မျှော်မှန်းချက် မကြီးပါဘူး။ စိတ်လှုပ်ရှားမှုလည်း မရှိဘူးပေါ့။ သူက စိတ်လှုပ်ရှားမှု သိပ်များတယ်။ ကျွန်မက ဘဝနဲ့ လိုက်လျောညီထွေအောင် နေတတ် ပါတယ်။ ဒါပေမဲ့ တစ် ခုတော့ ဝန်ခံရမယ်။ ကျွန်မမှာ ဒီအမှတ်တရပစ္စည်းတွေ ရှိမနေ ရင်တော့ ဒီမှာ ဒါလောက်အကြာကြီး ရပ်တည်နေနိုင်မှာ မဟုတ်ဘူး။ ဒီပစ္စည်းသုံးခု ဟာ ဆရာအဖို့တော့ အသေးအဖွဲ ကလေးတွေပါပဲ။ ဒါပေမဲ့ ကလမ်နဲ့ အ ကြာကြီး အဆက် အသွယ်ရှိခဲ့တဲ့ ဖရီဒါမှာ အမှတ်တရပစ္စည်း တစ်ခုမှမရှိဘူး။ ကျွန်မက ကလမ်နဲ့ သုံးကြိမ်ပဲ တွေ့ရတယ်။ အဲဒီနောက်မှာတော့ သူက ကျွန်မကို မခေါ်တော့ဘူး။ ဘာဖြစ်လို့လဲဆိုတာ ကျွန်မ မသိပါဘူး"

ကေက သည်ဇာတ်လမ်းကို နားထောင်ရသောအခါ စိတ်မကောင်းပါ။ သို့သော် သူ့အနေနှင့် အများကြီး စိတ်ဝင်စားရပါသည်။

"အဲဒါတွေဖြစ်ခဲ့တာ ဘယ်လောက်ကြာပြီလဲ"

သူက ပင့်သက်ဖြာပြီး မေးလိုက်သည်။

"လွန်ခဲ့တဲ့ အနှစ် နှစ်ဆယ်ကျော်ကပဲ"

"လူတစ်ယောက်ဟာ ကလမ်အပေါ်မှာ ဒါလောက်ကြာအောင် အမှတ် ရနေသလား။ ကျွန်တော်က ဒီဇာတ်လမ်းတွေ နားထောင်ပြီး အနာဂတ်ကာလ အိမ်ထောင်သည် ဘဝအတွက် အများကြီး ထိတ်လန့် တုန်လှုပ် သွားတယ်"

ကေက သူ၏ကိစ္စကို ယခုကဲ့သို့ ထည့်သွင်းပြောဆိုသည်မှာ မသင့်လျော် ဟု ယူဆသဖြင့် ပိုင်ရှင်ကတော်က မျက်စောင်းထိုးလိုက်သည်။

"စိတ်မဆိုးပါနဲ့ မဒမ်၊ ကျွန်တော်က ကလမ်ကို ဆန့်ကျင်ပြီးပြောတာ မဟုတ်ပါဘူး။ အမှန်တော့ ကျွန်တော်ဟာ ကလမ်နဲ့တောင် တစ်သားတည်း ဖြစ်သွားပါတယ်။ ဒီအချက်ကို သူ့ကို ချီးမွမ်းတဲ့လူတစ် ယောက်က မငြင်းနိုင်ပါဘူး။ ကလမ်အကြောင်း ပြောတိုင်း ကျွန်တော်ဟာ
ကိုယ့်အကြောင်းကိုယ်စဉ်းစားမိပါတယ်။ အဲဒါကို ကျွန်တော် လွှဲဖယ်လို့ မရဘူး။ နောက်ပြီးတော့ မဒမ်" ကေက သူမ၏လက်ကို ဆွဲလိုက်ရင်း "ကျွန်တော်တို့ နောက်ဆုံးအကြိမ် စကားပြောကြတုန်းက နိဂုံးချုပ် မပေးခဲ့ကြဘူး။ အခု တစ်ခါတော့ ကျွန်တော်တို့ အေးအေးချမ်းချမ်းနဲ့ ပြီးကြ ရအောင်"

"ဆရာပြောတာ မှန်ပါတယ်။ ဒါပေမဲ့ ကျွန်မကို ခွင့်လွှတ်ပါ။ ကျွန်မက သူများတွေထက် ပိုပြီး အကဲမဆတ်တတ်ပါဘူး။ ဒါပေမဲ့ လူတိုင်းမှာ အထိမခံနိုင်တဲ့ အချက်ကလေးတွေ ရှိတယ်။ ကျွန်မရဲ့ အထိမခံနိုင်တဲ့အချက်ကတော့ ဒီကိစ္စပဲ"

"ဒီအချက်က ကျွန်တော့်အတွက်လည်း ဒီအတိုင်းပါပဲ။ ဒါပေမဲ့ ကျွန်တော့် စိတ်ကို ထိန်းပါ့မယ်။ မဒမ် ကျွန်တော့်ကို တစ်ခုပြောစမ်းပါ။ အခုလို အလွန်အမင်း သစ္စာရှိမှုဟာ ကျွန်တော့်ရဲ့အိမ်ထောင်ရေးဘဝမှာကော ဘယ်လိုဖြစ်လာနိုင်သလဲ။ ဖရီဒါဟာ မဒမ်နဲ့ တူခဲ့ရင်ပေါ့"

အလွန်အမင်းသစ္စာရှိမှု၊ ဟုတ်လား"

ပိုင်ရှင်ကတော်က သံယောင်လိုက်လိုက်သည်။

"ဒါဟာ သစ္စာရှိမှု၊ ဟုတ်လား။ ကျွန်မက ကျွန်မယောက်ျားအပေါ်မှာ သစ္စာရှိတယ်။ အင်း ကလမ်နဲ့ရော၊ ကလမ်က ကျွန်မကို တစ်ခါတုန်းက သူ့ ရဲ့ အပျော်မယား အနေနဲ့ ဆက်ဆံခဲ့တယ်။ အဲဒီမှာကော ကျွန်မ သစ္စာမဲ့ရမ လား။ ဆရာက မေးတယ်၊ ဖရီဒါနဲ့ ဘယ်လို ဆက်စပ်ရမလဲတဲ့။ သြော် မြေတိုင်းစာရေးကြီးရယ်၊ ဒီမေးခွန်းမျိုး မေးရဲတာက ဆရာဟာ ဘယ်လို လူစားမျိုးလဲ"

ကေက သတိပေးသည့်အနေဖြင့် ပြောလိုက်သည်။

"ကျွန်မ သိပါတယ်"

သူမက စိတ်ကို ထိန်းရင်း ပြောသည်။

"ကျွန်မယောက်ျားက ဒီမေးခွန်းမျိုး တစ်ခါမှ မမေးဖူးဘူး။ ဒါကို စိတ်မ ကောင်းစရာလား ဆိုတာ ကျွန်မ မသိဘူး။ ကျွန်မရဲ့ဘဝနဲ့ ဖရီဒါရဲ့ဘဝ။ ဖရီဒါက ကလမ်ကို စွန့်ပစ်ခဲ့တယ်။ ကျွန်မကျတော့ သူက ကျွန်မဆီကို မလာတော့တာ။ ဖရီဒါက သူ့ရဲ့စိတ်ဆင်းရဲမှုကို မတွေးတာ ဖြစ်နိုင်တယ်။ ကျွန်မ ကတော့ အခုထိ

စိတ်မကောင်း ဖြစ်နေရတယ်။ မေးခွန်းတစ်ခုကိုပဲ ကျွန်မ မေးနေမိတယ်။ ဒါဟာ ဘယ်လိုဖြစ်တာလဲ။ ကလမ်ဟာ ကျွန်မကို သုံးကြိမ် ခေါ်တွေ့ခဲ့တယ်။ ဒါပေမဲ့ လေးကြိမ်မြောက်တော့ မခေါ်တော့ဘူး။ ဒီရက်တွေအတွင်းမှာ ကျွန်မ ဒါကိုမတွေးလို့ တခြား ဘာကိုတွေးရ မလဲ။ ကျွန်မ ယောကျ်ားနဲ့ တခြား ဘာအကြောင်း ဆွေးနွေးရမလဲ။ အဲဒီ တတိယ အကြိမ် ပြီးတဲ့နောက်ပိုင်းမှာ ကျွန်မ သူနဲ့လက်ထပ်ခဲ့တာပဲ။ နေ့ခင်းဘက်မှာဆိုရင်တော့ ကျွန်မတို့မှာ အချိန်မရှိဘူး။ တည်းခိုခန်းကိစ္စ လုံးပမ်းနေကြရတယ်။ ဒါပေမဲ့ ညဘက် ကျရင်တော့ နှစ်ပေါင်းများစွာ ကြာအောင် ကလမ် အကြောင်း ပြောခဲ့ကြရတယ်။ ကလမ် ဘာဖြစ်လို့ စိတ်ပြောင်း သွားတာလဲ ပေါ့။ အဲဒီလိုပြောနေရင်းနဲ့ ကျွန်မယောကျ်ား အိပ်ပျော်သွားရင် ကျွန်မ သူ့ ကို နှိုးပြီး ဆက်ပြောတယ်"

"ကျွန်တော့်ကို ခွင့်ပြုပါ။ မဒမ့်ကို ကျွန်တော် ခပ်ရိုင်းရိုင်းမေးခွန်းတစ်ခု မေးချင်တယ်"

အမျိုးသမီး ဘာမျှပြန်မပြောပါ။ နှုတ်ဆိတ်နေသည်။

"ဒါဆိုရင် ကျွန်တော် မမေးတော့ပါဘူး။ ကျွန်တော့်ကိစ္စ ပြီးသွားပါပြီ"

"ဟုတ်တယ်၊ ဆရာ့ကိစ္စ ပြီးသွားပြီ။ အကောင်းဆုံးနည်းနဲ့ ပြီးသွားပြီ။ ဆရာဟာ နေရာတိုင်းမှာ အဓိပ္ပာယ်ကောက် လွဲတတ်တယ်။ လူတစ် ယောက် နှုတ်ဆိတ်နေတာကိုလည်း အဓိပ္ပာယ်ကောက်လွဲတယ်။ နေရာ တိုင်းမှာ ဒီလိုလုပ်လို့ မရဘူး။ ဆရာ့မေးခွန်းကို မေးဖို့ ကျွန်မ ခွင့်ပြုတယ်"

"ကျွန်တော်ဟာ နေရာတိုင်းမှာ အဓိပ္ပာယ်ကောက်မှားတယ်ဆိုရင် ကျွန်တော့် မေးခွန်းနဲ့ ပတ်သက်ပြီး အဓိပ္ပာယ်ကောက် မှားတာလည်း ဖြစ်နိုင်ပါတယ်။ တကယ်တော့ ကျွန်တော့်မေးခွန်းက မရိုင်းပါဘူး။ ကျွန်တော်သိချင် တာက မဒမ်ယောကျ်ားနဲ့ မဒမ် ဘယ်လိုတွေ့ကြပြီး ဒီတည်းခိုခန်း မဒမ်ရဲ့ လက်ထဲကို ဘယ်လိုရောက်လာသလဲ ဆိုတာပဲ"

ပိုင်ရှင်ကတော် မျက်မှောက်ကုပ်လိုက်သည်။ သို့သော် ဘာမှမဖြစ်သလို မျိုး ပြောဆိုသည်။

"ဇာတ်လမ်းက ရှင်းရှင်းကလေးပါပဲ။ ကျွန်မအဖေက ပန်းပဲဆရာကြီးပဲ။ ကျွန်မယောကျ်ား ဟန် က လယ်ပိုင်ရှင်ကြီးတစ်ယောက်ခြံမှာ မြင်းထိန်းတစ်ယောက်ပဲ။ ကျွန်မကို မကြာခဏ လာတွေ့တယ်။ အဲဒါ ကလမ်နဲ့ နောက်ဆုံးအကြိမ်တွေ့ပြီးတဲ့ နောက်ပိုင်းမှာပဲ။ ကျွန်မက အတော်ကြီး စိတ် ထိခိုက်နေတယ်။ အမှန်တော့ ကျွန်မအနေနဲ့ ဘာမှ စိတ်မကောင်းဖြစ်နေစရာ မရှိပါဘူး။ ကျွန်မ ကလမ်နဲ့ မတွေ့တာဟာ ကလမ်ရဲ့ ဆုံးဖြတ်ချက်ပဲ။ ကျွန်မအနေနဲ့ ဘာမှစိတ်ထိခိုက်နေစရာ မလိုပါဘူး။ ဒါပေမဲ့ ကျွန်မ ဘာ အလုပ်မှ မလုပ်နိုင်ဘူး။ အိမ်ရှေ့ ခြံဝင်းထဲမှာပဲ တစ်နေကုန် ထိုင်နေမိတယ်။ အဲဒီမှာ ဟန်က လာတွေ့တာပဲ။ ကျွန်မရဲ့ဘေးမှာ ထိုင်တတ်တယ်။ ကျွန်မသူ့ကို ဘာမှ မတိုင်တန်းဘူး။ ဒါပေမဲ့ ဘာဖြစ်တယ်ဆိုတာ သူသိတယ်။ သူက လူကောင်း တစ်ယောက် ဖြစ်တယ်။

ကျွန်မနဲ့အတူ ရောပြီး ငို တတ်တယ်။

"အဲဒီအချိန်မှာ တည်းခိုခန်းပိုင်ရှင်ကတော်ကြီး ဆုံးသွားတယ်။ တည်းခိုခန်းပိုင်ရှင်ကလည်း အသက်အရွယ်ကြီးပြီ ဖြစ်လို့ ဒီအလုပ်ကို စွန့်လွှတ်လိုက်ဖို့ပဲရှိတယ်။ တစ်နေ့တော့ သူဟာ ခြံရှေ့က ဖြတ်သွားရင်း ကျွန်မတို့ငိုနေကြတာကို တွေ့သွားတယ်။ သူ ခြံထဲဝင်လာပြီး ချက်ချင်းပဲ ကျွန်မတို့ ကို သူ့တည်းခိုခန်းကို ငှားတယ်။ ကြိုတင်ငွေ မတောင်းဘူး။ ဘာဖြစ်လို့ လဲဆိုတော့ ကျွန်မတို့ကို ယုံလို့ပဲ။ ငှားရမ်းခကိုလည်း အနိမ့်ဆုံးနှုန်းပဲ ယူတယ်။

"ကျွန်မအတွက် အဖေ့မှာ တာဝန်မပိစေချင်ဘူး။ ဒါကြောင့်မို့ တည်းခိုခန်းအလုပ်ကို လုပ်ဖို့ ဆုံးဖြတ်လိုက်တယ်။ ကလမ်ကိစ္စကိုလည်း မေ့သွားအောင်ပေါ့။ ဟန်နဲ့ ကျွန်မ လက်ထပ်လိုက်တယ်။ ဇာတ်လမ်းကတော့ ဒါပါပဲ”

အတန်ကြာအောင် တိတ်ဆိတ်နေသည်။ ပြီးမှ ကေ ပြောလိုက်သည်။

"တည်းခိုခန်း ပိုင်ရှင်ရဲ့အပြုအမူက အင်မတန်ရက်ရောတာပဲ။ ဒါပေမဲ့ မလွန် လွန်းဘူးလား။ ဒါမှမဟုတ် မဒမ်တို့နှစ်ယောက်ကို ယုံကြည်စရာ သူ့မှာ တခြားအကြောင်းတစ်ခုရှိသလား"

"သူက ဟန်ကို ကောင်းကောင်းသိတယ်။ သူက ဟန်ရဲ့ ဦးကြီးပဲ“

"ဒါဆိုရင် ဟန်ရဲ့မိသားစုဟာ မဒမ်နဲ့ပတ်သက်ရမှာကို မစိုးရိမ်ကြဘူး လား"

"ဖြစ်နိုင်ပါတယ်။ ကျွန်မ မသိဘူး၊ ကျွန်မကတော့ စဉ်းစားမကြည့်မိဘူး"

"ဒါပေမဲ့ ဒီသဘောမျိုး ဖြစ်နိုင်ပါတယ်။ သူတို့ဟာ ဘာအာမခံချက်မှ မရှိဘဲနဲ့ တည်းခိုခန်းကြီး တစ်ခုလုံး မဒမ်ရဲ့လက်ထဲ အပ်လိုက်ရတာ"

"ဒါက လက်လွှတ်စပယ်လုပ်တာ မဟုတ်ပါဘူး။ နောက်ပိုင်းမှာ ကျွန်မက သက်သေ ပြခဲ့ပါတယ်။ ကျွန်မက သန်မာတယ်။ ပန်းပဲဆရာတစ်ယောက်ရဲ့ သမီးပဲ။ ကျွန်မမှာ အဖော်တွေ၊ အလုပ်သမတွေ မလိုဘူး။ ကျွန်မ အကုန် လုပ်တာပဲ။ ယမကာအခန်းမှာ၊ မီးဖိုချောင်မှာ၊ မြင်းဇောင်းမှာ၊ ခြံဝင်းထဲမှာ အားလုံး ကျွန်မလုပ်တာပဲ။ ကျွန်မက အချက်အပြုတ်ကောင်းတယ်။ ဟာ ရင်ဟော့က ဖောက်သည်တွေကို ဆွဲဆောင်နိုင်တယ်။ နေ့လယ်စာ စားချိန်နဲ့ ဆရာ မကြုံဖူးသေးဘူး။ အဲဒီအချိန်တုန်းကဆိုရင် ဖောက်သည်တွေနဲ့ ပြည့် နေတာပဲ။ ပထမပိုင်းမှာ ကျွန်မတို့ဟာ ငှားရမ်းခကို အချိန်မှန်မှန် မပေးနိုင်ဘူး။ ဒါပေမဲ့ ခြံဝင်းကြီးတစ်ခုလုံးကို ဝယ်နိုင်တယ်။ အခုဆိုရင် ကြွေး လုံးဝ ကင်းသွားပြီ။

"တစ်ခုပဲရှိတယ်။ ကျွန်မရဲ့ကျန်းမာရေး ဆိုးလာတယ်။ ကျွန်မမှာ နှလုံးရောဂါရှိတယ်။ ကျွန်မဟာ ဟန်ထက် အများကြီး ကြီးတယ်လို့ ဆရာထင် လိမ့်မယ်။ တကယ်တော့ ဟန်က ကျွန်မထက် နှစ်နှစ် သုံးနှစ်ပဲ ငယ်တယ်။ သူ့အလုပ်က ဘယ်တော့မှ အိုမင်းသွားမယ့်ပုံ မရှိဘူး။ သူက ဆေးတံ သောက်လိုက်၊ ဖောက်သည်တွေနဲ့ စကားပြောလိုက်၊ တစ်ခါတလေ ဘီယာချိုင့် လိုက်ပို့လိုက်၊ ဒါပဲ။ ဒီအလုပ်မျိုးက ဘယ်တော့မှ အိုမင်းသွားမှာမဟုတ်ဘူး"

"မဒမ်ရဲ့လုပ်ဆောင်မှုတွေဟာ အင်မတန် ကောင်းပါတယ်။ ကျွန်တော်

နည်းနည်းမှ သံသယမရှိပါဘူး။ ဒါပေမဲ့ ကျွန်တော်တို့ အခုပြောနေတာက မ ဒမ် လက်မထပ်ခင်က အချိန်ပဲ။ ဟန်ရဲ့မိသားစုဟာ မင်္ဂလာကိစ္စကို အတော် ကြီး စဉ်းစား ကြရမယ်နဲ့တူတယ်။ ပိုက်ဆံတွေအတွက် စွန့်စားရမယ်၊ ဒါမှ မဟုတ် ဒီတည်းခိုခန်း ကြီးကို မဒမ်ရဲ့လက်ထဲကိုအပ်ဖို့ကိစ္စ အများကြီး စွန့် စားကြရမယ်။ မဒမ်ရဲ့ လုပ်ရည် ကိုင်ရည်ကလွဲလို့ တခြား ဘာအာမခံချက်မှ မရှိဘူး။ အဲဒီအချိန်တုန်းကလည်း မဒမ်ရဲ့ လုပ်ရည်ကိုင်ရည်ကို ဘယ်သူမှ မသိကြသေးဘူး။ ဟန်ရဲ့ လုပ်ရည်ကိုင်ရည် ကိုလည်း ဘယ်သူမှ မသိကြသေးဘူး"

"ဟုတ်ပြီ၊ ဆရာ ဘာကိုဆိုလိုတယ်ဆိုတာ ကျွန်မ သိပြီ။ ဆရာပြောတဲ့ အဓိပ္ပာယ်က အများကြီး ကျယ်ဝန်းပါတယ်။ ဒီကိစ္စမှာ ကလမ်အနေနဲ့ ဘာ မှမပတ်သက် ပါဘူး။ သူက ကျွန်မအတွက် ဘာပူပန်စရာရှိလို့လဲ။ အဲဒီတုန်း က ကျွန်မအကြောင်း သူ ဘာမှမသိပါဘူး။ သူ ကျွန်မကို မခေါ်တော့တာက သူ ကျွန်မကို မေ့သွားလို့ပဲ။ သူက လူတွေကို မခေါ်တော့ဘူး။ အဲဒီလူတွေကို သူ လုံးဝမေ့သွားလို့ပဲ။ ကျွန်မ ဒီအကြောင်း ဖရီဒါရှေ့မှာ မပြောချင်ဘူး။ မေ့တာမှ သာမန်မေ့တာမျိုးမဟုတ်ဘူး။ အဲဒီအဆင့်ထက် အများကြီးပိုတယ်။ တချို့က မေ့သွားတယ်ဆိုပေမဲ့ ပြန်ပြီး အမှတ် ရလာတတ်တယ်။ ကလမ်က အဲဒီလိုမျိုး လုံးဝမဖြစ်နိုင်ဘူး။ သူက တစ်ယောက် ယောက်ကို မခေါ်တော့ဘူးဆိုရင် လုံးဝမေ့သွားလို့ပဲ။ အတိတ်အတွက်တင်မဟုတ်ဘူး။ အနာဂတ် အတွက်လည်း ဖြစ်တယ်။ ကျွန်မအနေနဲ့ အတွေးခေါင်ခဲ့ရင် ဆရာ တွေး သလိုမျိုး တွေးမိနိုင်ပါတယ်။ ကလမ်က ကျွန်မကို ဟန်နဲ့ ပေးစားတယ်။ ဒါမှ သူကျွန်မကို ခေါ်ခဲ့ရင် ကျွန်မအနေနဲ့ အခက်အခဲမရှိ သွားနိုင်အောင်ပဲ။ ကလမ်က လက်ဖျောက်တီးလိုက်ရင် အဟန့်အတား မလုပ်တဲ့ လူတစ် ယောက်ဟာ ရှူးတာပဲ။ တကယ့်ကို ရှူးတာပဲ။ ဒီလိုမျိုးတွေးတာဟာ တကယ့် ကို ရှူးတာပဲ"

"မဒမ်ပြောသလောက်တော့ ကျွန်တော် မတွေးမိသေးပါဘူး။ ဒါပေမဲ့ အမှန်အတိုင်း ဝန်ခံရရင်တော့ အဲဒီလိုမျိုး တွေးမိတော့မယ့်ဆဲဆဲပဲ။ လောလောဆယ်အချိန်မှာ ကျွန်တော် အံ့သြတာကတော့ ဟန်ဟာ အခုလို လက်ထပ်တဲ့အပေါ်မှာ အများကြီး မျှော်လင့်ခဲ့တယ်။ သူ မျှော်လင့်ထားတာ တွေလည်း တကယ်ဖြစ်ခဲ့တယ်။ အဲဒီအတွက် မဒမ်ရဲ့ကျန်းမာရေးကို ပေးခဲ့ ရတယ်။ ဒါဟာ အမှန်ပဲ။ ဒါပေမဲ့ ဒါကို မဒမ်ပြောသလို ကျွန်တော် တဲ့တိုး ကြီး မတွက်ခဲ့ပါဘူး။ ဒါပေမဲ့ ကျွန်တော်တွက်တာက ဒီလိုပါ။ မဒမ် လက်ထပ်ရတဲ့ အကြောင်းရင်းက ကလမ်ပဲ။ ကလမ်ကြောင့်သာ မဟုတ်ရင် အစ်မဟာ စိတ်ထိခိုက်နေစရာအကြောင်း မဟုတ်ဘူး။ အိမ်ရှေ့ခြံဝင်းထဲမှာ ထိုင်နေခဲ့မှာ မဟုတ်ဘူး။ အစ်မထိုင်နေတာကို ဟန်က တွေ့မှာမဟုတ်ဘူး။ အစ်မသာ စိတ်ထိခိုက် မနေခဲ့ရင် ဟန်လို ရှက်တတ်တဲ့လူတစ်ယောက်က အစ်မကို စကားပြောခဲ့မှာမဟုတ်ဘူး။ ကလမ်ကြောင့်သာမဟုတ်ရင် ဟန် က အစ်မကို မျက်ရည်စက်လက်နဲ့ တွေ့မှာမဟုတ်ဘူး။ ကလမ်ကြောင့်သာ မဟုတ်ရင် စိတ်ရင်းစေတနာ ကောင်းမွန်တဲ့

ဦးကြီးက အစ်မတို့ နှစ်ယောက် အေးအေးချမ်းချမ်းထိုင်နေကြတာကို တွေ့မှာမဟုတ်ဘူး။ ကလမ်ကြောင့် သာ မဟုတ်ရင် အစ်မဟာ ဖြစ်လာတဲ့ဘဝကို ဥပေက္ခာပြုနိုင်မှာမဟုတ်ဘူး။ အဲဒါဆိုရင် ဟန်နဲ့ ဘယ်တော့မှ လက်ထပ်ဖြစ်မှာမဟုတ်ဘူး။ အခုတော့ ကလမ်နဲ့ပတ်သက်လို့ အားလုံးပြီးလောက်ပြီ။ ကျွန်တော့်အတွက်လည်း အတူတူပဲ။ ဒါပေမဲ့ ဒါဟာ အားလုံး မဟုတ်ဘူး။ အစ်မဟာ မေ့ပျောက်ဖို့သာမကြိုးစားခဲ့ရင် အစ်မဟာ အစ်မဆိုင်အတွက် ဒါလောက် လုပ်ခဲ့မှာမဟုတ်ဘူး။ အဲဒီတော့ ဒီနေရာမှာ ကလမ်လည်း ပါတာပဲ။ ဒါပေမဲ့ အစ်မ နေမ ကောင်းဖြစ်ရတာရဲ့ အကြောင်းရင်းက ကလမ်ကြောင့်ဆိုတာအပြင် အစ်မ ဟာ လက်မထပ်ခင်မှာ အစ်မဟာ သူ့အတွက် မျှော်လင့်ချက် မရှိတော့တာ ကြောင့် အစ်မရဲ့ အသည်းသည် ပြုန်းပြုန်းကြေခဲ့ပြီ။

"တစ်ခု၊ ပြဿနာတစ်ခုပဲ ကျန်တော့တယ်။ ဟန်ရဲ့ဆွေမျိုးတွေက အစ်မ တို့ လက်ထပ်ဖို့ ဘာကြောင့် ဒါလောက် စိတ်အားထက်သန်ကြရတာလဲ။ အခုပဲ အစ်မ ပြောသွားတယ်၊ ကလမ်ရဲ့အပျော်မယား ဖြစ်ရတာဟာ ဝိသေသထူးတယ်တဲ့။ သူတို့က ဒါကိုများ သဘောကျလို့လား။ ဒါ့အပြင် ကျွန်တော်ထင်တာက ကလမ်နဲ့ အစ်မ တွေ့တာဟာ ကံကောင်းတာပဲလို့ သူ တို့ယူဆတယ်။ ဒီကံကောင်းမှုဟာ အစ်မနဲ့ အတူရှိနေမယ်"

"ဒါတွေကို ဆရာ တကယ်ပြောနေတာလား"

"ဟုတ်တယ်၊ တကယ်ပြောနေတာပဲ။ ဟန်ရဲ့ဆွေမျိုးတွေဟာ သူတို့နဲ့ ပတ်သက်ပြီး အမှားကြီးလည်း မဟုတ်ဘူး။ အမှန်ကြီးလည်း မဟုတ်ဘူး။ ဒါပေမဲ့ သူတို့ရဲ့အမှားကို ကျွန်တော် တွေးမိတယ်။ အပေါ်ပန်းအရ အားလုံး ဟာ အောင်မြင်တယ်။ ဟန်မှာ အားလုံး အဆင်ပြေတယ်။ ချောမောတဲ့ ဇနီး တစ်ယောက် ရတယ်။ တည်းခိုခန်းဟာ ကြွေးကင်းရှင်းတယ်။ ဒါပေမဲ့ လက်တွေ့မှာတော့ အားလုံးဟာ မအောင်မြင်ဘူး။ ပထမဆုံးအချစ်ကိုပေး တဲ့ မိန်းကလေး တစ်ယောက်နဲ့ ရရင် သူ ပိုပြီး ပျော်ရွှင်တယ်။ အစ်မပြော သလို သူဟာ တည်းခိုခန်းဆီမှာ ငိုင်နေတယ်ဆိုရင် သူဟာ တကယ်ပဲ ငေး ငိုင်နေလို့ပဲ။ သူ့လို ချောမောပြီး ဦးနှောက်ကောင်းတဲ့ လူငယ်တစ်ယောက် ဟာ တခြားဇနီးတစ်ယောက်နဲ့ဆိုရင် ပိုပြီးပျော်ရွှင်မှာပဲ။ ပျော်ရွှင်မယ်ဆို တာက လွတ်လပ်မယ်၊ အမှီအခိုကင်းမယ်။ ယောကျ်ားပီသမယ်။ နောက်ပြီးတော့ အစ်မကိုယ်တိုင်ဟာ မပျော် ရွှင်ဘူး။ အစ်မမှာ ချစ်သက်လက်ဆောင် သုံးခုသာမရှိရင် အစ်မ ခံနိုင်မှာမဟုတ်ဘူး။ အဲဒီတော့ ဟန်ရဲ့မိသားစုဟာ သူတို့ရဲ့မျှော်လင့်ချက်နဲ့ပတ်သက်ပြီး မှားသလား။ ကျွန်တော်တော့ မထင်ဘူး။ အစ်မကို ကောင်းချီးချမ်းသာ ပေးနေတယ်။ ဒါကို သူတို့ ဘယ်လို အသုံးချရမှန်းမသိဘူး"

"ဒါဖြင့် သူတို့ ဘာလုပ်ဖို့ လိုနေကြသလဲ"

"ကလမ်ကို မေးရမယ်"

ကေကပြောလိုက်သည်။
"ဒါဆိုရင် ဆရာဟာ ဆရာ့ကိစ္စကို ပြန်ရောက်လာတာပဲ"
"အစ်မကိစ္စလည်း ဖြစ်တယ်။ ကျွန်တော်တို့က မျှဉ်းပြိုင်ဖြစ်နေတယ်"
"ကလမ်ဆီက ဆရာ ဘာလိုချင်တာလဲ"
အမျိုးသမီးက မေးလိုက်ပြီး ထထိုင်သည်။ ခေါင်းအုံးများကို ခါပြီး သူ ကျောမှီပြီး ထိုင်နိုင်အောင် လုပ်သည်။ ထို့နောက် ကေအား သေသေချာချာ ကြည့်နေသည်။
"ကျွန်မရဲ့ အတွေ့အကြုံတွေအားလုံး ဆရာ့ကို ပြောပြပြီးပြီပဲ။ အဲဒီကနေ ဆရာ သင်ခန်းစာတစ်ခုခု ရနိုင်တယ်။ ကလမ်ကို ဆရာက ဘာမေးချင် တယ်ဆိုတာ ကျွန်မကို ပွင့်ပွင့်လင်းလင်း ပြောစမ်းပါ။ ဖရီဒါကို အပေါ်ထပ် က သူ့အခန်းသွားနေဖို့ ကျွန်မ အများကြီး ပြောရတယ်။ သူ့ရှေ့မှာဆိုရင် ဆရာ ပွင့်ပွင့်လင်းလင်းမပြောမှာစိုးလို့ပဲ"
"ကျွန်တော့်မှာ ဘာဖုံးကွယ်စရာမှ မရှိပါဘူး။ ဒါပေမဲ့ အစ်မကို ကျွန်တော် ပြောချင်တာ တစ်ခုရှိတယ်။ ကလမ်ဟာ ချက်ချင်း မေ့သွားတတ်တယ်လို့ မ ဒမ်က ပြောတယ်။ ဒါဟာ ကျွန်တော့်အမြင်မှာတော့ မဖြစ်နိုင်ဘူး။ ဒါဟာအဓိပ္ပာယ်မရှိဘူး။ ပုံပြင်တစ်ခုပဲ။ မဒမ်က ဒီလိုမျိုးစကားကို ယုံသလား"
"ပုံပြင်မဟုတ်ပါဘူး။ ယေဘုယျ အတွေ့အကြုံအရပါ"
"ဒါဆိုရင် ဒီအချက်ကို တခြားအတွေ့အကြုံအရ ကျွန်တော် လက်မခံပါဘူး။ မဒမ်ရဲ့ပြဿနာနဲ့ ဖရီဒါရဲ့ပြဿနာ ခြားနားမှုရှိနေပါတယ်။ ဖရီဒါရဲ့ ကိစ္စမှာ ကလမ်ဟာ နောက်ထပ်ခေါ်စရာအကြောင်း မရှိဘူး။ ဒါပေမဲ့ ခေါ်ခဲ့တယ်။ ဖရီဒါက မသွားတာပါ။ သူဟာ အခုအချိန်အထိ သူမကို စောင့်နေ သေးတာ ဖြစ်နိုင်ပါတယ်"
တည်းခိုခန်းအမျိုးသမီး . ဘာမျှမပြောပါ။ ကေကို စူးစမ်းလေ့လာသော အားဖြင့် ငေးကြည့်နေပါသည်။ နောက်ဆုံးတွင်မှ သူမက ပြောသည်။
"ဆရာပြောတာတွေကို ကျွန်မ ငြိမ်ငြိမ်ကလေး နားထောင်နေပါတယ်။ တစ်ခုပဲ ကျွန်မ တောင်းပန်ပါတယ်။ ကလမ်ရဲ့နာမည်ကို ထည့်မပြောပါနဲ့။ {သူ} လို့ပဲ ပြော၊ ဒါမှမဟုတ် တစ်နည်းနည်းနဲ့ပြော၊ ဒါပေမဲ့ သူ့နာမည်တော့ မသုံးပါနဲ့"
"ကောင်းပါပြီ။ ဒါပေမဲ့ သူ့ဆီက ဘာလိုချင်တယ်ဆိုတာ ကျွန်တော် ပြောဖို့ ခက်တယ်။ ပထမအချက်ကတော့ ကျွန်တော် သူနဲ့ နီးနီးကပ်ကပ် တွေ့ချင်တယ်။ ပြီးတော့ သူ့စကားပြောသံကို နားထောင်ချင်တယ်။ နောက်ပြီးတော့ ကျွန်တော်တို့ မင်္ဂလာဆောင်မယ့်ကိစ္စကို သူ ဘယ်လို သဘောထားတယ်ဆို တာ သိချင်တယ်။ အဲဒီနောက် သူ့ကို ကျွန်တော် ဘာမေးမယ်ဆိုတာ ကတော့ ကျွန်တော်တို့ တွေ့ဆုံတဲ့ အပေါ်က ထွက်လာတဲ့ အခြေအနေပေါ် မှာ မူတည်တယ်။ ကျွန်တော်တို့ စကားပြောကြရာကနေ အကြောင်းအချက် တွေ အများကြီး ထွက်လာနိုင်တယ်။ ဒါပေမဲ့ ကျွန်တော့် အတွက် အရေးအကြီးဆုံးကတော့ သူ့ကိုရင်ဆိုင်ဖို့ပဲ။ မဒမ်သိတဲ့အတိုင်းပဲ။ ကျွန်တော်က ခုအထိ တကယ့်အာဏာပိုင်တစ်ယောက်နဲ့

မတွေ့ရသေးဘူး။ အဲဒီကိစ္စက ကျွန်တော် ထင်ထားတာထက် ပိုပြီးခက်ခဲနေတယ်။ ဒါပေမဲ့ အခု ကျွန်တော် တွက်ထားတာကတော့ ကျွန်တော် သူ့ကို သာမန်လူတစ်ယောက် အနေနဲ့ တွေ့မယ်။ အဲဒါက ပိုပြီး လွယ်ကူလိမ့်မယ်။ ဝန်ထမ်းတစ်ဦး အနေနဲ့ဆိုရင် ရဲတိုက်ကြီးမှာရှိတဲ့ သူ့ရဲ့ရုံးခန်းမှာ ပြောရလိမ့်မယ်။ ရဲတိုက်ကြီးထဲကို မဝင်နိုင်ဘူး။ ဒါမှမဟုတ် ဟာရင်ဟော့တည်းခိုခန်းမှာ တွေ့ဖို့ဆိုတာကလည်း စဉ်းစားစရာပဲ။ ဒါပေမဲ့ ကျွန်တော်ဟာ သာမန်လူတစ်ယောက် အနေနဲ့ဆို ရင် သူ့ကို ကျွန်တော် ဘယ်နေရာမှာမဆို တွေ့နိုင်တယ်။ အိမ်တစ်အိမ်မှာ၊ လမ်းပေါ်မှာ၊ ကျွန်တော် သူ့ကို တွေ့တဲ့ တစ်နေရာရာမှာပေါ့။ အာဏာပိုင် တစ်ယောက် အနေနဲ့ တွေ့ရမယ်ဆိုရင်တော့ ကျွန်တော် သူနဲ့ ပြောချင်ပါတယ်။ ဒါပေမဲ့ ဒါက ကျွန်တော့်ရဲ့ အဓိကရည်မှန်းချက် မဟုတ်ပါဘူး"

"ကောင်းပြီ။ ဒါဆိုရင် ကျွန်မရဲ့ ဩဇာအရှိန်အဝါကိုသုံးပြီး သူနဲ့ ဆရာ တွေ့ချင်တဲ့အကြောင်း ကလမ်ဆီကို အကြောင်းကြားပေးမယ်။ တစ်ခုတော့ ကတိ ပေးရမယ်။ သူ့ဆီက ပြန်ကြားချက် မရမချင်း ဆရာကိုယ်တိုင်အနေနဲ့ ဘာမှမလုပ်ပါနဲ့"

သူမက ရှက်စရာစကားတစ်ခုကို ပြောရသည့်အလား မျက်နှာကို ခေါင်းအုံးနဲ့ ဖိရင်း ပြောလိုက်သည်။

"မဒမ်ရဲ့ဆန္ဒကို ကျွန်တော် ဖြည့်ဆည်းချင်ပေမဲ့ ကတိမပေးနိုင်ပါဘူး။ အခြေ အနေက အရေးကြီးနေလို့ပါ။ ကျေးရွာဥက္ကဋ္ဌကြီးနဲ့စကားပြောပြီး အဆင်မပြေတဲ့ အတွက်ပါ"

"ဒီအကြောင်းပြကတော့ မခိုင်လုံပါဘူး။ ကျေးရွာဥက္ကဋ္ဌက အရေးပါတဲ့ လူ တစ်ယောက် မဟုတ်ပါဘူး။ အဲဒါကို ဆရာတို့ မတွေ့ခဲ့ဘူးလား။ သူ့ မိန်းမသာ မရှိရင် အဲဒီနေရာမှာ သူ တစ်ရက်ကလေးတောင် မရှိနိုင်ပါဘူး။ သူ့မိန်းမက အားလုံးကို လုပ်ပေးနေတာပါ"

"မစ်ဇီကိုပြောတာလား"

ကေက မေးလိုက်သည်။ သူမက ခေါင်းညိတ်လိုက်သည်။

"သူရှိနေတယ်"

ကေ ပြောလိုက်သည်။

"သူ့သဘောထားကို မပြောဘူးလား"

မဒမ်က မေးသည်။

"မပြောဘူး။ သူ ပြောနိုင်လိမ့်မယ်လို့လည်း ကျွန်တော် မထင်ဘူး"

"အဲဒါပဲ၊ ဆရာတွေ့တာတွေက အားလုံး အလွဲတွေချည့်ပဲ။ ဘာပဲဖြစ်ဖြစ် ဆရာ့အတွက် ဥက္ကဋ္ဌရဲ့စီစဉ်မှုက ဘာမှအရေးမကြီးဘူး။ ကျွန်မ အချိန်ရရင် သူ့မိန်းမကို ပြောလိုက်မယ်။ ကလမ်ဆီက အဖြေကို တစ်ပတ်အတွင်း ရစေ ရမယ်လို့ ကျွန်မ ထပ်ပြီး ကတိပေးရင် ကျွန်မစကားကို ဆရာ မလိုက်နာ စရာအကြောင်း

မရှိဘူး"

"အဲဒီစကားက ကျွန်တော့်ကို မလွှမ်းမိုးနိုင်ဘူး။ ကျွန်တော်က ဆုံးဖြတ်ချက် ချထားပြီးပြီ။ အဆင်မပြေတဲ့အဖြေ ထွက်လာရင်လည်း ကျွန်တော်က ကိုယ်လုပ်စရာ ရှိတာ လုပ်ရမှာပဲ။ ဒါဟာ ကျွန်တော့်ရဲ့ သတ်မှတ်ထားတဲ့ ဆုံးဖြတ်ချက်ဖြစ်လို့ တွေ့ဆုံခွင့်ကို ကြိုပြီး တောင်းခံရမှာပဲ။ ကျွန်တော်က ကြိုပြီး တွေ့ခွင့် တောင်းခံမထားဘူးဆိုရင် မတွေ့နိုင်ဘူးဆို တဲ့ အဖြေထွက်လာပြီးမှ တွေ့ဖို့ကြိုးစားရင် ဥပဒေကို ချိုးဖောက်ရာ ရောက် လိမ့်မယ်။ အဲဒါက ပိုပြီးဆိုးလိမ့်မယ်"

"ပိုပြီးဆိုးမယ်၊ ဟုတ်လား။ ဘာပဲဖြစ်ဖြစ် ဒါဟာ ဥပဒေကို ချိုးဖောက်တာပဲ။ ကဲ ဆရာ ကြိုက်တာသာလုပ်တော့။ ကျွန်မကို စကတ်နဲ့သာ တွေ့ပေတော့"

သူမက ကေ၏ရှေ့မှောက်တွင် ဖြစ်သည်ကို ဂရုမပြုတော့ဘဲ သူမ၏ စကတ်ကို မပြီး မီးဖိုချောင်ထဲသို့ ပြေးဝင်သွားသည်။ ထမင်းစားခန်းဆီက အသံတွေကို ကေ ကြားနေရသည်မှာ အတော်ကလေး ကြာသွားပြီ။ မီးဖိုချောင်တံခါးဆီက ခေါက်သံတွေ ထွက်ပေါ်နေသည်။ လက်ထောက်တွေ က အခန်းတံခါးကို ဖွင့်ပြီး သူတို့ ဆာလှပြီဟု ပြောနေကြသည်။ ထို့နောက် တခြားမျက်နှာတွေကိုပါ တွေ့မြင်ရသည်။ သီချင်းဆိုသံ တွေကိုလည်း ကြား နေကြရသည်။

ကေနှင့် တည်းခိုခန်းပိုင်ရှင်အမျိုးသမီးတို့ စကားပြောနေကြသည်မှာ အတော် ကလေး ကြာသွားသဖြင့် နေ့လယ်စာ ချက်ပြုတ်ချိန် ကြန့်ကြာသွားရသည်။ နေ့လယ်စာ မကျက်သေးသဖြင့် စားသောက်သူ ဖောက်သည်တွေ စုပြုံနေတော့သည်။ တည်းခိုခန်း ပိုင်ရှင် အမျိုးသမီးကြီးက အမိန့်ပေးထား သဖြင့် မီးဖိုချောင်ထဲသို့ မည်သူမျှ မဝင်ရဲပါ။ သို့သော် အခန်းကူးတံခါးဝတွင် စောင့်ကြည့်နေသူများက ပိုင်ရှင်ကတော် လာပြီဟု ပြောလိုက် သောအခါ အကူမိန်းကလေးများ အားလုံး မီးဖိုချောင်သို့ ပြေးလာကြသည်။ ထမင်းစားခန်းထဲသို့ ကေ ဝင်သွားသောအခါ မိန်းမ ယောကျ်ား စား သောက်သူ နှစ်ဆယ်ကျော် ရှိနေသည်ကို အံ့သြဖွယ်ရာ တွေ့ရှိရသည်။ အားလုံးပင် ကျေးလက် အဝတ်အစားများ ဝတ်ထားကြသော်လည်း အညှိ စားများ မဟုတ်ကြပါ။ ၎င်းတို့သည် တံခါးပေါက်ဆီမှ သူတို့၏ စားပွဲများဆီ သို့ အလျင်အမြန် သွားရောက်ကြသည်။ အခန်း ထောင့်တစ်နေရာရှိ စားပွဲ တစ်လုံးတွင် မိသားစုတစ်စု ထိုင်နေကြသည်။ ကလေးတွေ သီချင်းဆိုနေ ကြသည်ကို ဖခင်က ခက်ရင်းနှင့် စည်းလိုက်ပေးနေသည်။ သူက ကလေး တွေ ဆာတာသက်သာအောင် သီချင်းဆိုခိုင်းထားဟန် ရှိသည်။

ပိုင်ရှင်ကတော်က ဖောက်သည်များကို တောင်းပန်စကားပြောသည်။

သို့သော် မည်သူကမျှ သူမကို အပြစ်တင်ခြင်း မပြုကြ။ သူမ တည်းခိုခန်း ပိုင်ရှင်ကို ရှာသည်။ မတွေ့ပါ။ အစောကြီး ကတည်းက လစ်ထွက်သွားပြီ ဖြစ်သည်။ သို့ဖြင့် သူမက မီးဖိုချောင်ထဲသို့ ဖြည်းလေးစွာ ဝင်သွားသည်။ သူမက ကေကို

လုံးဝဂရုမပြုတော့။

ကေကေ ဖရီဒါ၏အခန်းသို့ သုတ်ခြေတင်သွားသည်။

အပေါ်ထပ်သို့ ရောက်သောအခါ ကေသည် ကျောင်းဆရာနှင့် တွေ့သည်။

အခန်းမှာ မမှတ်မိနိုင်လောက်အောင်ပင် ကောင်းမွန်လျက်ရှိသည်။ ဖရီဒါ၏ လက်ရာဖြစ်သည်။ လေကောင်းလေသန့် ရရှိနေသည်။ မီးဖိုမှာ မီးထိုး ထားသည်။ ကြမ်းတွေကို တိုက်ထားသည်။ အိပ်ရာကို သပ်သပ်ရပ်ရပ် ခင်း ထားသည်။ ဆိုင်အဖော်တွေ၏ ညစ်ပေသော အဝတ်တွေနှင့် သူ တို့၏ဓာတ်ပုံတွေကို ဖယ်ရှားထားသည်။ ကြေးတွေပေနေသော စားပွဲကို စားပွဲခင်း ခင်းထားသည်။ ဧည့်သည်တွေကို လက်ခံ တွေ့ဆုံနိုင်သော အနေအထားတွင် ရှိသည်။

စောစောပိုင်း ဖရီဒါ လျှော်ပြီး လှန်းထားဟန်ရှိသော ကြိုးတန်းပေါ်မှ ကေ၏ အဝတ်များမှာလည်း အနှောင့်အယှက် မဖြစ်ပါ။

ဖရီဒါနှင့် ကျောင်းဆရာတို့သည် စားပွဲတွင် ထိုင်နေကြသည်။ ကေ ဝင်လာသောအခါ သူတို့ မတ်တတ်ထရပ်ကြသည်။ ဖရီဒါက ကေ့အား အနမ်း ဖြင့်ကြိုဆိုသည်။ ကျောင်းဆရာက အနည်းငယ် ဦးညွှတ်သည်။ တည်းခိုခန်း ပိုင်ရှင် အမျိုးသမီးနှင့် စကား ပြောခဲ့ရသဖြင့် ယခုတိုင် စိတ်လှုပ်ရှားလျက်ရှိ သော ကေက ကျောင်းဆရာထံ အလည် မလာမရောက်နိုင်သေးသည့် အတွက် တောင်းပန်လိုက်သည်။ ကေမလာရောက်သည်ကို စိတ်မရှည်နိုင် တော့သဖြင့် ကျောင်းဆရာက လာတွေ့ခြင်းဖြစ်သည်ဟု ကေက မှတ်ယူ သည့်အလားဖြစ်သည်။ ကျောင်းဆရာကတော့ သူနှင့် ကေတို့ တစ်ချိန်က တစ် နေရာမှာ တွေ့ခဲ့ကြသည်ကို အမှတ်ရနေသည်။

"ဘုရားကျောင်းထဲမှာ တစ်နေ့က ကျွန်တော်တွေ့လိုက်တဲ့ လူစိမ်းဟာ ခင်ဗျားပဲဖြစ်ရမယ် မြေတိုင်းစာရေးကြီး"

"ကျွန်တော်ပဲ"

ကေက ခပ်ပြတ်ပြတ် ပြောလိုက်သည်။ ထို့နောက် ဖရီဒါဘက်သို့ လှည့် ကာ အရေးတကြီးကိစ္စ သွားစရာရှိ၍ အဝတ်အစား ကောင်းကောင်းများ လို ကြောင်း ပြောလိုက်သည်။ ဖရီဒါက ဘာမှနောက်ထပ် မေးမနေတော့ဘဲ စားပွဲခင်းအသစ်ကို ကြည့်ရှုနေသော လက်ထောက် နှစ်ယောက်အား ကေ၏အပေါ်အင်္ကျီနှင့် ဖိနပ်များကို တိုက်ချွတ်ရန် ပြောလိုက်သည်။ သူမ ကိုယ်တိုင်ကမူ ကြိုးတန်းတွင်လှန်းထားသော ရှပ်အင်္ကျီကို ယူပြီး မီးပူတိုက် ရန် မီးဖိုချောင်သို့ ပြေးသွားသည်။

ယခုအခါ ကေသည် ကျောင်းဆရာနှင့် နှစ်ယောက်တည်း ကျန်ရစ်သည်။ ကျောင်းဆရာက စားပွဲတွင် တိတ်ဆိတ်စွာထိုင်လျက်ရှိသည်။ ကေက သူ့ကို သည်အတိုင်း ခေတ္တမျှ စောင့်နေစေပြီး သူ့ကိုယ်မှ ရှပ်အင်္ကျီကို ချွတ်ကာ မျက်နှာသစ်ကန်တွင် မျက်နှာ သွားသစ်နေသည်။ ပြီးတော့မှ သူက ကျောင်းဆရာကို ကျောပေးလျက်သားနှင့် ဘယ်သူနှင့် သွားတွေ့ရမလဲဟု မေးလိုက်သည်။

"ကျွန်တော် ကျေးရွာဥက္ကဋ္ဌကြီးကိုယ်စား လာတာပဲ"

ကေ ကြိုးစားပြီး နားထောင်သည်။ သို့သော် ရေသံတွေက ဆူနေသဖြင့် ကောင်းကောင်းမကြားရပါ။ ထို့ကြောင့် ကျောင်းဆရာကို ရှေ့တိုးလာပြီး သူ့ဘေးတွင် ရပ်နေစေသည်။ ကေက သူ မျက်နှာသစ်နေသည့်အတွက် တောင်းပန်လိုက်ပြီး တွေ့ဆုံ ရသည့်အတွက် ခပ်သုတ်သုတ် လုပ်ဆောင်သည်။

ကျောင်းဆရာက ကေ၏တောင်းပန်မှုများကို ဘေးဖယ်ပြီး ပြောသည်။

"ခင်ဗျားဟာ ကျေးရွာဥက္ကဋ္ဌကြီးကို မလေးမစားလုပ်တာပဲ။ သူ့လို အသက်အရွယ် ကြီးပြီး အတွေ့အကြုံများတဲ့ လူကြီးတစ်ယောက်ကို ခင်ဗျား လေးလေးစားစား ဆက်ဆံဖို့ကောင်းတယ်"

"ကျွန်တော် မလေးမစားလုပ်မိသလား မလုပ်ဘူးလားဆိုတာတော့ ကျွန်တော် မသိတော့ဘူး။ ဒါပေမဲ့ ကျွန်တော့်မှာ အခြားကိစ္စတွေက လေးစားတဲ့အမှုအရာထက် ပိုပြီးအရေးကြီးနေတယ်။ ဘာဖြစ်လို့လဲဆိုတော့ ကျွန်တော်ရဲ့တည်ရှိမှုက အင်မတန် အရေးကြီးတဲ့အခြေအနေမှာ ရှိနေတယ်။ ကျွန်တော့်ရဲ့တည်ရှိမှုကို ဗျူရိုကရေစီ စနစ်ကြီးက ခြိမ်းခြောက်နေတယ်။ အဲဒီအကြောင်း ခင်ဗျားကို မပြောတော့ပါဘူး။ ဘာဖြစ် လို့လဲဆိုတော့ ခင်ဗျားကိုယ်တိုင်ကလည်း ဗျူရိုကရက်တစ်ယောက် ဖြစ်နေလို့ပဲ။ ဥက္ကဋ္ဌကြီးက ကျွန်တော်နဲ့ပတ်သက်ပြီး တိုင်ကြားလို့လား"

"သူက ဘယ်သူ့ကို တိုင်ရမှာလဲ။ တကယ်လို့ တိုင်ရမယ့်လူတစ်ယောက် ရှိရင်တောင် သူက တိုင်လိမ့်မယ်လို့ ခင်ဗျား ထင်သလား။ ခင်ဗျားလာတွေ့တဲ့ ကိစ္စနဲ့ ပတ်သက်ပြီး သူပြောပြတဲ့ မှတ်တမ်းကိုပဲ ကျွန်တော် သိရတယ်။ အဲဒီမှာ သူက ဘယ် လောက်စာနာထောက်ထားပြီး ခင်ဗျားက ဘယ်လို ပြန်ပြောတယ် ဆိုတာတွေ့ရတယ်"

ကေက ဖရီဒါ တစ်နေရာရာမှာ ထားလိုက်ဟန်ရှိသော သူ့ဘီးကို လိုက်ရှာရင်း

"ဘာပြောတယ်၊ မှတ်တမ်း ဟုတ်လား။ ဆွေးနွေးပွဲမှာမပါတဲ့လူတစ်ယောက် က ကျွန်တော့်ကွယ်ရာမှာ ရေးတာလား။ အဲဒါ မဆိုးပါဘူး။ ဘာဖြစ်လို့ မှတ်တမ်းရေးရ တာလဲ။ ဒါဆိုရင် အဲဒီတွေ့ဆုံပွဲဟာ တရားဝင် တွေ့ဆုံပွဲလား"

"မဟုတ်ဘူး။ တရားဝင်သဘော တစ်ဝက်လောက်ပဲ။ ဘာဖြစ်လို့မှတ်တမ်း ကူးရသလဲဆိုတော့ ကျွန်တော်တို့ဟာ အကုန်လုံးကို တိတိကျကျ မှတ်တမ်းတင်ရတယ်။ ဘာပဲဖြစ်ဖြစ် ဒီကိစ္စက ပြီးသွားပါပြီ။ ဒီမှတ်တမ်း က ခင်ဗျားအတွက် ပိုကောင်း မလာပါဘူး"

နောက်ဆုံးတွင် ကေသည် အိပ်ရာထဲတွင် ထိုးထားသော ဘီးကို ရှာတွေ့ သွားသည်။

"ကောင်းပြီ၊ ဒါဆိုရင် ဒီကိစ္စက ပြီးသွားပြီ။ ဒါကိုပြောရအောင် ခင်ဗျား လာတာလား"

ကေ က တည်ငြိမ်စွာ မေးလိုက်သည်။

"မဟုတ်ဘူး၊ ကျွန်တော်က စက်ယန္တရားတစ်ခု မဟုတ်ဘူး။ ကျွန်တော်က ခင်ဗျားကို ကျွန်တော့်သဘောထား ပြောဖို့ပဲ။ ကျွန်တော့်ကို ပေးလိုက်တဲ့ ညွှန်ကြားချက်တွေက ဥက္ကဋ္ဌကြီးရဲ့ သနားကြင်နာမှု တစ်ခုပဲ။ သူ့ရဲ့ ထောက်ထားစာနာမှုကို ကျွန်တော်တော့ သဘောမပေါက်ဘူး။ ဒါပေမဲ့ ဥက္ကဋ္ဌကြီးကို လေးစားတဲ့အနေနဲ့ ကျွန်တော့်ရဲ့တာဝန်က ညွှန်ကြားချက်ကို အကောင်အထည် ဖော်ဖို့ပဲ"

ကေသည် ယခုအခါ မျက်နှာသစ်၊ ခေါင်းဖြီးပြီးပြီ ဖြစ်သည်။ စားပွဲတွင် ထိုင်ကာ ရုပ်အင်္ကျီနှင့် အဝတ်များကို စောင့်ဆိုင်းလျက်ရှိသည်။ ဥက္ကဋ္ဌကြီးနှင့်ပတ်သက်ပြီး တည်းခိုခန်းပိုင်ရှင် ကတော်၏ သဘောထားက သူ့အပေါ်တွင် လွှမ်းမိုးလျက်ရှိသဖြင့် ကျောင်းဆရာ ယူလာသော သတင်းကို သူ စိတ်မဝင်စားလှပါ။

"ဆယ့်နှစ်နာရီ ထိုးပြီးပြီနဲ့တူတယ်"

သူက သွားရမည့်အကွာအဝေးကို တွက်ဆပြီး ပြောလိုက်သည်။ ထို့နောက် လက်ရှိအခြေအနေကို သတိရပြီး

"ဥက္ကဋ္ဌကြီးဆီက သတင်းတစ်ခု ကျွန်တော့်ကို ပြောစရာရှိသလား"

သူက ကျောင်းဆရာကို မေးလိုက်သည်။

"ရှိတယ်"

ကျောင်းဆရာက ပခုံးကို တွန့်ပြီး ပြောလိုက်သည်။

ခင်ဗျားကိစ္စနဲ့ပတ်သက်ပြီး ဆုံးဖြတ်ချက်က သိပ်ကြာနေပြီ။ ခင်ဗျား“ သဘောနဲ့ခင်ဗျား တစ်ခုခုလုပ်မှာကို သူက စိုးရိမ်နေတယ်။ သူ ဘာဖြစ်လို့ ဒီလို စိုးရိမ်တယ်ဆိုတာတော့ ကျွန်တော် မသိဘူး။ ကျွန်တော့်သဘော ပြော ရရင်တော့ ခင်ဗျား လုပ်ချင်တာကို လုပ်ခွင့်ပြုသင့်တယ်။ ကျွန်တော်တို့က ခင်ဗျားရဲ့ အုပ်ထိန်းသူတွေ မဟုတ်ဘူး။ ခင်ဗျားလုပ်သမျှတွေကို လိုက်ကြည့်နေဖို့ ကျွန်တော်တို့မှာ တာဝန်မရှိဘူး။ ဒါပေမဲ့ ထားလိုက်ပါတော့။ ဥက္ကဋ္ဌ ကြီးမှာတော့ တခြားစိတ်ကူး တစ်ခု ရှိနေတယ်။ သူက ဆုံးဖြတ်ချက် မြန် မြန်ကျအောင် မတတ်နိုင်ဘူး။ ဒါက အာဏာပိုင်တွေရဲ့ အလုပ်ပဲ။ ဒါပေမဲ့ သူ့ရဲ့ လုပ်ပိုင်ခွင့်အရ ခင်ဗျားအတွက် ယာယီအစီအစဉ်တစ်ခု လုပ်ပေးချင်တယ်။ ဒါက ခင်ဗျားလက်ခံတဲ့အပေါ်မှာ တည်နေတယ်။ သူက ခင်ဗျားကို ယာယီကျောင်းစောင့် "တာဝန် ပေးလိုက်တယ်

ပထမတော့ ဥက္ကဋ္ဌကြီး၏တာဝန်ပေးမှုသည် အရေးမကြီးလှ၊ ကေ တွက်လိုက်သည်။ ဤကမ်းလှမ်းမှုက မြို့နယ်ကောင်စီ၏ ဆုံးဖြတ်ချက်ကို ကေ ဆန့်ကျင်ပြီး တစ်ခုခုလုပ်မှာကို စိုးရိမ်သည့်အလား ဖြစ်သည်။ သူတို့က သူ့ ကိစ္စကို ဘယ်လောက် အလေးအနက်ထားနေကြသနည်း။ ကျောင်းဆရာသည် စောစောပိုင်းက မှတ်တမ်းကို ရေးပြီး သူ့ထံသွားရန် ဥက္ကဋ္ဌကြီးက စေလွှတ်လိုက်ခြင်း ဖြစ်သည်။ ကေ တုံ့ဆိုင်းနေသည်ကို သိမြင်သဖြင့် ကျောင်းဆရာက

ဆက်ပြောသည်။

"ကျွန်တော်ကတော့ ဒီအစီအစဉ်ကို ကန့်ကွက်တယ်။ ကျွန်တော်တို့မှာကျောင်းစောင့် တစ်ယောက် မလိုဘူး။ ဘုရားကျောင်းစောင့်ရဲ့မိန်းမက ကျောင်းသန့်ရှင်း ရေးကို လုပ်ပေးနေတယ်။ ဒါကို ဒုတိယကျောင်းဆရာ တစ်ဦးဖြစ်တဲ့ ဆရာမ ဖရော်လင်း ဂီဆာက ကြီးကြပ်တယ်။ ကျွန်တော့်မှာ ကလေးတွေနဲ့တင် တာဝန်ကြီးလှပြီ။ ကျောင်း စောင့်အတွက် ကျွန်တော် တာဝန်မကြီးချင်တော့ဘူး။ ဒါပေမဲ့ ကျောင်းကြီးက ညစ်ပတ် နေတယ်လို့ ဥက္ကဋ္ဌကြီးက ပြောတယ်။ ကျွန်တော် အဖြစ်အမှန်အတိုင်း ပြန်ပြောတယ်။ ဒါလောက်လည်း မဆိုးပါဘူးလို့။ ကျွန်တော်ကလည်း ဆက်ပြောတယ်။ ဒီလူကို ကျောင်းစောင့်ခန့်ထားလို့ ပိုကောင်းလာပါ့မလားလို့။ ဘယ်နည်းနဲ့မှ မကောင်းနိုင်ဘူး။ သူက လုပ်ငန်းကို နားမလည်တာအပြင် ကျောင်းမှာက စာသင်ခန်းကြီးနှစ်ခုပဲရှိတယ်။ နောက်ထပ် အခန်းပို မရှိဘူး။ အဲဒီတော့ ကျောင်းစောင့်နဲ့ သူ့မိသားစုဟာ စာသင် ခန်းကြီးတစ်ခုမှာ နေရမယ်။ အိပ် ရမယ်။ ချက်တာပြုတ်တာလည်း အဲဒီမှာပဲ လုပ်ရမယ်။ အဲဒီတော့ ပိုပြီးသန့် ရှင်းလာတာ မဖြစ်နိုင်ဘူး။ ဒါပေမဲ့ ဥက္ကဋ္ဌကြီးပြောတာက ဒီအလုပ်က ခင်ဗျားကို အခက်အခဲက လွတ်မြောက်စေလိမ့်မယ်။ နောက်ပြီးတော့ ခင်ဗျားက ဒီအလုပ်ကို ကြိုးစားပြီး လုပ်ရမယ်။ နောက်ပြီး သူပြောတာကတော့ ခင်ဗျားဟာ ခင်ဗျားနဲ့ ခင်ဗျားရဲ့ လက်ထောက်နှစ်ယောက် ဆီကလည်း အကူအညီရလိမ့်မယ်။ အဲဒီအတွက် ကျောင်းဟာ ပထမတန်းစား ဖြစ်လာလိမ့်မယ်။ နောက်ပြီးတော့ ကျောင်း ပန်းခြံရဲ့အခြေအနေလည်း ကောင်းလာလိမ့်မယ်။ နောက်ပြီးတော့ ခင်ဗျားဟာ မြေတိုင်း စာရေးဖြစ်တဲ့ အတွက် ဟင်းသီးဟင်းရွက်ပင်တွေ လှလှပပကြီး စိုက်ပျိုးနိုင်လိမ့်မယ်။ အဲဒီတော့ ကျွန်တော်လည်း ဘယ်လိုမှ မငြင်းသာတော့ဘဲ ခင်ဗျားဆီကို လာခဲ့ရတော့တယ်"

"ခင်ဗျား အခုလိုလာတဲ့အတွက် ဘာမှအကျိုးမဖြစ်နိုင်ပါဘူး ဆရာ။ ဒီလုပ်ငန်းတာဝန်ကို လက်ခံဖို့ ကျွန်တော့်မှာ ရည်ရွယ်ချက် မရှိပါဘူး"

ကောင်းတယ်၊ ကောင်းတယ်။ ခင်ဗျားက ခွင်းချက်မရှိ ငြင်းပယ်လိုက်“

"တာပဲ

သူက ဦးထုပ်ကို ယူပြီး ကိုယ်ကို ညွှတ်ကာ ထွက်သွားတော့သည်။

ချက်ချင်းဆိုသလိုပင် ဖရီဒါသည် စိတ်လှုပ်ရှားသော မျက်နှာနှင့် လှေကား မှ ပြေးတက် လာသည်။ သူမ၏လက်ထဲမှ ရုပ်အင်္ကျီသည် မီးပူမတိုက်ရ သေး။ သူက ကေ၏အမေးကို မဖြေပါ။ ကေက ကျောင်းဆရာ၏ ကမ်းလှမ်း မှုကို ပြောပြလိုက်သည်။ - ကေ၏စကားကိုကြားလျှင်ကြားချင်း သူမသည် ရုပ်အင်္ကျီကို အိပ်ရာပေါ်တွင် လွှားထားရင်း ပြေးထွက်သွားသည်။ ချက်ချင်း ပင် သူမ ပြန်လာသည်။ ကျောင်းဆရာနှင့် အတူဖြစ်သည်။ ကျောင်းဆရာက နှုတ်ဆက်ခြင်းမပြုဘဲ ဝင်လာသည်။ ဖရီဒါက ကျောင်းဆရာကို တောင်းပန်

စကားပြောပြီး ကေအား တံခါးပေါက် တစ်ခုမှနေပြီး အခန်းတစ်ခုတွင်းသို့ ခေါ်သွားသည်။

သူမက သူတို့၏ အခြေအနေမကောင်းကြောင်း၊ သူတို့သည် ဤနေရာမှ အချိန်မရွေး မောင်းထုတ်ခံရနိုင်ကြောင်း၊ ထို့ကြောင့် ရဲတိုက်ကြီးနှင့် အဆက်အသွယ် မရခင် ဤအလုပ်ကို လက်ခံသင့်ကြောင်း ပြောပါသည်။ ဤအလုပ်သည် ကေနှင့် မသင့်လျော်ပေမဲ့ ယာယီမျှသာဖြစ်ကြောင်း၊ သူတို့ အတွက် အချိန်အနည်းငယ်ရပြီး အခြားအခွင့်အလမ်းတစ်ခုကို ရှာဖွေရရှိ နိုင်ကြောင်း ရှင်းပြသည်။

"နောက်ဆုံးမှာ အဆိုးဆုံးအခြေအနေဖြစ်လာရင် ညီမတို့ ဘယ်ကိုသွား ကြမလဲ။ ညီမတို့ကို ရွာထဲက ဘယ်သူက လက်ခံမလဲ။ အဲဒီတော့ အစ်ကို ရယ်၊ လောလောဆယ် အခြေအနေမှာ ဒီအလုပ်ကို လက်ခံလိုက်ပါ။ ကျောင်းဆရာကို ညီမ သွားခေါ်ခဲ့မယ်။ အစ်ကိုက ကောင်းပြီလို့သာ ပြောလိုက်ပါ။ ဒါဆိုရင် ပြီးရောပဲ။ ညီမတို့ ကျောင်းကို ပြောင်းကြမယ်"

"တကယ်တော့ အတော်ကသိကအောက် ဖြစ်စရာပဲ။ ညီမက အခန်းကို သေသေချာချာ ပြုပြင်ထားတယ်။ အခု ကိုယ်တို့ ဒီကပြောင်းရတော့မယ်။ နောက်ပြီးတော့ ကိုယ်က ဒီအလုပ်ကို အတော်ကြီးကို မလုပ်ချင်ဘဲနဲ့ လက်ခံလိုက်ရတာပဲ။ ကျောင်းဆရာ စော်ကားမော်ကား လုပ်တာတွေကို ကိုယ်အတော်ကလေး ခံထားရပြီးပြီ။ အခု သူက ကိုယ့်ရဲ့အထက်လူကြီး ဖြစ်လာပြီ။ တကယ်လို့ ကိုယ်တို့ ဒီမှာ ခဏကလေးသာ ဆက်နေကြရင် ကနေ့ညနေဆိုရင်လည်း ကိုယ့်ရဲ့ အခြေအနေက အများကြီး ပြောင်းလဲသွား နိုင်တယ်။ ကိုယ်တို့ အချိန်ခဏကလေး စောင့်ရဖို့အတွက် ကျောင်းဆရာကို အဖြေ တိတိကျကျမပေးဘဲ ထားပါလား။ တကယ်လို့ အခြေအနေဆိုးရွား လာခဲ့ရင် ကိုယ်က တည်းခိုခန်းတစ်ခုမှာ..."

ဖရီဒါက သူမ၏လက်ချောင်းများနှင့် သူ့ပါးစပ်ကို ပိတ်လိုက်ရင်း

"အစ်ကို အဲဒါကို ထပ်မပြောပါနဲ့။ တခြား အစ်ကိုဘာပြောပြော ညီမ နားထောင်ပါ့မယ်။ အစ်ကိုကနေဆိုရင် ညီမ မနေချင်တောင် ဒီမှာဆက်နေပါ့မယ်။ အစ်ကို ဆန္ဒ ရှိရင် ဒီကမ်းလှမ်းချက်ကို ညီမတို့ ငြင်းလိုက်မယ်။ ညီမ အနေနဲ့ ဘယ်လောက်ပဲမှားတယ် ထင်ထင်ပေါ့။ ဒါပေမဲ့ အစ်ကိုဟာ ကနေ့ ညနေမှာ အခြားဖြစ်နိုင်ခြေတစ်ခုကို ရခဲ့ရင် ညီမတို့က ကျောင်းကအလုပ် ကို ချက်ချင်း စွန့်လွှတ်လိုက်မယ်။ ဘယ်သူကမှ ကန့်ကွက်မှာ မဟုတ်ဘူး။ အစ်ကိုဟာ ကျောင်းဆရာရှေ့မှာ သိက္ခာကျမယ်ဆိုရင် အဲဒီကိစ္စကို ညီမ လုပ်ပါ့မယ်။ သူနဲ့ ညီမ ပြောမယ်။ အစ်ကိုက ဘေးမှာရှိနေရုံပဲ။ ဘာမှ ပြော စရာမလိုဘူး။ နောက်ပိုင်းမှာလည်း ဒီအတိုင်းပဲဖြစ်ရစေမယ်။ အစ်ကိုမ ပြောချင်ရင် ဘယ်သူနဲ့ ဘာမှ မပြောပါနဲ့။ ညီမတစ်ယောက်တည်းပဲ ပြောပါ့မယ်။ သူ့ရဲ့လက်ထောက် ဝန်ထမ်းအဖြစ် ညီမပဲ လုပ်ပါ့မယ်။ သူ့အကြောင်းညီမသိပါတယ်။ သူ့ရဲ့အားနည်းချက်တွေကို ညီမ သိပါတယ်။ အဲဒီတော့ ဒီအလုပ်ကို

လက်ခံလိုက်တဲ့အတွက် အစ်ကို့မှာ ဘာမှ ဆုံးရှုံးစရာမရှိပါဘူး။ ဒါပေမဲ့ ငြင်းလိုက်ရင် ဆုံးရှုံးမှုတွေနဲ့ အများကြီးကြုံရမယ်။ တကယ်လို့သာ အစ်ကိုသာ ကနေ့ ရဲတိုက်ကြီးနဲ့ အဆင်ပြေအောင် မလုပ်နိုင်ခဲ့ရင် အစ်ကို့ အနေနဲ့ ရွာထဲမှာရော တည်းခိုခန်း တစ်ခုခုမှာရော အိပ်စရာမရနိုင်ဘူး။ အစ်ကိုသာ ကနေ့ညအဖို့ အမိုးအကာအောက်မှာ အိပ်စရာမရဘဲ ညကြီးမင်းကြီး နှင်းတောထဲမှာ လျှောက်သွား နေရရင် ညီမက ဒီနွေးထွေး တဲ့ အခန်းထဲမှာ အိပ်နေလိမ့်မယ်လို့ အစ်ကိုထင်သလား"

ထိုအခါ ကေက သူ့ကိုယ်ကို နွေးထွေးအောင်လုပ်ရင်း

"ဒါဆိုရင် ကိုယ်တို့မှာ ကမ်းလှမ်းချက်ကို လက်ခံရုံကလွဲလို့ တခြား ဘာမှ မရှိတော့ဘူးပေါ့။ လာ သွားကြစို့"

သူတို့အခန်းသို့ရောက်သောအခါ ကေက ကျောင်းဆရာကို ဂရုမထားဘဲ မီးဖိုသို့ တန်းသွားသည်။ ကျောင်းဆရာက စားပွဲတွင်ထိုင်နေရာမှ နာရီကို ထုတ်ကြည့်ပြီး

"မိုးချုပ်နေပြီ"

"ကျွန်မသိတယ်၊ အလုပ်ကို လက်ခံဖို့ ကျွန်မတို့ သဘောတူလိုက်ကြပြီ"

ဖရီဒါက ပြောသည်။

"ကောင်းတယ်။ ဒါပေမဲ့ အလုပ်က မြေတိုင်းစာရေးကို ခန့်တာ။ သူ ကိုယ်တိုင် ပြောဖို့ လိုတယ်"

ဖရီဒါက ကေ့အား ကယ်တင်သည့်အနေဖြင့်

"အလုပ်ကို သူ တကယ်လက်ခံတယ်။ ဟုတ်တယ်မဟုတ်လား ကေ"

"ဟုတ်တယ်"

ကေက တစ်ခွန်းတည်းပဲ ပြောသည်။ ယင်းစကားက ကျောင်းဆရာကို ပြောခြင်းမဟုတ်ဘဲ ဖရီဒါကို ပြောလိုက်ခြင်းဖြစ်သည်။

ကျောင်းဆရာက

"ဒါဆိုရင် ကျွန်တော့်အနေနဲ့ တစ်ခုပဲ၊ ကျွန်တော် ခင်ဗျားနဲ့ လုပ်ငန်း တာဝန် တွေကို ရှင်းပြဖို့ပဲ။ ဒါမှ ကျွန်တော်တို့ နှစ်ဖက်စလုံး နားလည်မှု ရရှိ သွားမယ်။ မြေတိုင်း စာရေးကြီးခင်ဗျား၊ တစ်ဆက်တည်း နှစ်ခန်းစလုံးကို နေ့တိုင်း သန့်ရှင်းရေးလုပ်ပြီး အပူခာတ်ပေးရမယ်။ ကျောင်းထဲမှာ ပြင်စရာ ရှိတာ ကလေးတွေကို ပြင်ရမယ်။ နောက်ပြီးတော့ စာသင်ခန်းနှင့် ကျန်းမာရေးပစ္စည်းတွေကို ကိုယ်တိုင် ထိန်းသိမ်းစောင့်ရှောက် ရမယ်။ ပန်းခြံထဲက လမ်းကို နှင်းပွင့်တွေ ရှင်းပေးရမယ်။ ကျွန်တော်နဲ့ ဆရာမက သွားခိုင်းတာတွေ သွားပေးရမယ်။ နွေရာသီမှာ ပန်းခြံထဲက အလုပ်တွေ အားလုံးကို လုပ်ရမယ်။ အဲဒီလိုလုပ်ပေးတဲ့အတွက် ခင်ဗျားဟာ ကြိုက်တဲ့ စာသင်ခန်းတစ်ခုထဲမှာ နေနိုင်တယ်။ ကျွန်တော်တို့က စာသင်ခန်းနှစ်ခုမှာ တစ်ပြိုင်တည်းသင်တာ မဟုတ်တဲ့ အတွက် ကျွန်တော်တို့ အသုံးပြုတဲ့ အခန်းထဲမှာရောက်နေရင်

တခြားအခန်းကို ပြောင်း ပေးရမယ်။ ကျောင်း ထဲတော့ ချက်တာပြုတ်တာ လုံးဝမလုပ်ရဘူး။ ခင်ဗျားနဲ့ မှီခိုသူတွေကို မြို့နယ်ကောင်စီရဲ့ စားရိတ်နဲ့ ထမင်းဆိုင်မှာကျွေးမယ်။ နောက်ပြီးတော့ ခင်ဗျားဟာ ကျောင်းရဲ့ ဂုဏ်သိက္ခာကို စောင့်ထိန်းတဲ့အနေနဲ့ ဣန္ဒြေရှိရှိ နေ ရထိုင်ရမယ်။ အထူးသဖြင့် ကျောင်းချိန်အတွင်းမှာ ကလေးတွေမြင်လို့ မတင့်တယ်အောင် လင်မယားနေထိုင် တာမျိုး မလုပ်ရဘူး။ ကျွန်တော်က တာဝန်ရှိလို့ ပြောရတာပါ။ ခင်ဗျားက ပညာတတ် တစ်ယောက်ဖြစ်တဲ့ အတွက် ဒါကို သိပါလိမ့်မယ်။ နောက်ထပ် ကျွန်တော် မှာချင်တာကတော့ ခင်ဗျားနဲ့ ဖရော်လင်းဖရီဒါနဲ့ အမြန်ဆုံး တရားဝင်လက်ထပ်ထားဖို့ လိုတယ်။ အခု ကျွန်တော့်အနေနဲ့ တခြားအချက်ကလေးတွေကို သဘောတူညီ ချက်တစ်ခု ပြုလုပ် ရမယ်။ ဒီကျောင်းကို ခင်ဗျားပြောင်းလာတာနဲ့ တစ်ပြိုင်နက် လက်မှတ်ထိုးရမယ်"

ကေအဖို့တော့ ဒီအချက်တွေက ဘာမျှအရေးမကြီးပါ။ သူနှင့် ဘယ်လိုမှ မ သက်ဆိုင်သည့်အလားပင် ဖြစ်သည်။ သို့မဟုတ် သူ့ကို ဘယ်လိုမှ မချုပ် နှောင်သည့် အလားဖြစ်သည်။

ဒါကို ရေးကြီးခွင့်ကျယ် ပြောနေသော ကျောင်းဆရာ ဒေါသဖြစ်သွားပြီး

"ဒါဟာ ပုံမှန်တာဝန်တွေပဲ"

ဤတွင်မှ ဖရီဒါက လခအကြောင်း မေးလိုက်သည်။

"တကယ်လို့ လခပေးမယ်ဆိုရင် အစမ်းခန့် တစ်လပြည့်ပြီးမှ ဆုံးဖြတ် မယ်"

"ဒါဆိုရင် ကျွန်မတို့အတွက် အများကြီး အခက်အခဲ တွေ့လိမ့်မယ်။ ကျွန်မ တို့မှာ လက်ထပ်ဖို့လည်း ဘာမှမရှိဘူး။ အိမ်ထောင်ပရိဘောဂလည်း ဘာမှ မရှိဘူး။ ကျွန်မတို့ကို အစပိုင်းမှာ လစာနည်းနည်းပေးဖို့ မြို့နယ်ကောင်စီကို တင်ပြမပေးနိုင် ဘူးလား"

"မပေးနိုင်ဘူး"

ကျောင်းဆရာက ကေသို့ ရည်ညွှန်းပြီးပြောသည်။

"မြို့နယ်ကောင်စီကို ကျွန်တော်ကပဲ တင်ပြပေးနိုင်တယ်။ ဒါပေမဲ့ ကျွန်တော်က ပေးမှာမဟုတ်ဘူး။ ဒီအလုပ် ခင်ဗျားကို ပေးတာက ပုဂ္ဂိုလ် ရေးအရ အခွင့်အရေး ပေးတာပဲ။ ဒီအခွင့်အရေးကို အများကြီး တိုးချဲ့ပြီး မ ပေးနိုင်ဘူး"

ယခုအခါ ကေသည် မပြောချင်ဘဲနှင့် ဝင်ပြောရတော့သည်။

"ဒီမယ် ကျောင်းဆရာ၊ အခွင့်အရေးဆိုတဲ့နေရာမှာ ကျောင်းဆရာ မှားနေ ပြီ။ အခွင့်အရေးက ကျွန်တော်က ပေးရမှာပဲ"

"မဟုတ်ဘူး။ ကျွန်တော်ပြောတဲ့စကားက ခိုင်မာတယ်"

သူက ကေအား စကားပြောအောင် လုပ်နိုင်ပြီဖြစ်သဖြင့် အနည်းငယ် ပြုံး ပြီး ပြောလိုက်သည်။

"ကျွန်တော်တို့အဖို့ ကျောင်းစောင့်ကို အပ်တဲ့ကိစ္စနဲ့ အတူတူပဲ။"

“ဒီအလုပ် နှစ်ခုစလုံးဟာ ကျွန်တော်တို့အပေါ်မှာ တာဝန်ကြီးတွေ

ဖြစ်နေတယ်။ ဒီကိစ္စ မြို့နယ်ကောင်စီက လက်ခံအောင် ဘယ်လိုပြောရမှန်း မသိဘူး။ အဲဒီတော့ ဒီကိစ္စကို အစည်းအဝေးမှာ ဒီအတိုင်း တင်ပြနိုင်ဖို့ပဲ။ ကျွန်တော့် သဘောထား ဘာမှမပြောဘဲ တင်ပြ လိုက်ဖို့ပဲ"

"ကျွန်တော်ကလည်း ဒီအတိုင်းပဲ ဖြစ်စေချင်တာပဲ"

ကေက ပြန်ပြောသည်။

"ဒီကိစ္စကို တင်ပြခွင့်ပေးလိုက်တာဟာ ခင်ဗျားကို ကျွန်တော်က အခွင့်အရေးပေးတာပဲ"

ကျောင်းဆရာက

"အတော်ထူးဆန်းတာပဲ။ ခင်ဗျားကို ဒီအခွင့်အရေး ပေးတာက ဥက္ကဋ္ဌကြီး ရဲ့ ထောက်ထားစာနာမှုပဲ။ သူက အင်မတန် ညှာတာထောက်ထား တတ်တယ်။ ဒီမှာ မြေတိုင်းစာရေးကြီး၊ ခင်ဗျားဟာ ကျောင်းစောင့်တစ်ယောက် အဖြစ် တာဝန်မထမ်း ဆောင်ခင် ခင်ဗျားရဲ့စိတ်ထဲမှာရှိနေတဲ့ မှားယွင်းတဲ့ အမြင်တွေကို ဖယ်ရှားပစ်ဖို့ လိုတယ်။ ခင်ဗျားကို လခပေးဖို့ ပြောတယ်။ မ ဖြစ်နိုင်တာပဲ။ ခင်ဗျားရဲ့ အပြုအမူတွေက အများကြီး ဒုက္ခပေးတာပဲ။ နောက်ဆုံးပြောရရင် ခင်ဗျားဟာ အခု ကျွန်တော့်ကို အတွင်းခံ အဝတ် အစားတွေနဲ့ စကားပြောနေတာပဲ"

"အား ဟုတ်သားပဲ" ကေက ရယ်မောပြီး လက်ခုပ်တီးလိုက်သည်။ "အတော် ဆိုးတဲ့ လက်ထောက်တွေပဲ။ သူတို့ ဒီအချိန်မှာ ဘယ်ရောက်နေ ကြသလဲ"

ဖရီဒါ တံခါးပေါက်ဆီသို့ သုတ်ခြေတင်သွားသည်။

ကျောင်းဆရာက ကေနှင့် ပြော၍ရမည်မဟုတ်မှန်းသိသဖြင့် ဖရီဒါကို ၎င်းတို့ ကျောင်းကို ဘယ်တော့ပြောင်းလာမလဲ ဟု မေးလိုက်သည်။

"ကနေ့ပဲ ပြောင်းမယ်"

ဖရီဒါက ပြောလိုက်သည်။

"ဒါဆိုရင် မနက်ဖြန်မှာ အခြေအနေကို ကျုပ် လာပြီးစစ်ဆေးမယ်"

ကျောင်းဆရာက လက်ပြနှုတ်ဆက်ကာ တံခါးပေါက်မှ ထွက်လိုက်သည်။ အမှန်တော့ တံခါးကို ဖရီဒါက သူမကိုယ်တိုင် ထွက်ရန်အတွက် ဖွင့်လိုက် ခြင်းဖြစ်သည်။တံခါးပွင့်သွားသောအခါ အကူမိန်းကလေးများနှင့် ပက်ပင်း တိုးရသည်။ သူတို့က သူတို့ အခန်းကို ပြန်ယူရန် အထုပ်အပိုးတွေနှင့် ရောက်လာကြခြင်းဖြစ်၏။

ကျောင်းဆရာက ဘယ်သူ့ကိုမှလမ်းဖယ်မပေးဘဲ သူတို့အကြားမှ ဖြတ် ထွက် သွားသည်။

ဖရီဒါက သူ့နောက်မှ လိုက်ပါသွားသည်။

"မင်းတို့က တယ်လောကြတာကိုး။ တို့တောင် ဒီက မသွားရသေးဘူး။ မင်းတို့က ရောက်လာကြတာကိုး"

ယခုတစ်ကြိမ်တွင်မူ ကေက အကူမိန်းကလေးများကို ခင်မင်ရင်းနှီးစွာနှင့် ပြောလိုက်သည်။

သူတို့က ဘာမှပြန်မပြောဘဲ လက်ထဲမှ အထုပ်တွေကိုသာ တင်းတင်းဆုပ်ကိုင် လိုက်သည်။ အထုပ်တွေထဲက ညစ်ပတ်ပေရေနေသော စောင်တွေ ကို ကေ တွေ့ရသည်။

"မင်းတို့ပစ္စည်းတွေကို ဘယ်တော့မှ မလျှော်မဖွပ်ကြဘူးနဲ့တူတယ်"

ကေက အပြစ်တင်သည့်သဘောနှင့်မဟုတ်ဘဲ နောက်ပြောင်ကျီစယ်သည့် သဘောနှင့် ပြောလိုက်သည်။ ထိုအခါ သူတို့၏ပါးစပ်ကြီးတွေကို ဖြဲပြီး သွားတွေပေါ်အောင် ပြုံးရယ် လိုက်ကြသည်။

"လာလာ၊ မင်းတို့ပစ္စည်းတွေကို ထားကြ။ ဒါက မင်းတို့အခန်းပဲ"

သူတို့ တံ့ဆိုင်းနေသဖြင့် ကေက ပြောလိုက်သည်။

သို့တိုင် သူတို့က တံ့ဆိုင်းလျက်ပင် ရှိကြသည်။ သူတို့၏အခန်းက မမှတ်မိလောက်အောင် ပြောင်းလဲလျက်ရှိသည်။ ကေက တစ် ယောက်၏လက်မောင်းကို ကိုင်ကာ ဆွဲခေါ်ရသည်။ သို့သော် သူမကို ချက်ချင်းပင် ပြန်လွှတ်လိုက်ရသည်။ သူတို့က အကြည့်ချင်း ဖလှယ်လိုက် ကြပြီးနောက် ကေ့အား ငေးစိုက်ကာ ကြည့်နေကြသည်။

"မင်းတို့ ငါ့ကို အကြာကြီး ကြည့်နေကြတာပါလား"

ကေက ယင်းသို့ပြောပြီး ယခုပင် ဖရီဒါနှင့် လက်ထောက်နှစ်ယောက်က သယ်လာကြသော သူ့အဝတ်အစားတွေနှင့် ဘွတ်ဖိနပ်ကို ယူလိုက်သည်။

လက်ထောက်နှစ်ယောက်အပေါ် ဖရီဒါ သည်းခံစိတ်ရှည်ပုံကို ကေ နားမလည် နိုင်သလောက်ပင် ဖြစ်သည်။ ယခုလည်း သည်အတိုင်းပင်။ ဖရီဒါ အကြာကြီး လိုက်ရှာသောအခါ အောက်ထပ်တွင် နေ့လယ်စာ အေးအေးလူလူ စားနေကြသော သူတို့ နှစ်ယောက်ကို တွေ့ရှိရသည်။ သူတို့ကို ဖြီးသင်ခိုင်းထားသော ကေ၏အဝတ်တွေက သူတို့ပေါင်ပေါ်တွင် တွန့်ကြေလျက် ရှိသည်။ ကေ၏ အဝတ်အစားတို့ကို ဖြီးသင် ရသည်။ သို့သော် ကိုယ့်အောက်ကလူတွေကို ဘယ်လိုဆက်ဆံရမည် ဆိုတာကိုတော့ ဖရီဒါက သူတို့ကို ပြစ် တင်မောင်းမဲခြင်း မပြုဘဲ သူတို့၏ပေါ့ဆမှုကို သာမန်သဘော လောက်သာ ပြောသည်။ တစ်ယောက်၏ ပါးတစ်ဖက်ကို နောက်ပြောင်ကျီစယ်သည့် သဘောမျိုးဖြင့်သာ အသာကလေး ရိုက်လိုက်သည်။

ကေက ဒီကိစ္စကို ဖရီဒါနှင့် ပြောရမည်ဖြစ်သည်။ သို့သော် သူ သွားရမည့် အချိန်က နီးကပ်နေပြီဖြစ်သည်။

"ပြောင်းတဲ့ရွှေ့တဲ့နေရာမှာ လက်ထောက်တွေက ညီမကို ကူညီကြလိမ့်မယ်"

ကေက ပြောလိုက်သည်။

သည်အစီအစဉ်ကို သူတို့က ကျေနပ်ကြပုံမရပါ။ သူတို့က လေ့ကျင့်ခန်း လုပ်နေလိုကြဟန် ရှိသည်။

"ရှင်တို့နှစ်ယောက် ဒီမှာနေကြရမယ်"

ဟု ဖရီဒါက ပြောလိုက်သောအခါတွင်မှ သူတို့ အလျှော့ပေးသွားကြသည်။

"အစ်ကိုဘယ်သွားမယ်ဆိုတာ ညီမ သိတယ်မဟုတ်လား"

ကေက ဖရီဒါကို မေးလိုက်သည်။

"သိပါတယ်"

ဖရီဒါက ပြန်ပြောသည်။

"ညီမ အစ်ကို့ကို ဆွဲမထားချင်ဘူးလား"

"အစ်ကိုဟာ အဟန့်အတားတွေ အများကြီး တွေ့လိမ့်မယ်။ ညီမပြောလို့ ဘာထူးမှာလဲ"သူမက သူ့ကို နှုတ်ဆက်သည့်အနေဖြင့် နမ်းလိုက်သည်။ ကေ နေ့လယ်စာ မစားရသေးသည်ကို သိသဖြင့် အောက်ထပ်က ယူလာသော ပေါင်မုန့်နှင့်ဝက်အူချောင်း အထုပ်ကလေးကို ပေးလိုက်သည်။ ထို့နောက် ညနေကျရင် ဒီကိုပြန်မလာဘဲ ကျောင်းသို့သာ လာရန် သတိပေးလိုက်သည်။

ထို့နောက် သူမက သူ့ပခုံးကို သိုင်းဖက်ပြီး တံခါးပေါက်သို့ လိုက်ပို့သည်။

ဆိုင်အကူမိန်းကလေးများနှင့် လက်ထောက်နှစ်ယောက်တို့ဖြင့် ပြည့်ကျပ်နေသော အခန်းတွင်းမှ လွတ်မြောက်လာသည့်အတွက် ကေ ဝမ်းသာမိသည်။ အပြင်မှာ နည်းနည်းတော့ အေးသည်။ နှင်းတွေက ကျနေသည်။ သို့သော် သွားရတာ သက်သောင့် သက်သာရှိသည်။ သို့တစေလည်း အ မှောင်ပျိုးလာပြီဖြစ်၍ သူ ခပ်မြန်မြန် လျှောက်ရသည်။
မှုန်ဝါးစပြုလာပြီဖြစ်သော ရဲတိုက်ကြီး၏ပုံရိပ်သည် ယခင်ကအတိုင်းပင် တိတ်ဆိတ် ငြိမ်သက်လျက် ရှိသည်။ ရဲတိုက်ကြီးထဲတွင် လူရိပ်လူယောင် ဟူ၍ ကေ တစ်ခါမှ မတွေ့ရသေးပါ။ ဤမျှ ဝေးကွာသောနေရာမှနေ၍ အရိပ်သဏ္ဍာန်တစ်ခုကို တွေ့မြင်နိုင်ရန်လည်း မလွယ်ပါ။ သို့သော် မျက်စိ က မြင်တွေ့ချင်နေသည်။ မမြင်ရသည်ကို သည်းမခံနိုင်ရှိသည်။ ရဲတိုက်ကြီး ကို ကေ ကြည့်သောအခါ တစ်စုံတစ်ယောက်သည် အေးဆေးစွာထိုင်ပြီး ငေးမောနေသည်ဟု ထင်ရသည်။ ယနေ့အဖို့မူ အမှောင် စောစောကျနေသည်။ ဤစိတ်အထင်က ပိုပြီးနက်ရှိုင်းလျက်ရှိသည်။ သို့သော် သူ ကြာကြာ စိုက်ပြီးကြည့်လေ သူ့အနေနှင့် ဘာမျှမမြင်တွေ့ရလေ ဖြစ်သည်။ အရာရာသည် ဆည်းဆာထဲတွင် မြုပ်ဝင်လျက်ရှိသည်။
ဟာရင်ဟော့ တည်းခိုခန်းသို့ ကေ ရောက်ရှိသောအခါ တည်းခိုခန်းသည် မီးမထွန်းသေးကြောင်း တွေ့ရသည်။ ပထမထပ်တွင် ပြတင်းပေါက်တစ်ခုဖွင့်နေပြီး လူရွယ်တစ်ယောက် ရှိနေသည်ကို တွေ့ရသည်။ ကေ နှုတ်ဆက်သည်ကို သူက ဘယ်လိုမှ မတုံ့ပြန်ပါ။ အဝင်ခန်းမဆောင်ကြီးထဲမှာရော ပင်မအခန်းထဲမှာရော ဘယ်သူ့ကိုမှ ကေ မတွေ့ရပါ။ ဘီယာနံ့က ယခင်တစ်ကြိမ်ကထက်ပင် ဟောင်စော်လှသည်။ တံတား အနီးက တည်းခိုခန်းတွင် သည်လိုမျိုး နံစော်ခြင်း မရှိပါ။
ကလမ်ကို သူ ချောင်းကြည့်ခဲ့သော တံခါးဆီသို့ ကေ တန်းပြီးသွားသည်။ တံခါးက ပိတ်ထားသည်။ ချောင်းကြည့်ပေါက်ကလေးကို သူ ရှာသည်။ အပေါက်ကို အပ်ချောင်း တစ်ချောင်းနှင့် ပိတ်ထားသဖြင့် ဘာမျှမမြင်ရပါ။ ထို့ကြောင့် သူ မီးခြစ်ဆံ တစ်ဆံကို ခြစ်လိုက်သည်။ အော်သံတစ်ခုကြောင့် သူ လန့်သွားရသည်။ အခန်းထောင့် တစ်နေရာမှ မိန်းကလေးတစ်ယောက် က သူ့ကို မီးခြစ်ရောင်တွင် ကြည့်နေသည်။ အိပ်ချင်မူးတူးမျက်လုံးများနှင့် ဖြစ်သည်။ သူမက ဖရီဒါအစား ရောက်ရှိနေသူ ဖြစ်သည်။ ခဏအကြာမှာ ပင် သူမက သတိပြန်ဝင်လာပြီး လျှပ်စစ်မီးကို ဖွင့်လိုက်သည်။ သူမက မ ကျေမနပ် ဖြစ်နေပုံရသည်။ ပြီးမှ သူမက ကေကို မှတ်မိသွားပြီး
"အို… မြေတိုင်းစာရေးကြီးပါလား"
သူမက ပြုံးပြီး ပြောလိုက်သည်။ သူမ၏လက်ကို ဆန့်တန်းပေးပြီး သူမ

ကိုယ် သူမ မိတ်ဆက်သည်။

"ညီမနာမည်က ပက်ပီပါ"

သူမက ကိုယ်လုံးကိုယ်ထည်သေးသေး၊ ပါးအို့ မို့မို့နီနီနှင့် ဖြစ်သည်။ ဆံပင်နီနီများကို အကျအန ကျစ်ထားသည်။ သို့တစေ တချို့ဆံစများက လွတ်ထွက်နေပြီး နားထင်ပေါ်တွင် ခွေဝဲပြီးကျနေသည်။ သူမက ဖရီဒါ အကြောင်း စူးစမ်းသည်။ မကြာခင် ပြန်လာမည်လားဟု မေးသည်။

"ဖရီဒါ ထွက်သွားတာနဲ့ တစ်ပြိုင်နက် တခြားသင့်တော်တဲ့လူ ရှာမတွေ့တာနဲ့ ညီမကို ခေါ်ကြတာပဲ။ အခုအထိတော့ ညီမက သန့်ရှင်းရေး အလုပ်သမပဲ။ ဒါပေမဲ့ ဒီအလုပ်က မသက်သာပါဘူး။ ညနေပိုင်းနဲ့ ညပိုင်းမှာ အလုပ်သိပ်များတာပဲ။ အင်မတန် ပင်ပန်းတာပဲ။ ညီမ ကြာကြာလုပ်နိုင် မယ် မထင်ဘူး။ ဒီအလုပ်ကို ဖရီဒါ စွန့်လွှတ် သွားတာ ညီမ မအံ့သြပါဘူး"

"ဖရီဒါကတော့ ဒီမှာ တော်တော်ပျော်တာပဲ"

ဖရီဒါနှင့် သူမ မတူကြောင်းကို ကေက ထောက်ပြလိုက်သည်။ ဒီစကားကို သူမ ကျေနပ်ပုံ မပေါ်ပါ။

"ဖရီဒါက ဟန်ဆောင်ကောင်းတယ်။ သူ ဝန်မခံချင်တာကို ဝန်မခံဘူး။ သူမ ဘာတစ်ခုခုကို ဝန်ခံချင်တယ်ဆိုတာကို ဘယ်သူမှ မသိဘူး။ ညီမ ဒီမှာ သူနဲ့အတူ နှစ်ပေါင်းများစွာ အလုပ်လုပ်ခဲ့တယ်။ အဲဒီတုန်းက ညီမတို့ဟာ တစ်အိပ်ရာတည်း အတူတူအိပ်ခဲ့ကြတာပဲ။ ဒါပေမဲ့ ညီမ သူနဲ့ အကျွမ်းမဝင်ခဲ့ဘူး။ သူ့စိတ်သဘောထားကို မသိခဲ့ဘူး။ သူ့ရဲ့တစ်ဦးတည်းသော မိတ်ဆွေ ဟာ တံတားတည်းခိုခန်းပိုင်ရှင် မိန်းမကြီးပဲ ဖြစ်မယ်။ အဲဒါကလည်း ဇာတ်လမ်းတစ်ပုဒ်ပဲ"

"ဖရီဒါက ကိုယ့်ရည်းစားပဲ"

ကေက တံခါးမှ ချောင်းကြည့်ပေါက်ကို ရှာဖွေရင်း ပြောလိုက်သည်။

"ညီမ သိပါတယ်။ ဒါ့ကြောင့်လည်း အစ်ကို့ကို ဒီအကြောင်းတွေ ပြောနေတာပေါ့။ နို့မဟုတ်ရင် ဒါတွေကို အစ်ကို ဘယ်စိတ်ဝင်စားပါ့မလဲ"

"ကိုယ်သဘောပေါက်ပါတယ်။ ဒီလိုလျှို့ဝှက်တတ်တဲ့ မိန်းကလေးတစ်ယောက်ကို ရတဲ့အတွက် ကိုယ်ဟာ ဂုဏ်ယူထိုက်တယ်လို့ ညီမ ပြောချင် တာ မဟုတ်လား"

ကေက ပြောလိုက်သည်။ သူမက ရယ်မောကာ

"ဒီသဘောပဲပေါ့"

ဖရီဒါနှင့်ပတ်သက်ပြီး ကေနှင့် သူမ လျှို့ဝှက်သော နားလည်မှုတစ်ခု ရရှိပြီ ဟူသော သဘောဖြင့် သူမက အောင်မြင်သော ရယ်မောခြင်းနှင့် ပြန်ပြောသည်။

"ဒီအချိန်မှာ မီးမဖွင့်ရဘူး" ပက်ပီက ယင်းသို့ပြောပြီး မီးပိတ်လိုက်သည်။ "အစ်ကို့ကြောင့် လန့်သွားတာပဲ။ မီးကို ညီမ ဖွင့်လိုက်တာ။ အစ်ကို ဘာကိစ္စလာတာလဲ။ ဖရီဒါ တစ်ခုခု မေ့ကျန်ခဲ့လို့လား"

"ဟုတ်တယ်" ကေက တံခါးကို လက်ညှိုးထိုးပြရင်း "စားပွဲခင်းတစ်ခု၊ ဇာပန်းထိုး စားပွဲခင်းတစ်ခု မေ့ကျန်ခဲ့လို့၊ ဟိုဘက်အခန်းထဲမှာ"

"ဟုတ်တယ်။ ဖရီဒါရဲ့ စားပွဲခင်းပဲ။ ညီမ မှတ်မိတယ်။ တော်တော်လှတဲ့ စားပွဲခင်းပဲ။ ညီမကိုယ်တိုင် ခင်းပေးဖူးတယ်။ ဒါပေမဲ့ အဲဒါ အဲဒီအခန်းထဲ မှာ မရှိဘူး"

"ဖရီဒါကတော့ အဲဒီအခန်းထဲမှာလို့ ထင်တယ်။ အဲဒီအခန်းမှာ ဘယ်သူ နေနေသလဲ"

ကေက မေးလိုက်သည်။

"ဘယ်သူမှ မနေဘူး။ အဲဒီအခန်းက လူကြီးမင်းတွေရဲ့ အခန်းပဲ။ အဲဒီအခန်းမှာ လူကြီးမင်းတွေ စားကြတယ်၊ သောက်ကြတယ်။ ဒါပဲ။ အဲဒီအတွက် သီးသန့် ထားတာပဲ။ ဒါပေမဲ့ လူကြီးမင်းတွေ တော်တော်များများ ဟာ အပေါ်ထပ်က သူတို့ရဲ့ အခန်းတွေမှာ နေကြတာပဲ"

"အဲဒီအခန်းထဲမှာ ဘယ်သူမှမရှိဘူးဆိုရင် စားပွဲခင်းကို ကိုယ် သွားပြီး ရှာချင် ပါတယ်။ ဒါပေမဲ့ ဘယ်သူမှမရှိဘူးဆိုတာ သေချာရဲ့လား။ ဥပမာဆိုပါတော့၊ ကလမ်ဟာ အဲဒီအခန်းထဲမှာ ထိုင်နေတတ်တယ်"

"အဲဒီအခန်းထဲမှာ အခု ကလမ်မရှိတာ သေချာတယ်။ သူက အခုပဲ အပြင်ကို သွားတော့မလို့ပဲ။ ခြံဝင်းထဲမှာ စွတ်ဖားတစ်စီး သူ့ကို စောင့်နေတယ်"

ပက်ပီက ပြောလိုက်သည်။

ကေက ဘာတစ်ခွန်းမှ ပြောမနေတော့ဘဲ ယမကာအခန်းထဲမှ ချက်ချင်း ထွက်ခဲ့သည်။ ဆိုင်ရှေ့ ခန်းမဆောင်သို့ ရောက်ရှိသောအခါ တံခါးပေါက်ဆီသို့ မသွားဘဲ အတွင်းဘက်သို့ ဝင်သွားသည်။ ခြေလှမ်းအနည်းငယ် သွားမိ သောအခါ ခြံဝင်းထဲသို့ ရောက်ရှိသွားသည်။

ခြံဝင်းက သာယာအေးချမ်း လှသည်။ လေးထောင့်စပ်စပ်ခြံဝင်းကြီး ဖြစ်သည်။ အနားသုံးဘက်တွင်က အဆောက်အအုံတွေ ဖြစ်သည်။ လမ်းမ ကြီးဘက်တွင် ကားလမ်း ငယ်ကလေးတစ်ခု ရှိသည်။ ယင်းကို ယခင်က ကေ မသိရှိခဲ့ပါ။ တံတိုင်းမြင့်မြင့်ကြီးနှင့် ရောမဝင်းတံခါးကြီး ရှိသည်။ တံခါးပေါက်မှာ ယခုအခါ ဖွင့်ထားသည်။

ခြံဝင်းဘက်မှ မြင်တွေ့ရသော အိမ်ကြီးသည် ရှေ့ဘက်မှ မြင်တွေ့ရသည် ထက် ပိုမိုငြိမ်သက်သည်။ ပထမထပ်သည် ရှေ့ဘက်သို့ တိုးထွက်နေပြီး မြင် ရသည်မှာ သားနားသည်။ ဝရန်တာ ပတ်ပတ်လည်နှင့် ဖြစ်သည်။ တစ် နေရာတွင်သာ တံခါး ပေါက်ကလေး ရှိသည်။ ကေနှင့် မျက်နှာချင်းဆိုင် မြေညီထပ်တွင်ကား အိမ်တွင်းသို့ ဝင်သော အပေါက်တစ်ပေါက် ရှိသည်။ တံခါး မရှိပါ။ အဝင်ပေါက် ရှေ့တည့်တည့်တွင် မြင်းနှစ်ကောင်က စွတ်ဖား တစ်စီးရှိသည်။ ခပ်လှမ်းလှမ်းတွင် ရှိနေသော စွတ်ဖားမောင်းသူ မှတစ်ပါး တစ်ဦးတစ်ယောက်ကိုမျှ မမြင်တွေ့ရပါ။

ကေသည် လက်များကို အင်္ကျီအိတ်ထဲတွင် နှိုက်ကာ သတိကြီးစွာထားပြီး

ခြံဝင်းနှစ်ဖက်အတိုင်း စွတ်ဖားဆီသို့ရောက်အောင် လျှောက်သွားသည်။ တစ်နေ့ညက ယမကာခန်းထဲတွင် တွေ့ခဲ့ရသော လယ်သမားတစ်ဦးသည် စွတ်ဖားမောင်းသူ ဖြစ်နေသည်။ သူက သားမွေးအင်္ကျီကြီးကို အကျအန ဝတ်ပြီး ကေ့အား ကြည့်နေသည်။ သူ့ဘေးသို့ ရောက်ရှိ သွားသောအခါနှုတ်ဆက်သည်။ အမှောင်ထဲမှ လူတစ်ယောက်ထွက်လာ သည်ကို တွေ့သောအခါ မြင်းတွေ အနည်းငယ် လှုပ်လှုပ်ရှားရှား ဖြစ်သွားကြသည်။ သို့သော် စွတ်ဖားမောင်းသူကတော့ ဘာသိဘာသာပင် ဖြစ်သည်။ ယင်း အချက်က ကေအတွက် အဆင်ပြေသည်။

ကေသည် အိမ်နံရံကိုမှီပြီး သူ၏နေ့လယ်စာဘူးကို ထုတ်ယူလိုက်သည်။ နေ့လယ်စာ စီစဉ်ပေးလိုက်သည့် ဖရီဒါကို ကျေးဇူးတင်ရသည်။ တစ်ချိန်တည်းမှာပင် ကေသည် အိမ်ကြီးဆီသို့ စူးစိုက်ပြီး ကြည့်နေသည်။ အောက်ဘက်လမ်းတစ်ခုဆီသို့ ဆင်းသော လှေကားကို တွေ့မြင်ရသည်။

ကေ မျှော်လင့်ထားသည်ထက် ပိုပြီးကြာအောင် စောင့်ဆိုင်းရသည်။ သူ နေ့လယ်စာစားပြီး အတော်ကြီး ကြာသည်အထိ ဖြစ်သည်။ သူ အတော် အေးနေပြီ။ ဆည်းဆာရောင်က လုံးဝ မှောင်သွားပြီ။ ထိုအချိန်အထိ ကလမ် ရောက်မလာသေးပါ။

"အချိန်အတော်ကြီး ကြာသွားပြီနဲ့တူတယ်"

သူ့အနီးမှ အသံသြသြကြီးတစ်ခု ရုတ်တရက် ထွက်ပေါ်လာသဖြင့် ကေ လန့်သွားသည်။ စွတ်ဖားမောင်းသူ ပြောလိုက်ခြင်း ဖြစ်သည်။ သူက အခုမှ နိုးလာဟန် ရှိပြီး ခြေညောင်းလက်ဆန့် ပြုကာ ကျယ်လောင်စွာ သမ်းလိုက်သည်။

"ဘယ်လိုအချိန်အတော်ကြီး ကြာသွားတာလဲ"

ကေ မေးလိုက်သည်။ စွတ်ဖားမောင်းသူ ပြောလိုက်သည့်အတွက် သူ့မှာ အနှောင့်အယှက် ဖြစ်မသွားပါ။ တိတ်ဆိတ်ပြီး စိတ်တင်းကျပ်နေရသည်က သာ ဝန်ထုပ် ဝန်ပိုးကြီးတစ်ခု ဖြစ်သည်။

"ဆရာ ထွက်မသွားခင် အချိန်ပေါ့"

သူပြောသည့်စကားကို ကေ နားမလည်ပါ။ သို့သော် ဘာမှထပ်ပြီးမမေး

အတန်ကြာသောအခါ စွတ်ဖားဆရာက မေးသည်။

"ဆရာ ဘရန်ဒီ နည်းနည်းသောက်မလား"

"ကောင်းတာပေါ့"

ကေက ဖြေလိုက်သည်။ လူတစ်ကိုယ်လုံး အေးစက်နေပြီဖြစ်သည်။

"ဒါဆိုရင် စွတ်ဖားတံခါးကို ဖွင့်လိုက်။ အတွင်းဘက် အိတ်တွေထဲမှာ ပုလင်းတွေရှိတယ်။ ပုလင်းတစ်လုံးကို ယူပြီးသောက်ပါ။ ပြီးရင် ကျွန်တော့်ကို လက်ဆင့် ကမ်းလိုက်ပါ။ ဒီသားမွေးအင်္ကျီကြီးကြောင့် ကျွန်တော့်အနေ နဲ့ ဆင်းဖို့ မလွယ်လို့ပါ"

စွတ်ဖားမောင်းသူ၏ ခိုင်းစေမှုကြောင့် ကေ့မှာ အနှောင့်အယှက် ဖြစ်သွား ရသည်။ သို့သော် သူသည် စွတ်ဖားဆရာနှင့် ထိတွေ့နေရသဖြင့် ပြောသလို လုပ်ရ

ပေမည်။ စွတ်ဖားထဲတွင် ကလမ်နှင့် မမျှော်လင့်ဘဲလည်း တွေ့ နိုင်သည်။

တံခါးပေါက်ကြီးကို ကေ ဖွင့်လိုက်သည်။ အခြားလည်း ဘာမှလုပ်စရာ မရှိသဖြင့် တံခါးအတွင်းရှိ ဘေးအိတ်ထဲမှ ပုလင်းတစ်လုံးကို ထုတ်ယူလိုက်သည်။ ယခုအခါ သူသည် စွတ်ဖားအတွင်းသို့ ဝင်ချင်သည့်စိတ်ကို မထိန်း နိုင်ဘဲရှိသည်။ စွတ်ဖားအတွင်းဝယ် သူ တစ်မိနစ်ခန့် ထိုင်လိုခြင်းပင် ဖြစ်သည်။ သို့ဖြင့် စွတ်ဖား အတွင်းသို့ သူ ဝင်လိုက်သည်။ စွတ်ဖားအတွင်းမှာ အထူးပင် နွေးထွေးလှသည်။ ကေသည် တံခါးကို မပိတ်ရဲသဖြင့် ဒီအတိုင်းပင် ဖွင့်ထားသည်။ အတွင်းမှာ စောင်တွေ မွေ့ရာတွေ သားမွေးတွေ ပြည့်နှက်နေသဖြင့် ဘယ်နေရာပဲထိုင်ထိုင် နွေးနေသည်။ နူးညံ့နေသည်။ သူ့လက်များကို ဆန့်တန်းလိုက်သည်။ သူ့ခေါင်းက ခေါင်းအုံးများ ပေါ်တွင် ရှိ နေသည်။ ကေက စွတ်ဖားထဲမှနေ၍ အိမ်ကြီးကို ကြည့်လိုက်သည်။

ကလမ်လာတာ ဘာဖြစ်လို့ ဒါလောက်ကြာနေရသနည်း။ နှင်းထဲမှာ အကြာကြီး စောင့်နေရပြီး အနွေးဓာတ်ကို ခံစားလိုက်ရသဖြင့် ကေသည် ကလမ် မြန်မြန်ရောက်လာ စေချင်သည်။ သူသည် ကျေနပ်နှစ်သိမ့်မှုကို ခံစား နေရသဖြင့် ခုအခြေအနေအတိုင်း ကလမ်တွေ့သွားမည်ကို မစိုးရိမ် သလောက်ပင် ဖြစ်သည်။ စွတ်ဖားဆရာသည် သူ စွတ်ဖား အတွင်းမှာ ရှိ နေသည်ကို သိသော်လည်း သူက ကေထံမှ ဘရန်ဒီကို တောင်းခံခြင်း မပြု ပါချေ။ သို့သော် ကေက သူ့ဆန္ဒကို ဖြည့်ချင်သည်။ သူက လက်ရှိ အနေအထား မပျက်စေဘဲ အတွင်းအိတ်ထဲကို လက်နှိုက်လိုက်သည်။ သို့သော် ဖွင့်ထားသော တံခါး ဘေးအိတ်ထဲသို့ မဟုတ်ဘဲ သူ့နောက်ဘက်ရှိ ပိတ်ထားသော တံခါးအတွင်းအိတ်ထဲသို့ ဖြစ်သည်။ သို့သော် ပြဿနာမရှိပါ။ ယင်းအိတ်ထဲမှာလည်း ပုလင်းတွေရှိသည်။

သူက ပုလင်းတစ်လုံးကို ဆွဲယူလိုက်ပြီး အဖုံးကို ဖွင့်လိုက်သည်။ ထို့နောက် နမ်းကြည့်သည်။ သူ ပြုံးလိုက်မိသည်။ ရေမွှေးက မွှေးလှသည်။

"ဒါ ဘရန်ဒီ ဖြစ်နိုင်ပါ့မလား"

ကေ သိလိုစိတ်ဖြင့် မြည်းကြည့်လိုက်သည်။ အံ့သြစရာပင်။ ဘရန်ဒီ ဖြစ်သည်။ သူ့တစ်ကိုယ်လုံး ပူနွေးသွားသည်။ ကေ နောက်တစ်ငုံ မော့လိုက်သည်။

ထို့နောက် ဘရန်ဒီကို ကေ အားရပါးရ မော့နေစဉ်မှာပင် အရာအားလုံး လင်းထိန်လာသည်။ လှေကားမှ လျှပ်စစ်မီးများ လင်းလာသည်။ အိမ်အတွင်းဘက် လှေကားမှဆင်းလာသော ခြေသံများ ကြားရသည်။ ကေ၏လက်ထဲမှ ပုလင်း လွတ်ကျ သွားသည်။ စောင်တစ်ထည်ပေါ်သို့ဘရန်ဒီတွေ ဖိတ်ကျသည်။ စွတ်ဖားအတွင်းမှ ကေ ခုန်ပြီး ထလိုက်သည်။ တံခါးကို အသံမြည်အောင် ဆောင့်ပိတ်လိုက်စဉ်မှာပင် အိမ်ထဲမှ လူကြီးမင်း တစ်ယောက် ဖြည်းလေးစွာ ထွက်လာသည်။ တော်ပါသေးသည်။ ကလမ် မဟုတ်ပါ။ ပထမထပ် ပြတင်းပေါက်တွင် ကေ တွေ့မြင်ခဲ့ရသော လူကြီး မင်း ဖြစ်သည်။

လူရွယ်တစ်ယောက် ဖြစ်သည်။ လူချောလူလှတစ်ယောက် ဖြစ်သည်။

တည်ကြည် လေးနက်သည်။ လူကြီးမင်းက ကေအား တိတ်ဆိတ်စွာ ကြည့်နေပြီးနောက် ပြောလိုက်သည်။

"ဒါမျိုးအလုပ်က မကြုံဖူးဘူး"

လူကြီးမင်းက ဦးထုပ်ကို နောက်ဘက်သို့ အနည်းငယ် တွန်းလှန်လိုက်သည်။ ဘာကို မကြုံဖူးတာလဲ။ စွတ်ဖားထဲသို့ ကေ ဝင်ရောက်ခဲ့သည်ကို လူကြီးမင်း မသိပါ။ ခြံဝင်းအတွင်းသို့ ကေ ဝင်ရောက်လာသည်ကိုရော။

"ခင်ဗျား ဒီကို ဘယ်လိုလုပ်ပြီးရောက်လာတာလဲ"

လူကြီးမင်းက တိုးညင်းစွာ မေးသည်။

ကေ အမှန်ကို ပြောရမည်လား။

ကေ ဘာမှပြန်မပြောဘဲ စွတ်ဖားတံခါးကိုဖွင့်ကာ အထဲမှာ သူ မေ့ကျန်ရစ်ခဲ့သော ဦးထုပ်ကို ယူလိုက်သည်။ ခြေနင်းခုံပေါ်သို့ ဘရန်ဒီ တစက်စက် ကျနေသည်ကို တွေ့ရသည်။

"ကျွန်တော်နဲ့အတူလိုက်ခဲ့ပါ"

လူကြီးမင်းက နှုတ်မှသာ အမိန့်ပေးနေသည်မဟုတ်၊ လက်ရိပ်လည်း ပြလိုက်သည်။

"ကျွန်တော် လူတစ်ယောက်ကို စောင့်နေတယ်"

ကေက ပြန်ပြောလိုက်သည်။

"လိုက်ခဲ့ပါ"

လူကြီးမင်းက တစ်စုံတစ်ယောက်အား ကေ စောင့်နေသည်ကို လုံးဝ သံသယ မရှိဟန်ဖြင့် ပြောသည်။

"ကျွန်တော် စောင့်နေတဲ့လူနဲ့ လွဲသွားလိမ့်မယ်"

"ဘာပဲဖြစ်ဖြစ် ခင်ဗျား သူနဲ့လွဲမှာပဲ။ စောင့်နေရင်ပဲဖြစ်ဖြစ်၊ လိုက်ခဲ့ရင်ပဲ ဖြစ်ဖြစ်"

"ဒါဆိုရင် လွဲချင်လွဲပါစေ၊ ကျွန်တော် စောင့်နေမယ်"

ကေ က ပြတ်သားစွာ ပြောလိုက်သည်။

လူကြီးမင်းသည် မျက်လုံးများကို ခေတ္တမှိတ်ထားလိုက်ပြီးနောက် စွတ်ဖားမောင်းသူကို ပြောလိုက်သည်။

"မြင်းတွေကို ပြန်ဖြုတ်လိုက်"

စွတ်ဖားဆရာသည် ကေအား မျက်စောင်းထိုးကာ လူကြီးမင်း၏အမိန့်ကို နာခံသောအားဖြင့် သူ၏သားမွေးအင်္ကျီကြီး ဖိုသီဖတ်သီဖြင့်ပင် စွတ်ဖားပေါ်မှ လေးကန်စွာ ဆင်းလိုက်သည်။ ဘေးတစ်ဖက် နံရံနောက်ဘက်ရှိ ရောမ တံခါးကြီး အတိုင်း မြင်းများနှင့် စွတ်ဖားကို ပြန်သိမ်းရန်ဖြစ်သည်။

ကေတစ်ယောက်တည်း ကျန်ရစ်သည်။ စွတ်ဖားကြီးက တစ်ဖက်သို့ ပျောက်ဝင်သွားသည်။ လူကြီးမင်းက အခြားတစ်ဖက်သို့ ဖြည်းလေးစွာနှင့် လျှောက်

သွားသည်။ ကေက လူကြီးမင်းနှင့် စွတ်ဖားဆရာ၏ ကျောများကို ငေးစိုက်ပြီး ကြည့်နေသည်။ လူကြီးမင်းသည် ဝင်းအတွင်းသို့ ကေဝင်ခဲ့ သော တံခါးဆီသို့ ရောက်သွားပြီ ဖြစ်သည်။ သူက ကေအား နောက်ဆုံး အကြိမ် တစ်ချက်လှည့်ကြည့်ပြီး အိမ်တွင်းသို့ ဝင်ရောက် ပျောက်ကွယ်သွားသည်။

စွတ်ဖားမောင်းသူသည် မြင်းများနှင့် စွတ်ဖားကို ခက်ခဲပင်ပန်းစွာ သွင်း ပြီးနောက် ဖြည်းလေးသော ခြေလှမ်းများဖြင့် မြင်းဇောင်းထဲသို့ ပျောက်ဝင် သွားသည်။

ယခုအခါ လျှပ်စစ်မီးများသည် အားလုံးငြိမ်းသွားပြီ ဖြစ်သည်။

ဘယ်သူ့အတွက် မီးတွေ ဖွင့်ထားရဦးမည်နည်း။ သူတို့က ကေနှင့် လုံးဝ အဆက်အသွယ် ဖြတ်တောက်လိုက်ကြပြီ ဖြစ်သည်။

သို့သော် သူသည် လွတ်လပ်မှုကို ရရှိလျက်ရှိပါသည်။ သူ ဒီမှာရပ်ပြီး စောင့်ချင်သလောက် စောင့်နေနိုင်ပါသည်။ သူ့ကို ဒီက ဘယ်သူကမှ မောင်းမထုတ်ပါ။ သူ့ကို ဘယ်သူကမှ ဘာမျှမပြောပါ။

ကေသည် စိတ်လွတ်ဖြင့်ပင် တည်းခိုခန်းအတွင်းသို့ ပြန်ဝင်သွားသည်။ ယခုတစ်ကြိမ်တွင်မူ ခြံဝင်းနံရံအတိုင်း ကွေ့လျှောက်မနေတော့ဘဲ နှင်း တောထဲမှ ဖြတ်ပြီး သွားသည်။ တည်းခိုခန်း ပိုင်ရှင်ကို ရှေ့ဘက်ခန်း အဆောင်တွင် တွေ့ရသည်။ သူက ကေ့အား တိတ်ဆိတ်စွာ နှုတ်ဆက်ပြီး ယမကာ ခန်းတံခါးဆီသို့ ညွှန်ပြသည်။ သူညွှန်ပြသည့် အတိုင်း ကေ ဝင် သွားသည်။ သူက ချမ်းခိုက်ခိုက် တုန်နေသဖြင့် လူတွေ၏မျက်နှာ တွေကို တွေ့ချင်နေသည်။ သို့သော် အထဲသို့ရောက်သောအခါ စားပွဲငယ်တစ်ခုတွင် ထိုင်နေသော လူရွယ်လူကြီးမင်းကို တွေ့ရသဖြင့် စိတ်ပျက်သွားရသည်။ စားပွဲငယ်က လူကြီးမင်းကလေးအတွက် အထူးတလည် ခင်းကျင်းထား ဟန် တူသည်။ အကြောင်းမှာ ထုံးစံအတိုင်းဆိုလျှင် မှောက်ထားသော အရက်များပေါ်တွင် ထိုင်ကြရသောကြောင့် ဖြစ်သည်။ ၎င်း၏ရှေ့တွင်ကား တံတားတည်းခိုခန်း ပိုင်ရှင်ကတော်ကို တွေ့ရသည်။

ခေါင်းကိုမော့ထားပြီး ပြုံးနေသော ပက်ပီကိုလည်း တွေ့ရသည်။ သူမက ဘီယာ၊ မင်အိုးနှင့် ကလောင်တံတို့ကို ခေါက်တုံ့ခေါက်ပြန် သယ်ယူလျက် ရှိသည်။ လူကြီးမင်းကလေး၏ရှေ့တွင် စာရွက်စာတမ်းများ ဖြန့်ခင်း ထားသည်။ သူက စာရွက် တွေပေါ်မှ ရက်စွဲများကို တိုက်ဆိုင်ကြည့်ရင်း စာရေးရန် ပြင်ဆင်လျက် ရှိသည်။ တည်းခိုခန်းပိုင်ရှင်ကတော်က လူကြီး မင်းကလေးနှင့် စာရွက် စာတမ်းတွေကို ကြည့် နေသည်။

"ဪ... မြေတိုင်းစာရေးကြီး ရောက်လာပြီလား"

လူကြီးမင်းကလေးက ကေဝင်သွားသောအခါ ခေတ္တမျှ မော့ကြည့်ပြီး ပြောလိုက်သည်။ ထို့နောက် သူ့ရှေ့မှ စာရွက်စာတမ်းများကို ပြန်ကြည့် နေသည်။ တည်းခိုခန်းပိုင်ရှင် အမျိုးသမီးက အနည်းငယ်မှ အံ့သြဟန်မပြ ဘဲ ဘာမှမထူးခြား ဟန်ဖြင့် ကေ့ကို ကြည့်သည်။ သို့သော် ကေက အရက် ကောင်တာသို့ လျှောက်သွားပြီး ဘရန်ဒီတစ်ခွက်မှာသောအခါ ကေ့အား ပထမဆုံးအကြိမ် သတိပြုမိဟန်ဖြစ်သည်။

ကေသည် မျက်လုံးများကို လက်ဖြင့်ဖိထားရင်း ဘာတစ်ခုကိုမှ သတိမပြု သလိုနေရာ ကောင်တာကို မှီပြီး ရပ်နေသည်။ ထို့နောက် ဘရန်ဒီတစ်ငုံ မော့လိုက်ပြီး သောက်လို့ မကောင်းဘူးဟု ပြောလိုက်သည်။

"လူကြီးမင်းတွေအားလုံး ဒါပဲသောက်ကြတာပဲ"

ပက်ပီက ခပ်ဆတ်ဆတ် ပြန်ပြောလိုက်ပြီး လက်ကျန်များကို သွန်ပစ်ပြီး ဖန်ခွက်ကို ဆေးကာ စင်ပေါ်ပြန်တင်ထားလိုက်သည်။

"လူကြီးမင်းတွေမှာ ဒါ့ထက်ကောင်းတာ ရှိသေးတယ်"

ကေ ပြောလိုက်သည်။

"ဖြစ်နိုင်ပါတယ်။ ဒါပေမဲ့ ကျွန်မဆီမှာတော့ မရှိဘူး"

ပက်ပီက ယင်းသို့ပြောပြီး ကေနှင့် စကားပြတ်သွားသည်။ ထို့နောက် သူမက လူကြီးမင်းလေးထံ ဝန်ဆောင်မှုပေးရန် ပြန်သွားသည်။ သို့သော် ဘာမှ လုပ်ပေးစရာ မရှိသဖြင့် နောက်ဘက်တွင် ရစ်သီရစ်သီလုပ်နေပြီး လူကြီးမင်းလေး၏ ပခုံးပေါ်မှ ကျော်ပြီး စာရွက်စာတမ်းများကို တွေ့မြင်နိုင်ရန် ကြိုးစားနေသည်။ သို့သော် ယင်းကို တည်းခိုခန်းပိုင်ရှင်ကတော်က မကျေနပ်သဖြင့် မျက်မှောင်ကြုတ် ပြလိုက်သည်။

ထို့နောက် အမျိုးသမီးသည် ရုတ်တရက် အာရုံပြောင်းသွားဟန်ရှိပြီး တစ်နေရာကို ငေးစိုက်ပြီး ကြည့်နေသည်။ တစ်စုံတစ်ခုကို အာရုံစိုက်ပြီး နားထောင် နေဟန်ရှိသည်။ ကေ လှည့်ကြည့်လိုက်သည်။ ဘာမျှမကြားရပါ။ တခြားလူများလည်း ကြားကြဟန်မရှိပါ။ သို့သော် တည်းခိုခန်းပိုင်ရှင် အမျိုးသမီးသည် ခြေဖျားထောက်ကာ ပြေးသွားပြီး ခြံဝင်းတံခါးဆီသို့ ခြေလှမ်းကျဲကြီးများဖြင့် သွားသည်။ တံခါး သော့ ပေါက်မှနေပြီး ချောင်းကြည့်သည်။ ထို့နောက် သူမက ငေးစိုက်သော မျက်လုံးများ၊ နီမြန်းသော ပါး နှစ်ဖက်တို့ဖြင့် အခြားသူများကို သူ့ထံသို့လာရန် လက်ပြ ခေါ်ဆောင်သည်။

ယခုအခါ သူတို့အားလုံးပင် သော့ပေါက်မှ အလှည့်ကျ ချောင်းကြည့်နေ ကြသည်။ ပိုင်ရှင်အမျိုးသမီးက အများဆုံးဖြစ်သည်။ သို့သော် ပက်ပီကလည်း ထောက်ထားစရာ ဖြစ်သည်။ သူတို့သုံးယောက်ထဲတွင် ဘာသိဘာသာအဖြစ်ဆုံး ကတော့ လူကြီးမင်းကလေးပင် ဖြစ်သည်။

မကြာခင်မှာပင် ပက်ပီနှင့် လူကြီးမင်းကလေးတို့ ပြန်လာကြသည်။ သို့သော် ပိုင်ရှင်ကတော်က စိတ်အားထက်သန်စွာ ဆက်လက်ကြည့်ရှုနေဆဲ ဖြစ်သည်။ သူမက ဒူးထောက်မတတ် ခါးကို ကုန်းပြီး ကြည့်နေသည်။ နောက်ဆုံး ဘာမှကြည့်စရာ မရှိတော့သည့် အချိန်အထိ ဖြစ်သည်။

နောက်ဆုံးတွင်မှ သူ မတ်တတ်ထလိုက်သည်။ ဆံပင်ကို သပ်ရပ်အောင် လုပ်လိုက်သည်။ ပြီးတော့ ချောင်းကြည့်ပေါက်တံခါးကို ကြည့်လိုက်သည်။

သူမက ဘာမှမပြောခင် ကေက ကြိုတင်ပြီး ပြောလိုက်သည်။

"အဲဒီတော့ ကလမ် သွားပလား"

ပိုင်ရှင်အမျိုးသမီးက ဘာမှမပြောဘဲ ကေ့ကို ဖြတ်လျှောက်သွားသည်။ သို့သော် လူကြီးမင်းကလေးက သူ့စားပွဲမှနေပြီး ဖြေလိုက်သည်။

"ဟုတ်တယ်၊ သူသွားပြီ။ ဝင်းထဲမှာ ဆရာစောင့်နေတာ အဆုံးသတ်လိုက်တာနဲ့တစ်ပြိုင်နက် ကလမ် သွားလို့ရသွားတာပဲ။ ဒါပေမဲ့ သူ ဘယ်လောက် သတိထားတယ်ဆိုတာ မဒမ် သိသလား။ သူ သတိထားပြီး အရိပ်အကဲ တ ကြည့်ကြည့်နဲ့ သွားတယ်"

ယင်းစကားကို အမျိုးသမီးက သိပ်အမှုထားဟန် မရှိပါ။ သို့သော် လူကြီး မင်းက ဆက်ပြောသည်။

"ဒါပေမဲ့ သူ ဘာမှတွေ့မသွားဘူး။ နှင်းပွင့်တွေပေါ်က ခြေရာတွေကိုပါ

စွတ်ဖားဆရာက ဖျက်ပစ်လိုက်ပြီ"

"မဒမ်က တစ်ခု သတိမပြုလိုက်မိဘူး"

ကေက ပြောလိုက်သည်။

"အဲဒီအချိန်တုန်းက သော့ပေါက်ကနေ ကျွန်မ ကြည့်နေလို့ပေါ့။ ဒါပေမဲ့ သူ ဘာကြောင့် သတိထားနေတယ်ဆိုတာ ကျွန်မတို့ မယုံနိုင်ဘူး။ ကျွန်မတို့ သူ့အတွက် ပူပန်ကြရမယ်။ သူ့ကို စောင့်ရှောက် ကာကွယ်ရမယ်။ ဒါဟာ ကလမ်ရဲ့ဆန္ဒပဲဖြစ်လိမ့်မယ်။ ဘာဖြစ်လို့ ဒီလိုဖြစ်တယ်ဆိုတာတော့ ကျွန်မတို့ မသိဘူး။ တစ်ခုပဲရှိတယ်။ ကလမ်က သူ စကားမပြောချင်ရင် ဘယ်သူနဲ့မှ မ ပြောဘူး။ မြေတိုင်းစာရေးကို သူ စကားပြောမှာ မဟုတ်ဘူး။ တစ်ဖက်ကလူ က ဘယ်လောက်ပဲ ကြိုးစားကြိုးစား သူ ပြောမှာမဟုတ်ဘူး။ သူ့ဆီကို ဘယ်တော့မှ အလာခံမှာမဟုတ်ဘူး"

လူကြီးမင်းက ခေါင်းညိတ်လိုက်ပြီး

"ကျွန်တော့်အမြင် အဲဒီအတိုင်းပဲ။ ကျွန်တော် နည်းနည်းဖြည့်ပြီး ပြောရ ရင် မြေတိုင်းစာရေးကို သူ လုံးဝတွေ့မှာ မဟုတ်ဘူး။ ကလမ်ဟာ အပြင်ကို ထွက်သွားတော့ ဘေးပတ်ပတ်လည်ကို အကြိမ်ကြိမ်ကြည့်တယ်"

"ကျွန်တော့်ကို ရှာတာဖြစ်မှာပေါ့"

ကေ ပြောလိုက်သည်။ လူကြီးမင်းက

"ဖြစ်နိုင်တာပေါ့၊ အဲဒါကို ကျွန်တော် မစဉ်းစားမိဘူး"

သူတို့အားလုံး ရယ်ကြသည်။ ဘာပြောလိုက်မှန်းကို မသိသော ပက်ပီက အကျယ်လောင်ဆုံး ဖြစ်သည်။ လူကြီးမင်းက ဆက်ပြောသည်မှာ

"ကျွန်တော်တို့ အခု အားလုံး ဒီမှာ ပျော်နေကြတယ်။ အဲဒီတော့ မြေတိုင်း စာရေးကြီး၊ ကျွန်တော် အလေးအနက် တောင်းပန်ချင်တာ တစ်ခုရှိတယ်။ ကျွန်တော့်ရဲ့ စာရွက်စာတမ်းတွေကို ဖြည့်ရအောင်။ ကျွန်တော် မေးတာတစ် ခု ဖြေပေးပါလား"

"ရေးထားတာတွေက အများကြီးပါလား"

စာရွက်စာတမ်းတွေကို သူ မတ်တတ်ရပ်နေရာမှ လှမ်းကြည့်ရင်း ကေ ပြောလိုက်သည်။

"ဟုတ်တယ်၊ အတော့်ကို ငြီးငွေ့စရာကြီးပဲ" လူကြီးမင်းက ရယ်မောလိုက် ပြန်ရင်း ပြောသည်။ "ဒါပေမဲ့ ကျွန်တော် ဘယ်သူဆိုတာ ဆရာ မသိသေးဘူး။ ကျွန်တော်က ကလမ်ရဲ့ ကျေးရွာအတွင်းရေးမှူး မိုမက် ပါ"

ဒီစကားကိုကြားလိုက်ရသောအခါ တစ်ခန်းလုံး အလေးအနက် ဖြစ်သွားသည်။

တည်းခိုခန်းပိုင်ရှင်ကတော်နှင့် ပက်ပီတို့သည် လူကြီးမင်း မည်သူ နည်း ဆိုသည်ကို သိကြသော်လည်း ယခုကဲ့သို့ နာမည်နှင့် အဆင့်အတန်း ကို ထုတ်ပြောလိုက်သောအခါ ချောက်ချားသွားကြဟန် ရှိသည်။

လူကြီးမင်းကိုယ်တိုင်ပင်လျှင် သူ ပြောသင့်သည်ထက် ပိုပြီးပြောမိသွား ဟန်ရှိလျှင် ဘာမှမပြောတော့ဘဲ စာကိုသာ ကုန်းပြီး ရေးနေသည်။ သို့ဖြင့် အခန်းထဲတွင် ကလောင်သွားခြစ်သံမှ လွဲ၍ ဘာမျှမကြားရတော့ပါ။

"ကျေးရွာအတွင်းရေးမှူးဆိုတာက ဘာလဲ"

ကေက မေးလိုက်သည်။

သူ၏အဖြစ်ကိုထုတ်ဖော်လိုက်သော မိုမက်သည် ဤမေးခွန်းကို သူကိုယ်တိုင် ဖြေရန်မလိုဟု တွက်ထားပုံရသည်။ သူ့အစား ပိုင်ရှင်ကတော်က ဝင်ဖြေသည်။

"ဟာရ်မိုမက်ဟာ ကလမ်ရဲ့ တခြားအတွင်းရေးမှူးတွေလိုပဲ၊ အတွင်းရေးမှူး တစ်ယောက်ပဲ။ ဒါပေမဲ့ သူ့ရဲ့တရားဝင်နယ်မြေက အဲ ကျွန်မပြောတာ မမှားခဲ့ရင် သူ့ရဲ့တရားဝင်တာဝန်က"

စာရေးနေဆဲဖြစ်သော မိုမက်က ခေါင်းခါလိုက်သည်။ အမျိုးသမီးက စကားလုံးကို ပြင်ပြောသည်။

"အဲ တရားဝင်တာဝန်က မဟုတ်ဘူး၊ တရားဝင်နယ်မြေက ကျေးရွာနဲ့လည်း ဆိုင်တယ်။ ဟာရ်မိုမက်က ကျေးရွာအတွက် လိုအပ်တဲ့ ကလမ်ရဲ့ ရုံး လုပ်ငန်းတွေကို ပို့ပေးတယ်။ ကျေးရွာကပို့တဲ့ အသနားခံစာတွေကို ကလမ် ရဲ့လက်ထောက်တွေက လက်ခံကြတယ်"

ဤအကြောင်းအချက်များကို သဘောပေါက်ဟန်မရှိသော ကေက အမျိုး သမီးကို ငေးကြောင်ပြီး ကြည့်နေသည်။ အမျိုးသမီးက ကသိကအောက် ဖြစ်ဟန်ဖြင့် ပြောသည်။

"ဒါ စီစဉ်ထားတဲ့ လုပ်ငန်းပုံစံပဲ။ ရဲတိုက်ကြီးမှာရှိတဲ့ လူကြီးမင်းတိုင်းမှာ သူတို့ရဲ့ ကျေးရွာ အတွင်းရေးမှူးတွေ ရှိကြတယ်" ကေထက်ပိုပြီး ဂရုတစိုက် နားထောင်နေသော မိုမက်က အမျိုးသမီးကို နောက်ဆက်တွဲ အချက်အလက်တွေ ဖြည့်ပေးသည်။

"ကျေးရွာအတွင်းရေးမှူး တော်တော်များများဟာ လူကြီးမင်းတစ်ယောက် အတွက်ပဲ အလုပ်လုပ်ပေး ကြတယ်။”

“ဒါပေမဲ့ ကျွန်တော်က လူကြီးမင်းနှစ်ယောက် အတွက် လုပ်ပေးရတယ်။ ကလမ်နဲ့ ဗယ်လာဘီနီ အတွက်ပဲ။ အဲဒီတော့ ကျွန်တော်က ကျေးရွာအတွင်းရေးမှူး နှစ်ထပ်ကွမ်းပဲ"

"တကယ် နှစ်ထပ်ကွမ်းပဲ"

ကေက ပြောလိုက်သည်။ ထို့နောက် သူ၏နာရီကို ကြည့်ကာ

"ကျွန်တော်က ခု အိမ်ပြန်တော့မှဖြစ်မယ်"

"ဟုတ်တယ်။ ခင်ဗျားမှာ ကျောင်းအလုပ်တွေ ရှိသေးတာပဲ။ ဒါပေမဲ့ ခဏလောက် နေပါဦး၊”

“မေးခွန်းတိုတိုကလေးတွေ ဖြေပေးပါဦး"

"ကျွန်တော့်မှာ ဖြေချင်စိတ်မရှိဘူး"
ကေက ယင်းသို့ပြောပြီး တံခါးဆီသို့ လျှောက်သွားသည်။
မိုမက်က စာရွက်တစ်ရွက်ကို စားပွဲပေါ်ချလိုက်ပြီး မတ်တတ် ထရပ်လိုက်သည်။
"ကလမ်ရဲ့အမိန့်နဲ့ ဒီမေးခွန်းတွေကို ဖြေဖို့ ခင်ဗျားကို ကျွန်တော် ဆင့်ခေါ် တယ်"
"ကလမ်ရဲ့ အမိန့်နဲ့၊ ဟုတ်လား။ ဒါဆိုရင် သူ ကျွန်တော့်ကိစ္စကို စာရေး ထားလို့လား"
"အဲဒါနဲ့ပတ်သက်လို့ပြောရရင်တော့ ကျွန်တော်တို့ ဘာမှမသိဘူး။ ဒါက သူ့သဘောပဲလို့ ကျွန်တော်တို့ သဘောထားတယ်။ ဒါပေမဲ့ ကလမ်ပေးထား တဲ့ အခွင့်အာဏာအရ ခင်ဗျားကို မေးခွန်းတွေ ဖြေပါလို့ ကျွန်တော် အမိန့် ပေးတယ်"
"မြေတိုင်းစာရေးကြီး" တည်းခိုခန်းပိုင်ရှင်ကတော်က ပြောလိုက်သည်။"ဆရာ့ကို ကျွန်မ နောက်ထပ် အကြံသစ်တွေ မပေးချင်ပါဘူး။ အခုထိ ကျွန်မပေးထားတဲ့ အကြံတွေကလည်း ဆရာ့အနေနဲ့ အကောင်းဆုံးရရှိထားတဲ့ အကြံဉာဏ်တွေပဲ။ ဆရာ့ အနေနဲ့ ဘယ်လိုမှ လိုက်နာခြင်း မရှိတာ တွေ့ရတယ်။ အခု ကျွန်မ ဟာရ်မိုမက်ဆီကို လာတာကလည်း ကျွန်မအနေနဲ့ ဘာမှ ဖုံးကွယ်ထားစရာမရှိပါဘူး။ ဆရာရဲ့အပြုအမူတွေ နဲ့ ရည်ရွယ်ချက်တွေကို ရုံးတော်ကို တင်ပြဖို့ပါပဲ။ ဆရာ့ကို ကူညီတဲ့အနေနဲ့ ကျွန်မ ပြောနိုင် တာကတော့ ကလမ်ဆီကိုရောက်နိုင်တဲ့ တစ်ခုတည်းသော လမ်းကတော့ ဟာရ်မိုမက်ရဲ့ စာရွက်စာတမ်းတွေက တစ်ဆင့်ပဲဖြစ်တယ်။ ဒါပေမဲ့ ကျွန်မ ဒါ့ထက်ပိုပြီး မပြောချင်ပါဘူး။ ဒီလမ်းကလည်း ဆရာ့အနေနဲ့ ကလမ်ထက် ကျော်လွန်ပြီး မရောက်နိုင် ပါဘူး။ သူ့လက်ထဲကို မရောက်ခင်မှာပဲ ရပ်သွားမှာပဲ။ ဟာရ်မိုမက် ရေးသားချက်က အဆုံးအဖြတ် ပေးလိမ့်မယ်။ ဒါပေမဲ့ ကလမ်ဆီကို ဦးတည်တဲ့ လမ်းကတော့ ဒီလမ်းပဲ ရှိတယ်။ ဒီလမ်းကို ဆရာ ငြင်းမယ်ဆိုရင်တော့ ဘာကြောင့်မှမဟုတ်ဘူး၊ မာနကြောင့်ပဲ မဟုတ်လား"
"အို မဒမ်၊ ဒါဟာ ကလမ်ဆီကိုသွားတဲ့ တစ်ခုတည်းသော လမ်းမဟုတ်ဘူး။ တခြားလမ်းတွေထက် ပိုကောင်းတဲ့လမ်းလည်း မဟုတ်ပါဘူး။ ဒါပေမဲ့ ဒီပြဿနာကို အတွင်းရေးမှူးကြီး ဆုံးဖြတ်စမ်းပါ။ ကျွန်တော် အခုပြောတဲ့ စကားတွေက ကလမ်ဆီကို ရောက်နိုင်သလား၊ မရောက်နိုင်ဘူးလား"
"ရောက်နိုင်ပါတယ်။ နို့မဟုတ်ရင် ကျွန်တော် ဒီမှာ ဘာဖြစ်လို့ အတွင်းရေးမှူး လုပ်နေရသလဲ"
မိုမက်က ပြောလိုက်သည်။
ပိုင်ရှင်ကတော်က
"ကျွန်မက ဒီလမ်းကို ဆရာ့အတွက် ဖွင့်ပေးချင်တာပဲ။ ဆရာရဲ့ တောင်းဆို မှုကို ကလမ်ဆီ ပို့ပေးမယ်လို့ ကျွန်မ မနက်က ပြောခဲ့တယ် မဟုတ်လား။ အဲဒါက

ဟာရ်မိုမက်ကနေ တစ်ဆင့် ပို့ပေးမှာပဲ။ ဆရာ့အဖို့ ဒီလမ်းကလွဲလို့ တခြားလမ်း မရှိဘူး"

"အမျိုးသမီးပြောတာ မှန်သလား အတွင်းရေးမှူး။ ကျွန်တော် အခု အတွင်းရေးမှူးမေးတာတွေကို ထိုင်ပြီးဖြေလိုက်ရင် ကလမ်ဆီကို ဝင်ခွင့်ရ မလား။ ဒါဆိုရင် အတွင်းရေးမှူး မေးတာတွေကို ကျွန်တော် ချက်ချင်းပဲ ဖြေလိုက်မယ်။ ဒီလမ်းကို လိုက်ဖို့ ကျွန်တော် အဆင်သင့်ပဲ"

"မမှန်ပါဘူး။ အခု စာရင်းရေးသွင်းတာက ကလမ်ရဲ့ မှတ်ပုံတင်စာအုပ်မှာ ကနေ့ညနေပိုင်း ဘာတွေဖြစ်တယ်ဆိုတာကို ရေးသွင်းဖို့ပဲ။ မှတ်တမ်းက ပြည့်စုံနေပါပြီ။ ဆရာအနေနဲ့ အချက် နှစ်ခု သုံးခုကို ဖြည့်ပေးဖို့ပါပဲ။ အခြား ဘာရည်ရွယ်ချက်မှ မရှိပါဘူး။ ဘာရည်ရွယ်ချက်မှလည်း မရနိုင်ပါဘူး"

မိုမက်က ပြန်ပြောသည်။

"ကလမ်က ဒီစာရွက်စာတမ်းတွေကို ဖတ်သလား"

ကေက အတွင်းရေးမှူးကို မေးလိုက်သည်။

"မဖတ်ပါဘူး။ သူက ဘာဖြစ်လို့ ဖတ်ရမှာလဲ။ စာရွက်စာတမ်းတွေ အားလုံးကို ကလမ် မဖတ်နိုင်ပါဘူး။ အမှန်ပြောရရင် တစ်ခုမှ မဖတ်ပါဘူး။ {မင်းရဲ့ စာရွက်စာတမ်းတွေ ငါ့ဆီကို မပို့နဲ့) လို့ သူ အမြဲတမ်း ပြောလေ့ရှိ တယ်"

"ကောင်းသော ညပါ။ ဘယ်လိုမျိုး စုံစမ်းမေးမြန်းတာကိုမှ ကျွန်တော်က ကန့်ကွက်စရာ မရှိပါဘူး"

ကေက ယင်းသို့ပြောပြီး တံခါးပေါက်ဆီသို့ လျှောက်သွားသည်။

"သူသွားပြီ"

မိုမက်က အမျိုးသမီးကို စိုးရိမ်ကြောင့်ကြစွာနှင့် ပြောလိုက်သည်။

"သူ မသွားရဲပါဘူး"

ကေ ဘာမျှ မကြားတော့ပါ။ သူက ဆိုင်ရှေ့ခန်းမဆောင်သို့ ရောက်ရှိနေပြီဖြစ်သည်။ အေးစက်ပြီး လေပြင်းတိုက်ခတ်နေသည်။

မျက်နှာချင်းဆိုင် တံခါးပေါက်မှနေပြီး တည်းခိုခန်းပိုင်ရှင် ဝင်လာသည်။ သူက ချောင်းကြည့်ပေါက် တစ်ခုမှနေပြီး ချောင်းကြည့်နေဟန်ရှိသည်။ သူက ကုတ်အင်္ကျီ ကြီးကို တင်းနေအောင် ဆွဲပတ်ထားရသည်။ ခန်းမကြီး ထဲတွင် လေက ပြင်းထန် လှသည်။

"မြေတိုင်းစာရေးကြီး သွားတော့မလား"

"ခင်ဗျား အံ့သြသွားသလား"

ကေက ပြန်မေးလိုက်သည်။

"ဟုတ်တယ်၊ ဆရာ့ကို မစုံစမ်း မမေးမြန်းဘူးလား"

"မမေးဘူး၊ ကျွန်တော်က အမေးမခံဘူး"

"ဘာဖြစ်လို့လဲ"

"မသိဘူး၊ ကျွန်တော်က ဘာဖြစ်လို့ အမေးမြန်းခံရမှာလဲ။ ရယ်စရာ

လုပ်တာတွေ၊ စိတ်ကူးပေါက်ရာ လုပ်တာတွေကို ကျွန်တော် ဘာဖြစ်လို့ အမေးခံရမှာလဲ။ တစ်နေ့နေ့ကျရင်တော့ ကျွန်တော့်အနေနဲ့ ရယ်စရာလုပ်တဲ့အနေနဲ့၊ စိတ်ကူး ပေါက်ရာလုပ်တဲ့အနေနဲ့ အမေးခံမယ်။ ကနေ့တော့ မဟုတ်ဘူး"

"ဟုတ်ပါပြီ၊ ဟုတ်ပါပြီ"

သူက ယဉ်ကျေးမှုအရ သဘောတူလိုက်သည်။ သို့သော် သဘောပေါက်သည်တော့ မဟုတ်ပါ။

"အလုပ်သမားတွေကို ယမကာခန်းထဲကို သွားခိုင်းတော့မယ်။ သူတို့ အများကြီး နောက်ကျနေကြပြီ။ ကျွန်တော်က စုံစမ်းမေးမြန်းတာကို အနှောင့်အယှက် မဖြစ်စေချင်လို့"

"ခင်ဗျားက ဒါကို သိပ်အရေးကြီးတယ်လို့ ထင်သလား"

ကေက မေးလိုက်သည်။

"ဟုတ်ကဲ့" သူက ပြန်ဖြေသည်။

"ကျွန်တော် မငြင်းရဘူးလား"

"ဟုတ်ကဲ့၊ ဆရာ မငြင်းရဘူး"

ကေ တိတ်ဆိတ်နေသည်ကို တွေ့သောအခါ သူ ဆက်ပြောသည်။ ကေ့ အား နှစ်သိမ့်လို၍လည်း ဖြစ်နေသည်။ မြန်မြန်သွားစေချင်၍လည်း ဖြစ် နိုင်သည်။

"ကောင်းကောင်းမိုးရွာမယ်တော့ မထင်ဘူး"

"မရွာပါဘူး။ ရာသီဥတုအခြေအနေက ရွာမယ့်ပုံ မရှိပါဘူး"

ကေက ပြန်ပြောသည်။

ထို့နောက် သူတို့ ရယ်မောပြီး လူချင်းခွဲလိုက်ကြသည်။

လေတဟူးဟူးတိုက်နေသော လမ်းပေါ်သို့ ကေ ထွက်လိုက်ပြီး အမှောင်တွင်းသို့ အားစိုက်ပြီး ကြည့်လိုက်သည်။ ရာသီဥတုက ဆိုးဝါးကြမ်းတမ်းလှသည်။ လမ်းမကြီးအတိုင်း သူအနည်းငယ်လျှောက်မိသောအခါ အဝေးဆီတွင် လှုပ်ယမ်းနေသော အလင်းရောင်နှစ်ခုကို သူ တွေ့မြင်ရသည်။ ဤအသက်ဝင် လှုပ်ရှား မှုကို သူ တွေ့မြင်ရသောအခါ သူ ပျော်ရွှင်သွားပြီး အလင်းများဆီသို့ ခပ်မြန်မြန် လျှောက်သွားသည်။ ယင်းတို့ကလည်း သူ့ ထံသို့ လာနေကြသည်။

လက်ထောက်နှစ်ယောက်ကို တွေ့မြင်လိုက်ရသောအခါ သူ ဘာကြောင့် စိတ်ပျက် သွားရသည်ကို သူ မပြောနိုင်ပါ။ သူတို့က သူ့ကို လာပြီးတွေ့ကြသည်။ ဖရီဒါက လွှတ်လိုက်ခြင်းပင်ဖြစ်သည်။

လက်ဆွဲမှန်အိမ်နှစ်လုံးမှ အလင်းရောင်များက အမှောင်ထဲမှ သူ့ပတ်ပတ်လည်သို့ ကျရောက်သည်။ သို့တစေလည်း သူ စိတ်ပျက်လျက်ပင် ရှိသည်။ သူက အခြားတစ်ခုကို မျှော်လင့်နေခြင်း ဖြစ်သည်။ သူ့အပေါ်တွင် ဝန်ထုပ်ဝန်ပိုးကြီးတစ်ခု ဖြစ်သော သူတို့ကို မျှော်လင့်ထားခြင်းမဟုတ်ပါ။

သို့သော် လက်ထောက်များသည် သူတို့ချည်းမဟုတ်။ သူတို့နှစ်ယောက်၏ ကြား အမှောင်ထဲကနေပြီး ဗာနေဗက် ထွက်လာသည်။

"ဗာနေဗက်၊ ခင်ဗျား ကျွန်တော့်ကို လာတွေ့တာလား"

သူက လက်တစ်ဖက်ကို ဆန့်တန်းပေးရင်း မေးလိုက်သည်။

"ခင်ဗျားကိုတွေ့ရအောင်လာတာပဲ။ ကလမ်ဆီက စာတစ်စောင်ပါတယ်"

သူက ယခင်ကအတိုင်း မိတ်ဆွေတစ်ယောက်လို ပြောသည်။

"ကလမ်ဆီက စာတစ်စောင်၊ ဟုတ်လား" သူက ခေါင်းမော့လိုက်ပြီး

"ဒီမှာပဲ ပြကြစမ်း"

သူ့လက်ထောက်များကို ပြောလိုက်သည်။ သူတို့က လက်ဆွဲမှန်အိမ်ကို မြှောက်ပြရင်း သူ့ဘေး တစ်ဖက်တစ်ချက်တွင် ကပ်လျက်သား ရှိနေကြသည်။

ကေက လေတိုက်နေသဖြင့် စာရွက်ကြီးကိုခေါက်ပြီး ကိုင်ထားရသည်။

စာကို သူဖတ်သည်။

"တံတားတည်းခိုခန်းသို့၊ ကေ ခင်ဗျား... ခင်ဗျားလုပ်ဆောင်ထားတဲ့ တိုင်းတာမှုတွေကို ကျွန်တော် သဘောကျတယ်။ လက်ထောက်နှစ်ယောက် ရဲ့လုပ်ဆောင်ချက်တွေကလည်း ချီးကျူး ထိုက်ပါတယ်။ သူတို့ကို ဘယ်လို ခိုင်းရမယ် ခင်ဗျားသိတာပဲ။ သူတို့ရဲ့လုပ်ဆောင်ချက်တွေကို လျှော့မသွား စေနဲ့။ ခင်ဗျားရဲ့အလုပ် တွေကို ကောင်းကောင်းမွန်မွန်ပြီးသွားအောင် လုပ်ပါ။ တစ်ခုခု ကြားပြတ်သွားမှာကို ကျုပ် သဘောမကျဘူး။ ကျန်တာ ကတော့ ခင်ဗျား စိတ်အေးအေးထားပါ။ လစာ ကိစ္စကို လောလောဆယ်ပဲ ဆုံးဖြတ်ပါ့မယ်။ ခင်ဗျားကို ကျုပ် မေ့မထားပါဘူး"

သတင်းကောင်းအတွက် လက်ထောက်တွေက လက်ဆွဲမှန်အိမ်တွေကို မြှော့ယမ်းပြီး ကျယ်လောင်စွာ ဟစ်အော်လိုက်ကြစဉ်တွင် ကေက စာဖတ် နေရာမှ ခေါင်း ကိုသာ မော့လိုက်သည်။

"တိတ်ကြစမ်း"

ကေက သူ့လူတွေကို ပြောလိုက်ပြီး ဗာနေဗက်ကို

"နားလည်မှုတစ်ခု လွဲနေတယ်"

ကေ၏စကားကို ဗာနေဗက် သဘောပေါက်ဟန်မရှိ။

"နားလည်မှုတစ်ခု လွဲနေတယ်"

ကေက ထပ်ပြီးပြောလိုက်သည်။

နေ့လယ်ပိုင်းက ပင်ပန်းနွမ်းနယ်မှုသည် တစ်ကျော့ ပြန်လာတော့သည်။ ကျောင်းကို သွားရာလမ်းက ရှည်လျားလှသည်။ ဗာနေဗက်၏ မိသားစုတစ် ခုလုံးကို သူ မြင်ယောင်နေမိသည်။ လက်ထောက်နှစ်ယောက်သည် သူ့ နောက်မှ အတင်းကပ်ပြီး လိုက်ပါနေကြသဖြင့် သူက တံတောင်နှင့် တွန်း ဖယ်ပစ်ရသည်။ သူတို့နှစ်ယောက်ကို ဖရီဒါနှင့် အတူနေကြရန် မိမိ မှာကြား ခဲ့ပါလျက် သူမက အဘယ့်ကြောင့် သူတို့ကို လွှတ်လိုက်ရသနည်း။ သူတို့နှင့် အတူ အိမ်ပြန်ရမည့်အစား အေးအေးဆေးဆေး တစ်ယောက်တည်း ပြန်ချင်သည်။ အခြေအနေကို ပို၍ဆိုးစေသည်က သူတို့နှစ်ယောက် အနက် တစ်ယောက်သည် လည်ပင်းမှာ တဘက်ကြီး ပတ်ထားသည်။ တဘက်အစ တွေက လေထဲမှာ လွင့်နေပြီး ကေ၏မျက်နှာကို အကြိမ်ပေါင်းများစွာ လာပြီး ရိုက်ကြသည်။ တစ်ယောက်က တဘက်စတွေကို ဖြေပေးနေ သော်လည်း အကြောင်း မထူးလှပါ။

"သွားကြစမ်း" ကေ အော်လိုက်သည်။ "မင်းတို့ ငါ့ကို လာကြိုကြတာဆို ရင် ဘာဖြစ်လို့ ငါ့ရဲ့တုတ်ကို ယူမလာကြတာလဲ။ ငါ မင်းတို့ကို အိမ်ပြန်ဖို့ ဘာနဲ့မောင်းရ မှာလဲ"

နှစ်ယောက်သား ဗာနေဗက်၏နောက်မှာ ပုသွားကြသည်။ သို့သော် သူတို့ နှစ်ယောက် တကယ်တော့ ကြောက်ကြပုံမရပါ။ လက်ဆွဲမှန်အိမ်များကို ကေ၏ ပခုံးပေါ်မှာ တင်လိုက်ကြသည်။ ဘယ်တစ်ခု ညာတစ်ခုဖြစ်သည်။ ကေက မှန်အိမ်များကို ချက်ချင်း ခါထုတ်ပစ်လိုက်သည်။

"ဗာနေဗက်၊ ဒီမှာ ကလမ် ဘာရေးတယ်ဆိုတာ ကြည့်စမ်း"

သူက ဗာနေဗက်၏မျက်နှာရှေ့တွင် စာကိုပြရင်း ပြောလိုက်သည်။

"သူက သတင်းမှားတွေ ရထားတာပဲ။ မြေတိုင်းတဲ့ အလုပ်ကို ကျွန်တော် ဘာမှမလုပ်ရသေးဘူး။ လက်ထောက်တွေ ဘယ်လောက်အသုံးဝင်တယ် ဆို တာလည်း ခင်ဗျားမျက်မြင်ပဲ။ နောက်ပြီးတော့ ကျွန်တော်က အလုပ်ကို ဘယ်လိုမှ ကြားမဖြတ် နိုင်ဘူး။ ဘာဖြစ်လို့လဲဆိုတော့ အလုပ်က ဘာမှမ လုပ်ရသေးဘူး။ လူကြီးမင်းက မကြိုက်တာကိုလည်း ကျွန်တော် ဘယ်လိုမှ စိတ်မလှုပ်ရှားဘူး။ အဲဒီတော့ သူကြိုက်တာ ကိုလည်း ကျွန်တော် ဘယ်တော့မှ ရမှာမဟုတ်ဘူး။

ကျွန်တော် သိထားတာကတော့ အဲဒီအဖြစ် ကို ကျွန်တော် ဘယ်တော့မှလည်း ရမှာမဟုတ်ဘူး"

"အဲဒါကို ကျွန်တော် လုပ်ပါ့မယ်"

ဗာနေဗက်က ပြောသည်။ သူက တစ်ချိန်လုံး စာကိုကျော်ပြီး ငေး နေသည်။ စာကို သူမဖတ်ပါ။ အကြောင်းမှာ စာကို သူ့မျက်နှာအနီး အရမ်း ကပ်ထားသောကြောင့် ဖြစ်သည်။

"အဲဒီကိစ္စကို ကျွန်တော် လုပ်ပါ့မယ်လို့ ခင်ဗျားက ကျွန်တော့်ကို ကတိ ပေးထားတယ်။ ခင်ဗျားကို ကျွန်တော် တကယ်ယုံရမှာလား။ ကျွန်တော့်မှာ ယုံကြည်စိတ်ချရတဲ့ ဆက်သားတစ်ယောက် လိုနေတယ်။ အခုအခါ အရင် ကထက် ပိုပြီး လိုနေတယ်"

ကေက စိတ်မရှည်ဟန်ဖြင့် သူ၏နှုတ်ခမ်းများကို ကိုက်ထားသည်။

ဗာနေဗက်က ခေါင်းကို ညင်သာစွာ ညွှတ်လျက်"ဆရာ၊ ကျွန်တော် အသေအချာ လုပ်ပါ့မယ်။ နောက်ပြီးတော့ ဆရာ အ ရင်တစ်ခါပေးလိုက်တဲ့ အကြောင်းကြားချက်ကိုလည်း ကျွန်တော် ပို့ပေးပါ့မယ်”

"ဘာပြောတယ်၊ ခင်ဗျား အဲဒီအကြောင်းကြားချက်ကို အခုထက်ထိ မပို့ရ သေးဘူးလား။ နောက်တစ်နေ့မှာ ရဲတိုက်ကြီးကို ခင်ဗျား မသွားဘူးလား"

ကေ အော်လိုက်သည်။

"မသွားဖြစ်ပါဘူးခင်ဗျာ၊ ကျွန်တော့်အဖေက အသက်ကြီးလှပါပြီ။ ဆရာ ကိုယ်တိုင် သူ့ကို တွေ့ပါတယ်။ အဲဒီနောက်မှာ အလုပ်တွေ အလွန်အမင်း များနေ ပါတယ်။ ကျွန်တော် သူ့ကို ကူညီရပါတယ်။ ဒါပေမဲ့ မကြာခင်မှာပဲ ရဲတိုက်ကြီးကို ကျွန်တော် နောက်တစ်ခေါက် သွားပါ့မယ်" "ခင်ဗျား ဘာတွေလုပ်နေတာလဲ။ ခင်ဗျားဟာ ဘယ်လိုမှနားမလည်နိုင်တဲ့ လူပဲ။ ကလမ်ရဲ့ကိစ္စကို ရှေ့ဆုံးက ထားရမယ်မဟုတ်လား။ ခင်ဗျားဟာ အရေးကြီးတဲ့ နေရာမှာ ရှိနေတယ်။ ခင်ဗျားဟာ ဆက်သားတစ်ယောက်ပဲ။ ဒါပေမဲ့ ခင်ဗျားဟာ ကိုယ့်အလုပ် ကိုယ်မလုပ်ဘူး။ ခင်ဗျားအဖေရဲ့ ကိစ္စက ဘာအရေးကြီးသလဲ။ ကလမ်က ဒီအကြောင်းကြားချက်ကို စောင့်နေတယ်။ ဒါကို သူ့ဆီကို မြန်မြန်ပို့ပါ။ ပြဿနာတွေ ရှင်းချင်တယ်ဆိုရင်"

"ကျွန်တော့်အဖေက ဖိနပ်ချုပ်သမားပါ။ ဘရန်ဆွစ်က အမှာစာတွေ ရတယ်။ ကျွန်တော်က အဖေ့ရဲ့လက်ထောက်ပါ"

ဗာနေဗက်က တည်ငြိမ်စွာပြန်ပြောသည်။

ကေက

"ဘရန်ဆွစ်က ဖိနပ်အမှာစာတွေ၊ ဟုတ်လား။ လူရှင်းနေတဲ့ ဒီလမ်းတွေ ပေါ်မှာ ဘယ်သူတွေက ဖိနပ်တွေလိုလို့လဲ။ ဒီဖိနပ်တွေနဲ့ ကျွန်တော်နဲ့ ဘာဆိုင်သလဲ။ ခင်ဗျားကို စာတစ်စောင်ပို့ပေးဖို့ ကျွန်တော် ယုံကြည်စိတ်ချစွာနဲ့ လွှဲထားတယ်။ ဒါကို ခင်ဗျား ခေါက်ထားဖို့ မဟုတ်ဘူး။ အဲဒါ ကလမ်ဆီကို ချက်ချင်းပို့ပေးဖို့ပဲ"

ယခုအခါ ကလမ်သည် ရဲတိုက်ကြီးတွင် မဟုတ်ဘဲ ဟာရင်ဟော့ တည်းခို

ခန်းတွင်ရှိကြောင်း သတိရသဖြင့် ကေ အနည်းငယ် စိတ်တည်ငြိမ်သွားသည်။ သို့သော် ဗာနေဗက်က သူ့ကို ထပ်ပြီး စိတ်အနှောင့်အယှက် ပေးလိုက်ပြန်သည်။ ပထမ အကြောင်း ကြားချက်ကို သူ မမေ့ကြောင်း အလွတ်ရွတ်ပြနေသည်။

"တော်ပြီ၊ ကျွန်တော် နောက်ထပ် ဘာမှမကြားချင်တော့ဘူး"

"ကျွန်တော့်ကို စိတ်မဆိုးပါနဲ့ဆရာ"

ဗာနေဗက် မျက်လွှာချပြီး ပြောလိုက်သည်။

"ကျွန်တော် ခင်ဗျားကို စိတ်ဆိုးတာ မဟုတ်ပါဘူး။ အခုလို အရေးကြီးတဲ့ ကိစ္စ တွေအတွက် ခင်ဗျားလို ဆက်သားတစ်ယောက်ရတာ ကျွန်တော့်အဖို့ မကောင်းတာပဲ"

"ဒီလိုပါဆရာ" ဗာနေဗက်က သူ့ကိုယ်သူ ကာကွယ်သောအားဖြင့် သူ ပြောသင့်တာထက် ပိုပြီး ပြောလိုက်သည်။ "ကလမ်က ဆရာရဲ့ အကြောင်းကြားချက်ကို စောင့်မနေပါဘူး။ ကျွန်တော်ရောက်သွားတဲ့အခါ သူက စိတ်ဆိုးပါတယ်။ နောက်ထပ် {အကြောင်းကြားစာတစ်စောင် လာ ပြန်ပြီလား} လို့ သူ တစ်ခါက ပြောဖူးပါတယ်။ ကျွန်တော်လာတာကို ခပ် လှမ်းလှမ်းမှာမြင်ရရင် သူ ထိုင်ရာက ထပြီး တစ်ဖက်ခန်းထဲကို ဝင်သွားပါတယ်။ ကျွန်တော့်ကို လက်ခံပြီး မတွေ့ပါဘူး။ အကြောင်းကြားစာ အားလုံး ကို ကျွန်တော် ပို့ပေးရမယ်လို့ သတ်မှတ်ချက်မရှိပါဘူး။ ကျွန်တော် ဘာမှ သွားမပို့လို့ ကျွန်တော့်ကို ဘာမှပြောမှာမဟုတ်ပါဘူး။ အကြောင်းကြားစာတစ်စောင်ကို သွားပို့တာဟာ ကျွန်တော့်သဘောနဲ့ ကျွန်တော်ပါ"

"ဟုတ်ပြီ၊ ကောင်းပြီ။ ကျွန်တော့်ဆီက အကြောင်းကြားချက် စာတို ကလေး တစ်ခု ယူသွားပေးပါ။ အဲဒါကို မနက်ဖြန် ယူသွားပြီး မနက်ဖြန်မှာပဲ အဖြေကို ကျွန်တော့်ဆီ ပြန်ယူလာပေးမလား။ ဒါမှမဟုတ် အနည်းဆုံး ခင်ဗျားကို ဘယ်လို လက်ခံတယ်ဆိုတာ ပြောပြပေးပါလား။ အဲဒါကို ခင်ဗျား လုပ်နိုင်သလား။ အဲဒါကို ခင်ဗျားလုပ်ပေးမလား"

"ဆရာအမိန့်ပေးတဲ့အတိုင်း ကျွန်တော် လုပ်ပါ့မယ်"

ဗာနေဗက်က ပြန်ပြောသည်။

"ခင်ဗျား အတတ်နိုင်ဆုံးလုပ်ပါ။ အကြောင်းကြားချက်ကို ကလမ် ကိုယ်တိုင် ကိုပဲ ပေးပါ။ ကလမ်ကိုယ်တိုင် ဆီကလည်း ပြန်ကြားချက်ကို ရအောင် လုပ်ပါ။ အမြန်ဆုံး ချက်ချင်းလုပ်ပါ။ အမြန်ဆုံး ချက်ချင်းဆိုတာ မနက်ဖြန် မနက်ပဲ။ ခင်ဗျား လုပ်ပေးမလား"

"ကျွန်တော် အကောင်းဆုံး လုပ်ပါ့မယ်။ ဒါပေမဲ့ ကျွန်တော် အမြဲတမ်းပဲ ဒီအတိုင်းပဲ လုပ်ပါတယ်"

"ကျွန်တော်တို့ အငြင်းမပွားကြရအောင်။ အကြောင်းကြားချက်က ဒါပဲ"

"လူကိုယ်တိုင် တွေ့ဆုံခွင့်ပေးပါရန် ညွှန်ကြားရေးမှူးကို မြေတိုင်းစာရေး က မေတ္တာ ရပ်ခံပါတယ်။ တွေ့ဆုံခွင့်ပေးတဲ့နေရာမှာ ဘယ်လိုကြိုတင်

သတ်မှတ်ခြင်းမျိုးကို မဆို လက်ခံပါတယ်။ အခုလို မေတ္တာရပ်ခံရတာက ကြားခံကတစ်ဆင့် ဆောင်ရွက်တာတွေ အားလုံး မအောင်မြင်လို့ပါပဲ။ ဒါကို သက်သေပြရမယ် ဆိုရင်တော့ ကျွန်တော်ဟာ မည်သည့် မြေစာရင်း တိုင်းထွာမှုကိုမှ မလုပ်ရသေးပါဘူး။ ကျေးရွာဥက္ကဋ္ဌက ကျွန်တော့်ကို ပေး တဲ့ သတင်းမှာလည်း ဒီအလုပ်မျိုးလုပ်တာ မပါပါဘူး။ ညွှန်ကြား ရေးမှူးဆီက နောက်ဆုံးစာကို ကျွန်တော် ဖတ်ရတဲ့အခါမှာ စိတ်ပျက်ရပါတယ်။

ညွှန်ကြားရေးမှူးနဲ့ လူချင်းတွေ့ရခြင်းကသာ အဆင်ပြေပါလိမ့်မယ်။ လူချင်း တွေ့ဆုံတဲ့ အချိန်မှာ အချိန်ကန့်သတ်မှုကို ကျွန်တော် လက်ခံပါတယ်။ စကားဆယ်ခွန်းလောက် ပြောရရင် လုံလောက်ပါပြီ။

လူကြီးမင်းရဲ့ ဆုံးဖြတ်ချက်ကို ကျွန်တော် အထူး လေးစားစွာနဲ့ အလွန်အမင်း စိတ်မရှည်စွာနဲ့ စောင့်မျှော်နေပါတယ်"

ထို့နောက် ကေက ပြောလိုက်သည်။

"အကြောင်းကြားချက်က ကျွန်တော်ထင်တာထက် ရှည်သွားတယ်။ ဒါပေမဲ့ ဒါကို ခင်ဗျား အလွတ်ကျက်ပါ။ ကျွန်တော် စာတစ်စောင်အဖြစ် မ ရေးချင်ဘူး။ စာအဖြစ် ရေးခဲ့ရင် တခြားစာတွေလို မဆုံးနိုင်မပြီးနိုင် ဖြစ် သွားလိမ့်မယ်"

ဗာနေဗက်၏ရွတ်ဆိုမှုကို ကေက စာရွက်တစ်ရွက်ကို လက်ထောက်တစ် ယောက်၏ ကျောပေါ်မှာ တင်ပြီး ရေးသည်။ အခြားလက်ထောက်တစ် ယောက်က လက်ဆွဲ မှန်အိမ်ကို မြှောက်ပြသည်။ ဗာနေဗက်၏ ရွတ်ဆိုပြမှု က တစ်လုံးမကျန် မှန်ကန်သည်။

"ခင်ဗျားက တကယ့်ကို မှတ်ဉာဏ်ကောင်းတာပဲ" ကေက စာရွက်ကို ပေးရင်း ပြောလိုက်သည်။ "အဲဒီတော့ ခင်ဗျားဟာ တခြားနေရာတွေမှာပါ တကယ့်ကို တော်တယ်ဆိုတာကို ပြပါ။ ဘာပြောစရာရှိသေးသလဲ။ ဘာမှမရှိဘူး လား။ အကြောင်း ကြားချက်ရဲ့ ကံကြမ္မာနဲ့ ပတ်သက်ပြီးတော့ကော ဘာ ပြောချင်သလဲ"

ပထမတော့ ဗာနေဗက် နှုတ်ဆိတ်နေသည်။ ပြီးမှ

"ကျွန်တော့်ညီမတွေက ဆရာ့ကို နှုတ်ဆက်လိုက်ပါတယ်"

"ခင်ဗျားညီမတွေ၊ သြော်... ဟုတ်ပြီ၊ သူတို့က တကယ့်မိန်းကလေးတွေပဲ"

"နှစ်ယောက်စလုံးကပဲ နှုတ်ဆက်ကြတယ်။ ဒါပေမဲ့ အထူးသဖြင့် အမာလီ ယာ ကပေါ့။ နောက်ပြီးတော့ ဒီစာကို ရဲတိုက်ကြီးကနေ ယူလာတာ သူပဲ"

ဤသတင်းကို ကြားသိရသောအခါ ကေက မေးလိုက်သည်။

"ကျွန်တော့်ရဲ့အကြောင်းကြားစာကိုကော ရဲတိုက်ကြီးကို သူ ယူသွားလို့ ရမလား။ ဒါမှမဟုတ် ခင်ဗျားတို့နှစ်ယောက်စလုံး တစ်ယောက်ယောက်က သွားပြီး ပေးရင် ရမလား"

"ရုံးခန်းထဲကို အမာလီယာ ဝင်ခွင့်ရမှာမဟုတ်ဘူး။ တကယ်လို့ ဝင်ခွင့်ရတယ်ဆိုရင် သူ ဝမ်းမြောက်ဝမ်းသာ လုပ်မှာပေါ့"

ကေက..."မနက်ဖြန်ကျရင် ခင်ဗျားကို ကျွန်တော်က တွေ့ရင် ပထမဆုံး ခင်ဗျားက အဖြေကို ကျွန်တော့်ဆီကို ပေးရမယ်။ ခင်ဗျားကို ကျွန်တော် ကျောင်းကနေ စောင့်နေမယ်။ ခင်ဗျားညီမတွေကို ကျွန်တော်က နှုတ်ဆက်တယ်လို့ ပြော လိုက်ပါ"

ကေ၏ကတိစကားကြောင့် ဗာနေဗက် ပျော်သွားဟန်ရှိသည်။ သူတို့ လက်ဆွဲပြီး နှုတ်ဆက်လိုက်ကြသည်။

ကေသည် ယခုအခါ စိတ်ကောင်းဝင်လာသဖြင့် အပြန်ခရီးတွင် သူတို့ စိတ်ချမ်းသာသလို နေထိုင်ခွင့်ပေးလိုက်သည်။

တစ်ကိုယ်လုံး အေးစက်ပြီးမှ ကေ ကျောင်းကိုရောက်သွားသည်။ ညက မှောင်မိုက် လှသည်။ လက်ထောက်တွေကိုင်လာသော လက်ဆွဲမှန်အိမ်ထဲမှ ဖယောင်းတိုင်တွေလည်း ငြိမ်းကုန်ပြီ။ သူတို့က ဒီလမ်းကို ကျွမ်းဝင်နေပြီ ဖြစ်သဖြင့် ကေ့အား စာသင် ဆောင်တစ်ခု အတွင်းသို့ ခေါ်ဆောင်သွားသည်။

"မင်းတို့ရဲ့ ပထမဆုံး ချီးကျူးထိုက်တဲ့ လုပ်ငန်းပဲ"

ကလမ်၏စာကို အမှတ်ရသဖြင့် သူက ပြောလိုက်သည်။

အခန်းထောင့်တစ်နေရာမှ အိပ်ချင်မူးတူးနှင့် ဖရီဒါ၏အသံ ထွက်ပေါ်လာသည်။

"ကေ အိပ်ပါစေ။ သူ့ကို မနှောင့်ယှက်ပါနဲ့"

သူမက အိပ်ချင်မူးတူးဖြစ်နေသည်။ သူမ၏စိတ်ထဲတွင် ကေရှိနေသည်။

ယခုအခါ မီးရောင်တစ်ခု ပေါ်ထွက်လာသည်။ သို့သော် မီးအိမ်ထဲတွင် ဖယောင်းဆီ နည်းနည်းကလေးသာ ကျန်ရှိနေသဖြင့် သိပ်မလင်းပါ။

အိမ်သစ်တွင် လိုအပ်သည့်ပစ္စည်းများ မရှိသေးပါ။ အခန်းကို အနွေးခာတ် ပေးထားသည်။ သို့သော် အခန်းက ရောမအခန်းကြီးဖြစ်သည်။ ရံခါတွင် အားကစားရုံ အဖြစ် အသုံးပြုဟန်ရှိသည်။ အားကစားပစ္စည်းများကို တွေ့ရသည်။ အခန်းက နွေးထွေးလျက်ရှိသည်။ သို့သော် ထင်းတွေ ကုန်သွားပြီ ဖြစ်သဖြင့် ကေသည် ပြန်ပြီး အေးလာတော့သည်။

သို့သော် တဲကလေးတစ်ခုအတွင်းဝယ် ထင်းတွေရှိသည်။ သို့သော် တဲကို သော့ခတ်ထားသည်။ သော့က ကျောင်းဆရာဆီမှာ ဖြစ်သည်။ ဤထင်းတွေ ကို သူက စာသင်ချိန်များတွင်သာ အသုံးပြုခွင့်ပေးသည်။

အခန်းထဲမှာ အိပ်ရာတွေရှိလျှင် ခံသာပေဦးမည်။ သို့သော် အခန်းထဲတွင် ကောက်ရိုးတွေ ထည့်ထားသော အိတ်တစ်လုံးသာရှိသည်။ ကောက်ရိုးအိတ်ကို ဖရီဒါက သိုးမွေးစောင် တစ်ထည်ဖြင့် သပ်သပ်ရပ်ရပ် ပတ်ထားသည်။ သို့သော် မွေ့ရာမရှိပါ။ မာတောင့်တောင့် အိပ်ရာ၊ အိပ်ရာခင်း အကြမ်းနှစ် ထည်သာ ရှိသည်။ နွေးထွေးမှုကို ဘယ်လိုမှ မပေးနိုင်။ အစောင့်နှစ် ယောက်က ကောက်ရိုးအိတ်ကို မျက်စောင်းထိုးနေ ကြသည်။ သို့သော် သူ တို့ကို လဲလျောင်းခွင့်မပေးပါ။

ဖရီဒါက စိုးရိမ်ပူပန်စွာနှင့် ကေ့အား ကြည့်နေသည်။ သူမက အခန်းတစ် ခုကို နေလို့ထိုင်လို့ကောင်းအောင် လုပ်နိုင်ပါသည်။ တံတားတည်းခိုခန်း တုန်းက သက်သေ ပြခဲ့ပြီ။ သို့သော် လိုအပ်သောပစ္စည်းများ မရှိဘဲနှင့် ဘာ မှမတတ်နိုင်ပါ။

"ကျွန်မတို့ရဲ့ ပရိဘောဂတွေကတော့ အားကစားပစ္စည်းတွေပဲ"

သူမက ပြုံးလဲ့ပြီး ပြောသည်။

နေရာထိုင်ခင်းနှင့် ထင်းကို မနက်ဖြန်ကျလျှင် စီစဉ်ပေးမည်ဟု သူမက ပြောသည်။ အဲဒီအထိ သည်းခံပါဟု ကေ့အား တောင်းပန်သည်။

ကေက သူမကို ပထမတွင် ဟာရင်ဟော့ တည်းခိုခန်းမှလည်းကောင်း၊ ထို့နောက် တံတားတည်းခိုခန်းမှ လည်းကောင်း ဆွဲထုတ်ခဲ့သဖြင့် ကေ့ အပေါ်တွင် မကျေနပ်သည့် အရိပ်အယောင် ဘာမှမပြပါ။ ယင်းကြောင့် အပြန်အလှန်အနေဖြင့် ကေကလည်း အားလုံးကို သည်းခံရပေသည်။

နောက်ဆုံးတွင် ဖရီဒါ ဖျော်ပေးသော ကော်ဖီအတွက် ကေ ဝမ်းသာရသည်။ ရေနွေးကို အရက်ပုံ့မီးဖိုနှင့် ကြိုခြင်းဖြစ်သည်။ ကျောင်းဆရာ၏ စားပွဲပေါ်တွင် သူမက စားပွဲခင်း အဖြူတစ်ထည် ခင်းထားသည်။ ပန်းအိုး တစ်လုံး တင်ထားသည်။ ပြီးတော့ ပေါင်မုန့်နှင့် ဝက်အူချောင်း။ နောက်ပြီးတော့ ငါးသေတ္တာတစ်ဘူး။ ယခုအခါ အားလုံး အဆင်သင့်ဖြစ်နေပေပြီ။ ဖရီဒါလည်း မစားရ မသောက်ရသေးပါ။ ကေ့အား စောင့်ဆိုင်း နေခြင်း ဖြစ်သည်။ ကုလားထိုင် နှစ်လုံးလည်း ရရှိသည်။ ကေနှင့် ဖရီဒါတို့ စားပွဲတွင် ထိုင်လိုက်ကြသည်။

လက်ထောက်နှစ်ယောက်က သူတို့ခြေရင်းရှိ စာသင်ခန်းစင်မြင့်ပေါ်တွင် ဖြစ်သည်။ သူတို့က ငြိမ်ငြိမ်မနေကြပါ။ ၎င်းတို့ စားသောက်နေကြစဉ်မှာပင် အနှောင့်အယှက် ပေးနေကြသည်။ ၎င်းတို့အတွက် လုံလုံလောက်လောက် ရရှိထားပြီး စားသောက်၍ မပြီးခင်မှာ ခဏခဏထပြီး စားပွဲပေါ်တွင် ဘာရှိ သေးသနည်းဟု ကြည့်ကြသည်။ ၎င်းတို့အတွက် တစ်ခုခု မျှော်လင့်နေကြ ဆဲ ဖြစ်သည်။

ကေက သူတို့ကို ဂရုမထားပါ။ ဖရီဒါ သူတို့ကိုကြည့်ပြီး ရယ်မောလိုက်တော့မှ ဂရုထားမိသည်။ သူက သူမ၏လက်ကို ညင်သာစွာ ဆုပ်ကိုင်လိုက် ပြီး ၎င်းတို့ကို အဘယ်ကြောင့် စိတ်ရှည်သည်းခံပြီး၊ ၎င်းတို့၏မိုက်မဲမှုကို အ ဘယ်ကြောင့် ကြင်နာသနားရသနည်းဟု တိုးညင်းစွာ မေးလိုက်သည်။

ဤနည်းနှင့်တော့ သူတို့လက်မှ ဘယ်တော့မှ လွတ်ကင်းမည်မဟုတ်။ သူ တို့ လက်မှလွတ်ရန် သူတို့အပေါ် တင်းကျပ်ရမည်။ သို့မဟုတ် သူတို့ နေလို့ မရအောင် လုပ်ရမည်။ နောက်ဆုံး သူတို့ ထွက်သွားကြသည်အထိ ဖြစ်သည်။

ကျောင်းဆောင်သည် ကြာကြာနေရန် သင့်သောနေရာမဟုတ်ပါ။ သို့သော်လက်ထောက်တွေ မရှိခဲ့လျှင် သူတို့သည် အနေအထိုင် ကျဉ်းကျပ်မှုများကို သတိပြုမိမည် မဟုတ်။ ကေက သူတို့ကို တင်းမာစွာ မဆက်ဆံ၍ လည်းကောင်း၊ ဖရီဒါ၏ အားပေးမှုကြောင့်လည်းကောင်း လက်ထောက်နှစ် ယောက်သည် တစ်နေ့ထက်တစ်နေ့ ပိုပြီး အရိုအသေတန်လာကြသည်ကို ဖရီဒါလည်း သိပါသည်။

လက်ထောက်နှစ်ယောက် မရှိခဲ့လျှင် ကေသည် သက်သောင့်သက်သာဖြစ် ပြီး အခြားတာဝန်များအပြင် ကျောင်းစာများကိုလည်း လုပ်ဆောင်နိုင်မည် ဖြစ်သည်။ ဖရီဒါသည် စိတ်ဝင်တစား နားထောင်နေပြီးနောက် သူ့ လက်မောင်းကို ပွတ်သပ်ကာ သူမ၏ သဘောထားမှာလည်း ဤအတိုင်းပင် ဖြစ်ကြောင်း၊ သို့သော် ကေသည် လက်ထောက်များ၏ ကသိကအောက်များ ကို သိပ်အလေးအနက်ထားနေကြောင်း၊

သူတို့သည် လူငယ် ကလေးများ သာ ဖြစ်ကြောင်း၊ သူတို့သည် အခုမှ ထူးဆန်းသော အလုပ်တစ်ခုတွင် လုပ်ကိုင်ဖူးကြကြောင်း၊ ရဲတိုက်ကြီး၏ တင်းကျပ်သော စည်းကမ်းများမှ လွတ်မြောက် လာပြီးတွင် အပြင်တွင် အထူးအဆန်းဖြစ်နေကြကြောင်း၊ ကသိကအောက်ဖြစ်စရာ များကို ကျူးလွန်မိကြကြောင်း၊ တကယ်တော့ သူ တို့၏အဖြစ်သည် ရယ်စရာကောင်းလှ ကြောင်း၊ သူမကတော့ သူတို့ကို ရယ်စရာဟု သဘောထားကြောင်း ပြောသည်။

သို့သော် လက်ထောက်များနှင့် ကင်းလွတ်ပြီး သူတို့ချည်းနေရလျှင် ပို၍ ကောင်းမည် ဖြစ်ကြောင်းကို ကေနှင့် ခြွင်းချက်မရှိ သဘောတူညီကြောင်း ပြောသည်။

သူမက ကေအနီးသို့ တိုးကပ်ပြီး သူမ၏မျက်နှာကို သူ၏ပခုံးတွင် ကွယ်လိုက်သည်။

ထို့နောက် တစ်စုံတစ်ခုကို လေသံဖြင့် တိုးညင်းစွာပြောသည်။ ကေက ခေါင်းကိုငုံ့ပြီး နားထောင်ရသည်။ သူပြောသည့်အကြောင်း လက်ထောက်နှစ်ယောက်နှင့် မည်သို့ဆက်ဆံရမည် မသိကြောင်း၊ ကေပြောတာ မဖြစ်နိုင်၊ မဟုတ်ဟု ထင်ကြောင်း ဖြစ်သည်။ သူမ သိသလောက်က သူ တို့ကို ကေကိုယ်တိုင် ခေါ်လာခဲ့ခြင်းဖြစ်ကြောင်း၊ အခု သူတို့ရှိနေကြပြီး သူတို့ကို စောင့်ရှောက်ထားရကြောင်း ဖြစ်သည်။

သူတို့ကို ရယ်စရာအဖြစ် သဘောထားသင့်ကြောင်း၊ တကယ်ပဲလည်း ရယ်စရာဖြစ်ကြောင်း၊ သူတို့ ကို ဆက်ပြီး ထားသင့်ကြောင်း ပြောဆိုသည်။

သူမ၏အဖြေကို ကေ သဘောမကျပါ။ သို့ဖြင့် သူမသည် သူတို့နှင့် တစ် ဂိုဏ်းတည်း ဖြစ်နေသည်ဟု နောက်သလိုလို အတည်လိုလို ပြောလိုက်သည်။ သို့မဟုတ် သူမက သူတို့ကို အခွင့်အရေးပေးနေသည်ဟု ဆိုလိုက်သည်။ တကယ်ပဲ သူတို့က လူချောကလေးတွေ ဖြစ်ကြောင်း၊ သူတို့နှင့် ကင်းလွတ်လိုစိတ် မရှိလျှင် မလွတ်ကင်းနိုင်ကြောင်း ပြောလိုက်သည်။

သူတို့နှင့် လွတ်ကင်းအောင် လုပ်ခဲ့လျှင် ကေ့အား အထူး ကျေးဇူးတင်ပါကြောင်း ဖြင့် ဖရီဒါက ပြန်ပြောသည်။ ကနေ့မှစ၍ သူမသည် သူတို့ကို မ ရယ်မောတော့ပါ၊ သူတို့နှင့် မလိုအပ်သည့် စကားတွေလည်း မပြောတော့ပါ ဟု ဆိုသည်။

လက်ထောက်နှစ်ယောက် ရုတ်တရက် ထရပ်လာသောအခါ ဖရီဒါ တုန် သွားသည်။ တစ်ကြောင်းက စားပွဲပေါ်တွင် ကျန်ရှိနေသော အစားအစာများ ကို ကြည့်ရန် ဖြစ်သည်။ နောက်တစ်ကြောင်းက သူတို့ တီးတိုးပြော နေသည်ကို နားထောင်ရန် ဖြစ်သည်။

ကေက ဤအပြုအမူကြောင့် လက်ထောက်နှစ်ယောက်ကို ဖရီဒါ ပိုပြီး စက်ဆုပ်စေရန် ဖန်တီးလိုက်သည်။ သူမကို သူ့အနီးသို့ ဆွဲယူလိုက်ပြီး ည လယ်စာကို ပြီးအောင်စားသည်။

ယခုအခါ အိပ်ကြရန် အချိန်ဖြစ်သည်။ အကြောင်းမှာ သူတို့အားလုံး အိပ်ချင်နေကြပြီဖြစ်သည်။ လက်ထောက်တစ်ယောက် ညစာစားရင်း တန်းလန်းနှင့်ပင် အိပ်ပျော်နေသည်။ ယင်းကို အခြားတစ်ယောက်က အင်မတန် သဘောကျနေသည်။

အအေးဓာတ်က ပိုပြီး လွန်ကဲလာသည်။ သူတို့ အိပ်၍မရနိုင်ကြပါ။ နောက်ဆုံးတွင် ကေက အခန်းကို အပူဓာတ်ပေးရန် ပြောလိုက်သည်။ ယင်းသို့မဟုတ်လျှင် သူတို့ ဘယ်လိုမှ အိပ်နိုင်ကြမည် မဟုတ်ပါ။ သူက ရဲတင်းတစ်လက် ဒါမှမဟုတ် တစ်ခုခု ရရန် ရှာဖွေသည်။

လက်ထောက်တွေက ရဲတင်းတစ်လက်ရှိသည်ကိုသိပြီး ယူလာကြသည်။ သို့ဖြင့် သူတို့ ထင်းတဲဆီသို့ သွားကြသည်။ မိနစ်ပိုင်းအတွင်းမှာ တံခါးကို ဖျက်ပြီး အတွင်းကို ဝင်နိုင်ကြသည်။ လက်ထောက်နှစ်ယောက်က ထင်း တွေကို စာသင်ခန်းအတွင်းသို့ သယ်ဆောင်လာကြသည်။ တစ်ယောက်နှင့် တစ်ယောက် တိုးမိ တိုက်မိကြသည်။

မကြာမီ ထင်းပုံကြီးတစ်ခု ဖြစ်သွားသည်။ မီးဖိုကြီး အရှိန်ရလာသည်။ မီးဖိုဘေးမှာ ဝိုင်းပြီး လဲလျောင်းကြသည်။ လက်ထောက်တွေကို စောင်တစ်ထည် ပေးသည်။ သူတို့အတွက် လုံလောက် သွားသည်။ အကြောင်းမှာ တစ် ယောက်က စောင့်ပြီး မီးထိုးနေရန်ဖြစ်သည်။

များမကြာမီတွင် မီးဖိုပတ်လည်တွင် အတော်ကြီးပင် ပူလာသဖြင့် စောင်ခြုံဖို့ပင် မလိုတော့ပါ။ မီးအိမ်တွေကိုလည်း ငြိမ်းလိုက်ကြသည်။

ကေနှင့် ဖရီဒါသည် ပူနွေးမှုတွင် အိပ်စက်ကြရန် လဲလျောင်းလိုက်ကြသည်။

အသံတစ်ခုခု သို့မဟုတ် တစ်ခုခုကြောင့် ကေ နိုးလာသည်။ အိပ်ချင်မူးတူးနှင့် ဖရီဒါကို သူ စမ်းကြည့်သည်။ ဖရီဒါအစား သူ့ဘေးမှာအိပ်နေသော လက်ထောက်တစ်ယောက်ကို တွေ့ရသည်။ လက်ထောက်ကို သူ ထိုးကြိတ်ရိုက်နှက်ပြီး လန့်နိုးလာသည်။ ခဏအကြာတွင်မှ ပြဿနာတွေ ရှင်းသွားသည်။

ဖရီဒါ နိုးလာသည်။ သို့မဟုတ် နိုးလာသည်ဟု ထင်ရသည်။ အကောင်ကြီး တစ်ကောင်ကြောင့် ဖြစ်သည်။ ကြောင်တစ်ကောင်ကောင် ဖြစ်နိုင်သည်။ ၎င်းက သူမ၏ ရင်ဘတ်ပေါ်သို့ ခုန်ချသည်။ ထို့နောက် ပြန်ခုန်ပြီး ထွက် သွားသည်။ သူမ အိပ်ရာက ထပြီး ဖယောင်းတိုင်တစ်တိုင်နှင့် ထိုအကောင် ကို တစ်ခန်းလုံးလိုက်ရှာသည်။ ဘယ်မှာမှ ဘာမှရှာမတွေ့ပါ။ စိတ်ထဲက ထင်တာပဲဖြစ်နိုင်သည်။ ကေ အိပ်နေရာသို့ ပြန်လာသည်။ လမ်းတွင် လက်ထောက်တစ်ယောက် ညည်းနေသည်ကို တွေ့သဖြင့် ညဦးပိုင်းက ကေ နှင့် ပြောထားသည့် စကားများကို မေ့ပြီး ကုန်းငုံ့ကာ ၎င်း၏ဆံပင်များကို ပွတ်သပ်ကာ နှစ်သိမ့်လိုက်သည်။

ကေ ဘာမျှမပြောပါ။ လက်ထောက်ကိုသာ ထင်းထည့်တာရပ်ဖို့ ပြောလိုက်သည်။ အကြောင်းမှာ တစ်ခန်းလုံး သိပ်ပူနေကြပြီ ဖြစ်သောကြောင့် တည်း။

နောက်တစ်နေ့နံနက် ကျောင်းသားလေးတွေ ရောက်လာတော့မှ သူတို့ နိုး ကြသည်။ ကျောင်းသားတွေက အိပ်မောကျနေကြသူများကို ပါးစပ် အဟောင်းသားဖြင့် ကြည့်နေ ကြသည်။

အခြေအနေက မကောင်းပါ။ ညက အရမ်းပူသဖြင့် သူတို့သည် အပေါ်အင်္ကျီ များကို ချွတ်ပြီး ရှပ်အင်္ကျီနှင့် နေကြသည်။ ယခုအခါ မနက် ပိုင်းရောက်လာပြီး အအေး ဓာတ်ဝင်လာသဖြင့် အဝတ်များကို ပြန်ဝတ်ကြ ရသည်။ ထိုအချိန်တွင် ကျောင်းဆရာ နှစ်ဦးရှိသည့်အနက် တစ်ဦးဖြစ်သော ဆရာမ ဂီဆာ တံခါးဝသို့ ရောက်လာသည်။ သူမက အရပ်အမောင်း တောင်းကောင်း ချောချောလှလှဖြစ်သည်။ သို့သော် စည်းကမ်း တင်းကျပ်သော အမျိုးသမီးတစ်ဦးဖြစ်သည်။

ကျောင်းဆရာက ပြောထားသဖြင့် သူမက ကျောင်းစောင့်သစ်ကို တွေ့ရန် လာခြင်းဖြစ်သည်။ သို့ဖြင့် တံခါးပေါက်မှ ကျောင်းဆရာ ဝင်လာသည်။ သူမ က ကေ့အား ပြောသည်။

"အခြေအနေ ဘယ်လိုမှ သည်းခံလို့မရဘူး။ ဖြစ်ချင်တိုင်း ဖြစ်နေတာပဲ။ ရှင့်ကို စာသင်ခန်းထဲမှာ အိပ်ခွင့်ပေးထားတယ်။ ဒါပဲ။ ဒါပေမဲ့ ရှင့်အိပ်ခန်းထဲ မှာ ကျွန်မ စာသင်ဖို့မဟုတ်ဘူး။ ကျောင်းစောင့်ရဲ့မိသားစုက နေမြင့်တဲ့အထိ အိပ်နေကြတယ်"

သို့ဖြင့် ကေနှင့် ဖရီဒါသည် အခန်းကို ရှင်းကြရသည်။ အစောင့်နှစ် ယောက် ဘာမှအခန်းမဝင်ပါ။ သူတို့က ကြမ်းပြင်ပေါ်မှာ လဲလျောင်းရင်းကဆရာမနှင့် ကျောင်းသားတွေကို ငေးကြည့်နေပြန်သည်။

သူတို့နှစ်ယောက် အဝတ်များကို ရှင်းလင်းနေကြစဉ်မှာပင် ဆရာမက မျက်နှာသစ် အင်တုံထဲတွင် ရေမရှိသဖြင့် ဆူပြန်သည်။ ကေက ချက်ချင်း ပင် ရေသွား ယူရန်၊ ဖရီဒါက အင်တုံကို ဆေးကြောရန် စီစဉ်သည်။ သို့သော် ဆရာကို သိပ်အလေး ထားရာရောက်မည်စိုးသဖြင့် ထိုအကြံကို စွန့် လွှတ်လိုက်သည်။

ထိုစဉ်မှာပင် ကျယ်လောင်သော ကွဲရှသံတစ်ခု ထွက်ပေါ်လာသည်။

ကံမကောင်းချင်တော့ ကျောင်းဆရာမ၏ စားပွဲတွင် သူတို့စားထားသော ညလယ်စာ အကြွင်းအကျန်များကို သိမ်းရန် မေ့နေခဲ့ကြသည်။ ယခုအခါ ဆရာမက ယင်းတို့ကို ပေတံဖြင့် တွန်းချပစ်နေရာ အားလုံးကြမ်းပြင်ပေါ်သို့ ကျကုန်ကြသည်။ ငါးသေတ္တာအရည်တွေနှင့် ကော်ဖီတွေ ဖိတ်ကုန်ကြခြင်း၊ ကော်ဖီအိုး အစိတ်စိတ် အမွှာမွှာ ကွဲသွားသည်။ မကြာမီတွင် ယင်းတို့ကို ကျောင်းစောင့်က သိမ်းရပေမည်။

တန်းဘားပေါ်တွင် တင်ထားသော အဝတ်များကို သိမ်းနေသော ကေနှင့် ဖရီဒါသည် သူတို့၏ ပစ္စည်းကလေးတွေ ပျက်စီးကုန်သည်ကို တွေ့မြင်ကြရသည်။ အဝတ်အစားတွေ မဝတ်ရသေးသော လက်ထောက်များသည် ကြမ်းပြင်အနီးရှိ

ထင်းပုံထဲသို့ ခေါင်းများကို ဝင်လျှက်ရှိကြရာ ကလေးတွေ တဝါးဝါးတဟားဟား ဖြစ်နေကြသည်။

ဖရီဒါ စိတ်အထိခိုက်ဆုံးကတော့ ကော်ဖီအိုး ကွဲသွားခြင်းပင် ဖြစ်သည်။ ကျေးရွာဥက္ကဋ္ဌထံ ချက်ချင်းသွားပြီး ကော်ဖီအိုး အစားပြန်ပေးရန် ပြောမည် ဟု ဖရီဒါကို ကေက နှစ်သိမ့်ရသည်။

ထိုအခါတွင်မှ ဖရီဒါသည် သူမ၏ စိတ်ကို ထိန်းပြီး တန်းဘားအကြားတွင် ရှိနေရာမှ ရုပ်အင်္ကျီ၊ စကတ်ဘောင်းဘီနှင့် ပြေးထွက်သွားသည်။ စားပွဲခင်းကို နောက်ထပ် မပေကျံအောင် သိမ်းရသည်။ ဆရာမက စားပွဲပေါ်မှ ပစ္စည်းများကို အရှုံးအမူး တွန်းချ ပစ်နေစဉ်မှာပင် ဖရီဒါက စားပွဲခင်းကို သိမ်းလိုက်နိုင်သည်။

ကေနှင့် ဖရီဒါတို့သည် အဝတ်အစားများ အပြည့်အစုံ ဝတ်ပြီးသောအခါတွင်မှ ကြုံတွေ့ရသော အဖြစ်အပျက်များကြောင့် ငေးကြောင်နေကြသော အစောင့် နှစ်ယောက်ကို သူတို့၏ အဝတ်အစား ဝတ်ဆင်ကြရန် ပြောရသည်။

ထို့နောက်တွင်မှ ကေသည် လုပ်စရာရှိသည်များကို လုပ်ရသည်။ လက်ထောက်တွေက ထင်းတွေယူလာပြီး မီးဖိုထဲတွင် မီးထည့်ကြရသည်။ သို့သော် အခြားစာသင်ခန်းထဲတွင် ကျောင်းဆရာ ရောက်ရှိလာသဖြင့် ပြဿနာအသစ်တက်ရန် အစပျိုးနေတော့သည်။ ဖရီဒါက ကြမ်းတွေကို တိုက်ပြီး ကေက ရေယူလာပေးရသည်။ လောလောဆယ် အချိန်တွင် နံနက်ခင်းစာ စားဖို့ကို ဘယ်လိုမှ မစဉ်းစားနိုင်ကြပါ။

ကေအား တွေ့မြင်သောအခါ ကလေးတွေ အတောမသတ် ရယ်မောနေသည့် ကြားမှ ဆရာမက မေးလိုက်သည်။

"တော်တော်အိပ်ကောင်းကြရဲ့လား"

ကေက ဘာမျှပြန်မဖြေပါ။ မျက်နှာသစ်အင်တုံကိုသာ ရှင်းလင်းလျှက် ရှိသည်။

"ရှင်တို့ ကျွန်မကြောင်ကြီးကို ဘာလုပ်လိုက်ကြသလဲ"

သူမက ကပ်မေးသည်။

ရောမ ကြောင်ကြီးဖြစ်သည်။ ဝဂဖီးဖီးကြီး ဖြစ်သည်။ စားပွဲပေါ်တွင် ဇိမ်ရှိရှိ ဆန့်ပြီး အိပ်နေသည်။ ဆရာမက အနည်းငယ် ထိခိုက်သွားဟန်ရှိသောလက်တစ်ဖက်ကို စစ်ဆေးကြည့်ရှုလျှက် ရှိသည်။

ဖရီဒါပြောတာ မှန်သည်။ ဤကြောင်ကြီးသည် သူမအပေါ်သို့ ခုန်ချခဲ့သည်။ ခုန်ချရုံသာမက သူမကိုယ်ပေါ်တွင် တွားသွားခဲ့သည်။ လူမရှိသော အိမ်ကြီးထဲတွင် လူတွေကို တွေ့ရသောအခါ ကမန်းကတန်း ပုန်းအောင်းနေ ခဲ့သည်။ ပုန်းရင်းအောင်းရင်းနှင့် သူ့ကိုယ်သူ ထိခိုက်ခဲ့ခြင်းဖြစ်သည်။

ကေက ဤကိစ္စကို ဆရာမအား အေးအေးဆေးဆေး ရှင်းပြမည်ရှိစဉ် သူမ၏ မျက်လုံးများက ဒဏ်ရာပေါ်တွင်သာ ရောက်ရှိနေပြီး…

"ဒီကိုလာတာ ရှင်တို့အမှားပဲ။ ဒီမှာကြည့်စမ်းပါဦး"

သူမက ကေကို စားပွဲဆီသို့ခေါ်ပြီး ကြောင်၏လက်ကို ပြသည်။ သေသေချာချာ မကြည့်ရခင်မှာပင် ကေ၏လက်ခေါက်ကို သားရေကြိုးနှင့် ရိုက်သည်။ သားရေ ကြိုးအမြီးတွေက မာကျောလှသည်။ သူမက တအား ရိုက်နေသဖြင့် ကေ၏လက်တွင် သွေးတွေထွက်ပြီး အရှိုးအစင်းတွေ ထင် လာသည်။

"ကောင်းပြီ၊ ရှင့်အလုပ် ရှင်လုပ်တော့"

သူမက ကြောင်ကြီးကို ငုံ့ကြည့်ရင်း ပြောလိုက်သည်။

ဤအဖြစ်အပျက်ကို တန်းဘား၏နောက်ကွယ်မှနေပြီး လက်ထောက်တွေနှင့် အတူ ကြည့်နေသော ဖရီဒါသည် သွေးတွေကို မြင်သောအခါ အော် လိုက်သည်။

ကေက သူ့လက်ကို ကလေးတွေအား ပြလိုက်သည်။

"ယုတ်မာကောက်ကျစ်တဲ့ကြောင်က ငါ့ကို လုပ်တာပဲ"

သူ၏ စော်ကားသော စကားကို ဆရာမက မျက်စောင်းထိုးလိုက်သည်။ ကေက ဖရီဒါနှင့် လက်ထောက်နှစ်ယောက်ကို ခေါ်ကာ အလုပ်တွေကိုလုပ်ကြသည်။

ကေက ရေဟောင်းတွေကို ပုံးနှင့်သယ်သွားပြီး ရေသစ်တွေကို ယူလာသည်။ ထိုစဉ်တွင် ၁၂ နှစ်အရွယ် ကောင်ကလေး တစ်ယောက်သည် သူ၏ စာသင်ခုံမှ ထလာပြီး ကေ၏လက်ကို ကိုင်ကာ တစ်စုံတစ်ရာကို ပြောသည်။ သို့သော် သူ၏အသံက ဆူညံနေသော အသံတွေထဲတွင် ပျောက် ဝင် သွားသည်။

ရုတ်ခြည်းဆိုသလို အသံတွေအားလုံး တိတ်သွားသဖြင့် ကေ လှည့်လိုက်သည်။ တစ်မနက်လုံး သူ စိုးရိမ်ကြောက်လန့်နေသော ဆရာ ပြန်ပေါ်လာသည်။

တံခါးပေါက်ဝတွင် ကျောင်းဆရာ ရပ်နေသည်။ သူက အစောင့်နှစ် ယောက်၏ ကုပ်ကို လက်တစ်ဖက်စီမှ ဆွဲခေါ်လာသည်။ သူတို့နှစ်ယောက် ထင်းတွေ သယ်နေကြတုန်း ဖမ်းမိလာဟန်တူသည်။ သူက အသံကျယ်ကြီး ဖြင့် တစ်လုံးချင်း အော်ပြော လိုက်သည်။

"ထင်းတဲကို ဘယ်သူ ဖောက်တာလဲ။ အဲဒီလူဆိုးကို ကျုပ် ဆုံးမရမယ်"

ထိုအခါ ဆရာမခြေထောက်နားတွင် သန့်ရှင်းရေးလုပ်နေသော ဖရီဒါသည် ကြမ်းပြင်ပေါ်မှ ထကာ ကေအား လှမ်းကြည့်လိုက်သည်။ ကေ့ထံမှ ခွန်အားများကို ရယူလိုက်သည့်အလား ဖြစ်သည်။ ထို့နောက်...

"ကျွန်မ ဖောက်တာပါ ဆရာ။ ကျွန်မအနေနဲ့ တခြားနည်းကို စဉ်းစား မရ လို့ပါ။ စာသင်ခန်းတွေကို အချိန်မီ အပူဓာတ် ပေးရမယ်ဆိုရင် ထင်းတဲကို ဖွင့်ရပါမယ်။ ညသန်းခေါင်လောက်ကြီးမှာ ဆရာ့ဆီကလည်း သော့မ တောင်းရဲလို့ပါ။ ကျွန်မရည်းစားကလည်း ဟာရင်ဟော့ တည်းခိုခန်းမှာ ရောက်နေပါတယ်။ သူ အဲဒီမှာ တစ်ညလုံးနေမှာလည်း ဖြစ်နိုင်ပါတယ်။ ဒါကြောင့် ကျွန်မဘာသာ ဆုံးဖြတ်ရတာပဲ။ ကျွန်မလုပ်တာမှားရင် ကျွန်မရဲ့အတွေ့အကြုံ နည်းပါးမှုအတွက်

ခွင့်လွှတ်ပါ။ ဖြစ်ပျက် တာကို သိသွားတဲ့ အတွက် ကျွန်မရဲ့ ရည်းစားကလည်း ကျွန်မကို ဆူပြီးပါပြီ။ မနက် အစောကြီး မီးမထည့်ဖို့လည်း သူက တားမြစ်ပါတယ်။ ဘာဖြစ်လို့လဲဆိုတော့ သူ တွက်တာက ဆရာက ထင်းတဲကို သော့ခတ်သွားတဲ့အတွက် ဆရာ မလာမချင်း မီးမထည့်စေချင်တဲ့ သဘောလို့ ယူဆပါတယ်။ ဒါကြောင့် မီးမထည့်တာက သူ့အပြစ် ဖြစ်ပြီး ထင်းတဲကို ဖောက်ဝင်တာက ကျွန်မ အပြစ်ပါ"

"ထင်းတဲကို ဘယ်သူဖောက်တာလဲ"

ယခုထက်တိုင် သူ့လက်ထဲတွင် ယက်ကန်ယက်ကန် ဖြစ်နေသော လက်ထောက် နှစ်ယောက်ကို ကျောင်းဆရာက မေးလိုက်သည်။

"လူကြီးမင်းပါ"

သူတို့က ကေ့အား ရည်ညွှန်းပြီး ပြောလိုက်သည်။

ဖရီဒါ ရယ်မောလိုက်သည်။ သူမ ရယ်မောပုံက သူမ၏ စကားလုံးတွေ ထက် ပိုပြီးအဓိပ္ပာယ် ရှိသည်။ ထို့နောက် သူမက ကြမ်းတိုက်နေသော အဝတ်စုတ်ကို ရေပုံးထဲတွင် ညှစ်လိုက်သည်။ ဇာတ်လမ်းတစ်ခု ပြီးပြီ ဟူသော သဘောဖြစ်သည်။ လက်ထောက်နှစ်ယောက် အကြောင်းက နောက်ဆုံးပိတ် ရယ်စရာဖြစ်သည်။ သူမက ကြမ်းပြင်ပေါ်တွင် ဒူးထောက် ကာ အလုပ်ကိုပြန်စရင်း ပြောလိုက်သည်။

"ကျွန်မတို့ရဲ့ လက်ထောက်တွေက ကလေးတွေသာ ဖြစ်ပါတယ်။ သူတို့ အရွယ်က ကျောင်းမှာ စာသင်နေရမယ့် အရွယ်ပါ။ မနေ့ညက ထင်းတဲကို ကျွန်မ ကိုယ်တိုင် ရဲတင်းနဲ့ ဖွင့်တာပါ။ ဖွင့်ရတာ လွယ်လွယ်ကလေးပါ။ လက်ထောက်တွေရဲ့ အကူအညီ မလိုပါဘူး။ ညဘက်မှ ကျွန်မရည်းစား ပြန်လာတဲ့အခါမှာ ပျက်နေတဲ့ တံခါးကို ပြင်လို့ရမလားဆိုပြီး သွားကြည့်တယ်။ လက်ထောက်နှစ်ယောက်က ဒီမှာ မနေရဲလို့ သူ့နောက်ကို ပြေး လိုက်သွားကြတယ်"

ဖရီဒါပြောနေစဉ်တွင် လက်ထောက်တွေက ခေါင်းယမ်းနေကြသည်။ ကေ့အား လက်ညှိုးထိုးလျက်ပင် ရှိကြသည်။

ကျောင်းဆရာက

"ဒါဖြင့် မင်းတို့ လိမ်ပြောနေကြတာပေါ့။ ဒါမှမဟုတ် အခြေအမြစ်မရှိဘဲနဲ့ ကျောင်းစောင့်ကို စွပ်စွဲနေကြတာပေါ့"

သူတို့ ငြိမ်နေကြသည်။ သူတို့၏အကြည့်နှင့် တုန်လှုပ်နေပုံတို့က အပြစ်ရှိ ကြောင်းကို ပြနေကြသည်။

"ဒါဆိုရင် မင်းတို့ကို ငါ သေသေချာချာ ရိုက်ရမယ်"

ကျောင်းဆရာက ကလေးတစ်ယောက်ကို တစ်ဖက်ခန်းမှ ကြိမ်လုံးကို ယူခိုင်းလိုက်သည်။ သူက တုတ်ကိုမြှောက်ပြီး ရိုက်မည်ပြုသောအခါ ဖရီဒါ ထပ်အော်လိုက်သည်။

"လက်ထောက်တွေပြောတာ အမှန်ပါပဲ"

ကြမ်းသုတ်သည့် အဝတ်ကို ရေပုံးထဲ ပစ်ထည့်လိုက်သည်။ ရေတွေ ဖိတ်စဉ်

ကုန်သည်။ ထို့နောက် သူမသည် တန်းဘားနောက်သို့ ပြေးသွားပြီး ပုန်းနေသည်။

"လူလိမ်တွေပဲ"

ဆရာမက ပြောလိုက်သည်။ သူက ကြောင်၏လက်ကို ပတ်တီးစည်းပေးနေရာ ပြီးသွားပြီ ဖြစ်သည်။ ကြောင်ကြီးကို သူမပေါင်ပေါ်သို့ တင်လိုက်သည်။ ရောမ အကောင်ကြီး ဖြစ်သည်။

"ဒါဆိုရင် ကျောင်းစောင့်ပဲပေါ့"

ကျောင်းဆရာက လက်ထောက်နှစ်ယောက်ကို တွန်းဖယ်ပစ်လိုက်ကာ ကေကိုကြည့်ရင်း ပြောလိုက်သည်။ ကေက တစ်ချိန်လုံး တံမြက်စည်းကို ထောက်မှီရင်း နားထောင်လျက်ရှိသည်။

ကျောင်းဆရာက ဆက်ပြီး

"အတော်တော်တဲ့ ကျောင်းစောင့်ပဲ။ သူ ခံရမှာကို ကြောက်တာနဲ့ သူများတွေကို မဟုတ်ဘဲနဲ့ စွပ်စွဲနေတာတွေကို နားထောင်နေတယ်"

"အရှက်မရှိတဲ့ အလုပ်တွေပဲ" ဆရာမက ပြောလိုက်သည်။

"အဲဒါ အမှန်ပဲ ဖရော်လင်းဂီဆာ"

ကျောင်းဆရာက ဆရာမ၏စကားကို ထောက်ခံလိုက်ပြီးနောက် ကေဘက်သို့လှည့်ကာ

"ဒီမယ် ကျောင်းစောင့်ကြီး၊ ခင်ဗျားရဲ့ အရှက်မရှိတဲ့အလုပ်တွေကြောင့် ခင်ဗျားကို ခုအချိန်ကစပြီး အလုပ်က ထုတ်ပစ်လိုက်ပြီ။ ခင်ဗျားပစ္စည်းတွေ ကို ယူပြီး အမြန်ဆုံး ထွက်သွားပေတော့"

"ကျွန်တော် ခြေတစ်လှမ်းတောင် မသွားနိုင်ပါ။ ဆရာဟာ ကျွန်တော်ရဲ့ အထက်လူကြီးဆိုတာတော့ မှန်တယ်။ ဒါပေမဲ့ ကျွန်တော့်ကို ဒီနေရာမှာ ခန့်တာ ဆရာ မဟုတ်ဘူး။ ကျွန်တော့်ကို ခန့်တာက ကျေးရွာဥက္ကဋ္ဌကြီးပဲ။ ကျွန်တော် သူ့အမိန့်ကိုပဲ နာခံနိုင်မယ်"

"ကျုပ်ပြောတာကို လက်မခံနိုင်ဘူးပေါ့၊ ဟုတ်လား"

ကျောင်းဆရာက မေးလိုက်သည်။ ကေက ခေါင်းကို ယမ်းခါသည်။

ထိုအခါ ကျောင်းဆရာသည် ဆရာမ၏စားပွဲသို့သွားပြီး လေသံတိုးတိုးဖြင့်တိုင်ပင်သည်။ သူမက ရဲကို တိုင်ဖို့ပြောသည်။ ကျောင်းဆရာ ကန့်ကွက်သည်။ နောက် ဆုံးတွင် သူတို့ သဘောတူညီမှု တစ်ခု ရသွားသည်။ ကျောင်းဆရာက ကျောင်းသားတွေကို သူ့အခန်းသို့ သွားဖို့ပြောသည်။ နှစ် တန်းပေါင်းပြီး သင်သည်။

ဤအစီအစဉ်ကြောင့် အားလုံးပင် ကျေနပ်သွားကြသည်။ ခဏအကြာတွင် အခန်းတစ်ခုလုံး ရှင်းသွားသည်။ ရယ်ကာမောကာ အော်ဟစ်ကာနှင့် ထွက်သွားကြသည်။ ကျောင်းဆရာနှင့် ဆရာမတို့က နောက်ဆုံးမှ လိုက်ပါ သွားကြသည်။ ဆရာမက ကျောင်းမှတ်ပုံတင်စာအုပ်ကို ယူသွားသည်။ စာအုပ်ပေါ်တွင် ကြောင်ကြီးက ဘာမှမဖြစ်ဟန်နှင့် လိုက်ပါသွားသည်။

ကျောင်းဆရာက ကြောင်ကြီးကို ထားခဲ့ဖို့ ပြောသည်။ ဆရာမက လက်မခံပါ။ ကေ၏ လူမဆန်မှုကို ဆရာမက အကြောင်းပြသည်။ ထိုအခါ ကျောင်းဆရာက ကြောင်ကြီး ပြဿနာနှင့် ပတ်သက်ပြီး ကေကို အပြစ်တင်သည်။

ကျောင်းဆရာက တံခါးဝသို့ ရောက်သောအခါ

"ကျုပ်ရဲ့အမိန့်ကို ခင်ဗျား မလိုက်နာတဲ့အတွက် ဆရာမနဲ့ ကလေးတွေ တခြားကို ထွက်သွားကြရတယ်။ အခန်းထဲမှာ ခင်ဗျား ကြိုက်သလို နေရစ်ခဲ့ပေတော့။ မှောက်လိုမှောက် လှန်လိုလှန်၊ လေးစားထိုက်တဲ့ လူကောင်းတွေ မရှိတော့ဘူး။ ဒါပေမဲ့ ဒါက သိပ်တော့ ကြာမှာမဟုတ်ဘူး"

ယင်းသို့ပြောပြီး သူက တံခါးကို ဆောင့်ပိတ်လိုက်သည်။

အားလုံး ထွက်သွားကြသည်နှင့် တစ်ပြိုင်နက် ကေက လက်ထောက်နှစ်ယောက်အား...

"ထွက်သွားကြ"

မမျှော်လင့်သော စကားကြောင့် စိတ်ပျက်သွားကြသော်လည်း သူတို့နားထောင်ကြသည်။ သို့သော် ကေက တံခါးကို ပိတ်လိုက်ပြီး သော့ခတ်လိုက်သည်နှင့် တစ်ပြိုင်နက် သူတို့က အထဲကို ပြန်ဝင်ရန် ကြိုးစားကြသည်။ အပြင်ဘက်တွင် တကျီကျီလုပ်ရင်း တံခါးကို ခေါက်နေကြသည်။

"မင်းတို့ကို အလုပ်ထုတ်လိုက်ပြီ။ မင်းတို့ကို ငါ့ဆီမှာ ဘယ်တော့မှ ပြန်မခန့်တော့ဘူး"

ကေက အော်ပြောလိုက်သည်။

သို့သော် ထိုအချက်ကို သူတို့ လက်မခံပါ။ တံခါးကို လက်တွေနှင့် ထု၊ ခြေထောက်တွေနှင့် ကန်နေကြသည်။

"ဆရာ့ဆီကို ကျွန်တော်တို့ ပြန်လာပါရစေ"

သူတို့သည် ရေထဲတွင် မျောပါသွားပြီး ကေက ကုန်းမြေတစ်ခုဖြစ်သည့်အလားပင်။

သူတို့ လက်မလျှော့ပါ။ ကျောင်းဆရာက ကြားဝင်လာတဲ့အထိ ဖြစ်သည်။

"ခင်ဗျားရဲ့တပည့်တွေ ဝင်ပါစေ"

ကျောင်းဆရာက ပြောသည်။

"ကျွန်တော် သူတို့ကို အလုပ်ထုတ်ပစ်လိုက်ပြီ"

ကေ ပြန်အော်သည်။

နောက်ဆုံးတွင် ကျောင်းဆရာက သူတို့ကို ချော့ရသည်။ ငြိမ်ငြိမ်ကလေး စောင့်နေကြပါ။ ကေက သူတို့ကို အနေးနဲ့အမြန်ဆိုသလို လက်ခံမှာပါ။ ယင်းသို့ ပြောပြီး သူ ထွက်သွားသည်။ သူတို့ကို တစ်ခါတည်း အပြီးအပိုင် ထုတ်ပစ်လိုက်ပြီဟု ကေက ပြောသည်။ ကျောင်းဆရာ နောက်တစ်ကြိမ် ပြန်ဝင်လာသည်။ သို့သော် ယခုတစ်ကြိမ်တွင်တော့ သူက အကျိုးသင့်အကြောင်းသင့် ပြောမနေတော့ဘဲ သူ့လက်က တုတ်ဖြင့် သူတို့ကို ကျောင်းထဲမှ မောင်းထုတ်လိုက်သည်။

မကြာမီ သူတို့သည် အားကစားရုံ ပြတင်းပေါက်များရှေ့တွင် ပေါ်လာကြသည်။ သူတို့က ပြတင်းပေါက်များကို ခေါက်ကာ တစ်စုံတစ်ရာ ဟစ်အော် ကြသည်။ သို့သော် သူတို့၏အသံများ မကွဲပြားပါ။

ထိုနေရာတွင် သူတို့ ကြာကြာကြီး မနေနိုင်ပါ။ နှင်းထုက အေးမြလှသည်။ ယင်းကြောင့် ကျောင်းပန်းခြံ လက်ရန်းများဆီသို့ သူတို့ ပြေးကြသည်။ မြင်း မိုပိတ် ကျောက်တုံးပေါ်သို့ သူတို့ ခုန်တက်ကြသည်။ ထိုနေရာ အတန်ငယ် ဝေးသော်လည်း ကေတို့အခန်းကို ကောင်းကောင်း မြင်တွေ့နိုင်သည်။ သူတို့က လက်ရန်းတွေကို

ကိုင်ကာ ခေါက်တုံ့ခေါက်ပြန် ပြေးလွှားနေကြသည်။ ဆုပ်ထားသော လက်များကို ဆန့်တန်းပြီး ကေ့အား တောင်းပန်နေကြသည်။

သူတို့သည် အတန်ကြာအောင် သည်အတိုင်း ရှိနေကြသည်။ သူတို့၏ ကြိုးပမ်းမှု မည်သို့မျှ အရာမရောက်သည်ကို ထည့်မတွက်ကြပါ။ ကေက ပြတင်းပေါက် ကန့်လန့်ကာတွေကို ဆွဲစေ့လိုက်သည့်တိုင် သူတို့ ဆက်ပြီး လှုပ်ရှားနေကြဆဲဖြစ်သည်။

မှောင်သွားသော အခန်းထဲတွင် ကေသည် ဖရီဒါကို တန်းဘားများအနီးတွင် သွားတွေ့သည်။ ကေ၏အကြည့်ကို တွေ့မြင်သောအခါ ဖရီဒါ မတ်တတ် ထရပ်လိုက်သည်။ ခေါင်းက ဆံပင်ကို သပ်ရပ်အောင် လုပ်လိုက်သည်။ မျက်ရည်များကိုသုတ်ပြီး ကော်ဖီဖျော်နေသည်။

အခြေအနေအားလုံးကို သူမ သိရှိပြီးဖြစ်သော်လည်း ကေက လက်ထောက် နှစ်ယောက်အား အလုပ် ထုတ်ပစ်လိုက်သည့် ကိစ္စကို တရားဝင်ကြေညာလိုက်သည်။ သူမက ခေါင်းညိတ်ရုံပဲ ညိတ်သည်။

ကေက စာသင်ခုံတစ်ခုံတွင် ထိုင်ပြီး သူမ၏ မောပန်းသော လှုပ်ရှားမှုများ ကို ကြည့်နေသည်။ သူမ၏ စိတ်ဓာတ်ခိုင်မာမှုကြောင့် သူမ၏ တည်ရှိနေ သော အလှက ယခုအခါ ပျောက်ဆုံးသွားပြီ ဖြစ်သည်။ ကေနှင့်အတူ နေထိုင်စဉ် ရက်အနည်းငယ် အတွင်းတွင် ဤသို့ဖြစ်သွားရခြင်းပင်။ ယမကာခန်းထဲက အလုပ်က မသက်သာလှပါ။ သို့သော် သူမနှင့် သင့်လျော်သည်။ ယခုလို သူမ၏အလှများ လျော့ပါးသွားရခြင်းသည် ကလမ်နှင့် ကွဲကွာနေသောကြောင့်လော။ ကလမ်နှင့် နီးကပ်စွာနေရခြင်းကြောင့် သူမသည် ညို့ယူဖမ်းစားနိုင်ခြင်းများ ရှိနေသည်လော။ ယင်းညို့ယူမှုများက ကေ့ အား ဖမ်းစားခဲ့ခြင်းလော။ ယခုတော့ သူမသည် ကေ၏လက်ထဲတွင် ညှိုးနွမ်းလျက် ရှိချေပြီ။

"ဖရီဒါ"

ကေက ခေါ်လိုက်ရာ အမျိုးသမီးက ကော်ဖီဖျော်နေသည်ကို ချက်ချင်း ချထားခဲ့ပြီး ကေထိုင်နေသော စားပွဲခုံသို့ သွားသည်။

"အစ်ကို ညီမကို စိတ်ဆိုးနေသလား"

"မဆိုးပါဘူး။ ညီမ နေရထိုင်ရတာ အဆင်မပြေဘူးလို့ ထင်တယ်။ ဟာရင် ဟော့မှာဆိုရင် ညီမ ပျော်နေတာပဲ။ အစ်ကို ညီမကို အဲဒီမှာပဲ နေခိုင်းဖို့ ကောင်းတယ်"

ဖရီဒါက ရှေ့တည့်တည့်ကို ငေးစိုက်ကြည့်နေရာက…

"ဟုတ်တယ်။ ညီမ အဲဒီမှာပဲ နေဖို့ကောင်းတယ်။ ညီမက အစ်ကိုနဲ့ အတူ နေဖို့ မကောင်းဘူး။ ညီမကို လက်လွှတ်သွားရင် အစ်ကိုဖြစ်ချင်တာတွေ အားလုံး အောင်မြင်နိုင်တယ်။ အစ်ကိုဟာ ညီမအတွက်ကြောင့် ကျောင်းဆရာရဲ့ တင်းကျပ်ရက်စက်မှု အောက်မှာ ရောက်နေရတယ်။ အစ်ကိုက ညီမအတွက်နဲ့ ကလမ်နဲ့တွေ့ရအောင် အစွမ်းကုန်ကြိုးစားနေတာပဲ။ အဲဒါတွေအားလုံး

ညီမကြောင့်ပဲ။ ညီမက အစ်ကို့ကို ဘာမှပြန်ပြီးမပေး နိုင်ဘူး"

"မဟုတ်ဘူး၊ မဟုတ်ဘူး" ကေက သူမကို နှစ်သိမ့်သည့်အနေဖြင့် လက်ဖြင့် ရစ်ပတ် သိုင်းဖက်လိုက်ပြီး "ဒီကိစ္စတွေက အသေးအဖွဲတွေပဲ။ အစ်ကို့ကို ဘာမှ မထိခိုက်ဘူး။ နောက်ပြီးတော့ အစ်ကို ကလမ်နဲ့တွေ့ချင်တာဟာ ညီမ ကြောင့်ချည်း မဟုတ်ဘူး။ ညီမ အစ်ကို့အတွက် လုပ်ပေးခဲ့တာတွေ အများ ကြီးပဲ။ ညီမနဲ့ မတွေ့ခင် တုန်းကဆိုရင် အစ်ကိုဟာ အမှောင်ထဲမှာ တဝဲလည်လည်ပဲ။ ဘယ်သူကမှ အစ်ကို့ကို လက်မခံဘူး။ အစ်ကိုက တစ်ယောက်ယောက်နဲ့ ဆက်သွယ်လိုက်ရင် အစ်ကို့အလုပ်ကိစ္စ အကြောင်း ပြောတော့တာပဲ။ အစ်ကို့မှာ နည်းနည်းလေး ဖော်ရွေမှုရမယ်ဆိုရင်လည်း အစ်ကိုဟာ အဲဒီအသိုင်းအဝိုင်းအတွက် ပြောချင်တာပဲ။ ဥပမာ ဗာနေဗက် မိသားစုမျိုး ဆိုပါတော့လေ"

"အစ်ကို ဗာနေဗက်မိသားစုအတွက် ပြောချင်သလား။ တကယ်ပဲလား အစ်ကို"

ဖရီဒါက စိတ်အားထက်သန်စွာ မေးလိုက်သည်။

ကေ ခေတ္တမျှ တုံ့ဆိုင်းနေပြီးနောက်...

"အင်း ဟုတ်တယ်"

သို့သော် ကေသည် ဖရီဒါဘက်လှည့်ပြီး ဘာတွေပြောင်းလဲသွားသည် ကိုတော့ ရှင်းမပြပါ။ ကေက သိုင်းဖက်ထားသော သူ့လက်ကို တဖြည်းဖြည်း ချင်း ဖြေလိုက်သည်။ သူတို့နှစ်ယောက် အတော်ကလေးကြာအောင် တိတ်ဆိတ်စွာ ထိုင်နေ ကြသည်။

နောက်ဆုံးတွင် ဖရီဒါက...

"လက်ရှိဘဝကို ညီမ သည်းမခံနိုင်ဘူး။ အစ်ကို ညီမနဲ့အတူတူနေချင်ရင် တစ်နေရာရာကို သွားပါ။ ပြင်သစ်ပြည်တောင်ပိုင်းကိုဖြစ်စေ၊ စပိန်ကိုဖြစ်စေ"

"အစ်ကို မသွားနိုင်ဘူး။ အစ်ကိုက ဒီမှာနေရအောင် လာတာပဲ။ အစ်ကို ဒီမှာပဲနေရမယ်"

ထို့နောက် ကေ ဆက်ပြောသည်။

"ညီမကလည်း ဒီမှာပဲ နေချင်ပါတယ်။ ဒါ ညီမရဲ့ နိုင်ငံပဲ။ တစ်ခုပဲရှိတယ်၊ ညီမ ကလမ်ကို လွမ်းလို့ ဒီမဟုတ်မဟတ်စိတ်ကူးတွေ ဝင်လာတာပဲ"

"ညီမ ကလမ်ကိုလွမ်းလို့ ဟုတ်လား။ ညီမ ဒီကနေ တခြားကိုသွားချင်တယ် ဆိုတာ ကလမ်ရဲ့လက်က လွတ်မြောက်ချင်လို့ပဲ"

"ဒါဆိုရင် ညီမက အခုထက်ထိ ကလမ်နဲ့ အဆက်အသွယ် ရှိနေလို့ပေါ့။ သူက ညီမကို အခေါ်လွှတ်လို့လား"

"ကလမ်အကြောင်း ညီမ ဘာမှမသိဘူး။ ညီမ အခုပြောနေတာက တခြား လူတွေအကြောင်းပဲ။ လက်ထောက်နှစ်ယောက် အကြောင်းပဲ"

"အို လက်ထောက်တွေ အကြောင်းလား။ သူတို့က ညီမကို အနှောင့် အယှက် ပေးလို့လား"

"အစ်ကို သတိမထားမိဘူးလား"

"အမှတ်တမဲ့ပဲ။ ဒီကောင်တွေက တဏှာကြီးတဲ့ပုံစံပဲ။ ဒါပေမဲ့ ဒီကောင်တွေ ညီမကို ကြည့်ရဲမယ့်ပုံစံတော့ မရှိဘူးထင်တယ်"

"မထင်ဘူး၊ ဟုတ်လား။ တံတားတည်းခိုခန်းတုန်းက သူတို့ကို လွယ်လွယ်နဲ့ အစ်ကို့အခန်းက မောင်းထုတ်လို့မရတာ သတိမထားမိဘူးလား။ သူတို့က အစ်ကို့ရဲ့ လှုပ်ရှားမှုတွေကို မနာလိုစိတ်နဲ့ စောင့်ကြည့်နေကြတယ်။ တစ်ယောက်ကဆိုရင် ညီမ အိပ်တဲ့နေရာမှာ ဝင်အိပ်တယ်။ လွန်ခဲ့တဲ့ တစ်မိနစ် လောက်တုန်းကဆိုရင် အစ်ကို့ကို ဒီနေရာက မောင်းထုတ်ပြီး ညီမနဲ့ နှစ်ယောက်တည်း ကျန်ရစ်ခဲ့အောင် ကြိုးစားကြတယ်။ ဒါတွေကို အစ်ကို သတိမထားမိဘူးလား" ကေက ဘာမှပြန်မပြောဘဲ ဖရီဒါကို ငေးကြည့်နေသည်။ လက်ထောက်တွေအပေါ် သူမ၏ စွပ်စွဲချက်တွေက အမှန်ပဲဖြစ်သည်။ သို့သော် ဒီကိစ္စက သူတို့တွေ၏ တာဝန်မဲ့မှု၊ ကလေးဆန်မှု၊ စည်းကမ်းမရှိမှုများဟု ပြောနိုင်သည်။ နောက်ပြီးတော့ သူတို့က ဖရီဒါနဲ့ ကျန်ရစ်ခဲ့ရန် မကြိုးစားဘဲ ဘယ်နေရာပဲဖြစ်ဖြစ် ကေနှင့်အတူတူ လိုက်ပါရန် ကြိုးစားခဲ့ကြသည်မ ဟုတ်လား။

"ဒါက သူတို့ရဲ့ လိမ်လည်လှည့်စားမှုပဲ။ အဲဒီတော့ အစ်ကို သူတို့ကို မောင်း မထုတ်ဘူးလား"

သူမက ပြတင်းပေါက်ဆီသို့ လျှောက်သွားသည်။ ပြတင်းပေါက် ကန့်လန့် ကာကို ဘေးဘက်သို့ အနည်းငယ် ဆွဲလိုက်သည်။ သူတို့က အခုအထိ လက်ရန်း အနီးမှာပဲ ရှိနေကြဆဲဖြစ်သည်။

"ကောင်းပြီ၊ ကိုယ် သူတို့ကို အပြီးအပိုင် မောင်းထုတ်ပစ်လိုက်မယ်"

ဖရီဒါက သူမ၏အလုပ်ကို ပြန်စသည်။ ကေကလည်း တံမြက်စည်းကို ပြန်ကိုင်လိုက်သည်။

ခဏအကြာတွင် တံခါးခေါက်သံ တိုးတိုးကြားရသည်။

"ဗာနေဗက်ပဲ"

ကေက ပြောလိုက်ပြီး တံမြက်စည်းကိုပစ်ချကာ တံခါးပေါက်ဆီသို့ လျှောက်သွားသည်။ ဖရီဒါက ဗာနေဗက်ဟူသော နာမည်ကြောင့် ထိတ်လန့် သွားပြီး သူ့ကို ငေးကြည့်နေသည်။ ကေသည် လက်တွေ တုန်နေသဖြင့် တံခါးသော့ကို တော်တော်နှင့် ဖွင့်မရဘဲရှိသည်။

"အခုချက်ချင်းဖွင့်ပေးမယ်"

သူက တံခါးခေါက်သူ မည်သူနည်းဟု မေးမနေတော့ဘဲ ပြောလိုက်သည်။ ဖွင့်လိုက်သော တံခါးမှ ဝင်လာသူမှာ ဗာနေဗက် မဟုတ်ပါ။ စောစောက သူ့အား စကားပြောရန် ကြိုးစားခဲ့သော ကောင်ကလေးသာ ဖြစ်နေသည်။

"ဘာကိစ္စရှိလို့လဲ၊ စာသင်ခန်းက ဟိုဘက်မှာပဲ"

"ကျွန်တော် အဲဒီက လာတာပဲ"

ကောင်ကလေးက လက်နှစ်ဖက်ကို ဘေးသို့ချကာ ကေ့အား မော့ကြည့် ရင်း

ပြောလိုက်သည်။

"ဘာကိစ္စရှိလို့လဲ"

ကောင်ကလေးက အသံတိုးတိုးနှင့်ပြောသဖြင့် ကေက အနည်းငယ် ကုန်း ငုံ့ကာ မေးရသည်။

"ဦးကို ကျွန်တော် ကူညီရမလား"

"သူက တို့ကို ကူညီမလို့ပဲ"

ကေက ဖရီဒါကို ပြောလိုက်သည်။ ထို့နောက် ကောင်ကလေးဘက်သို့ လှည့်လျက်...

"မင်းနာမည် ဘယ်သူလဲ"

"ဟန်ဘရန်ဝစ်၊ စတုတ္ထတန်း။ မက်ဒလင်းဂက် ဆီက ဖိနပ်ချုပ်သမားကြီး အော်တိုဘရန်ဝစ်ရဲ့ သားပါ"

"အင်း ဟုတ်ပြီ။ မင်းနာမည်က ဟန်ဘရန်ဝစ်ကိုး"

ကေက ပျော့ပျောင်းသော အသံဖြင့် ပြောလိုက်သည်။

ဆရာမက ကေ၏လက်ကို အရှိုးအစင်းတွေ ထင်အောင် ရိုက်လိုက်သည် ကို သည်းမခံနိုင်သဖြင့် ဟန်ရောက်ရှိလာခြင်း ဖြစ်သည်။ ကေ ဘက်မှ ရပ်တည်ရန် သူက ချက်ချင်းပင် ဆုံးဖြတ်လိုက်သည်။ စစ်ပြေးတစ်ယောက် ရန်သူဘက်သို့ ထွက်ပြေးသည့် အလား သူသည် ပြင်းထန်သော အပြစ်ပေး ခံရမည်ကို သိလျက်နှင့်ပင် တစ်ဖက်စာသင် ခန်းမှ ရဲရင့်စွာ ထွက်လာခဲ့ခြင်း ဖြစ်သည်။ ပထမတော့ သူ ရှက်ရွံ့နေသေးသည်။ သို့သော် မကြာမီမှာပင် ကေနှင့် ဖရီဒါတို့နှင့် နေသားကျလာသည်။ ကော်ဖီပူပူလေးတစ်ခွက် တိုက် လိုက်သောအခါ သူသည် လန်းဆန်း သွက်လက်လာပြီး သူ သိချင်သော အချက် အလက်တို့ကို မေးမြန်းတော့သည်။ သူ မေးမြန်းနေသဖြင့် သူ တို့၏အလုပ်များ အကုန် ရပ်တန့်ကုန်သည်။ သူတို့ မနက်ခင်း မုန့်စားရန်ပင် ကြန့်ကြာနေတော့သည်။

ဟန်သည် စင်မြင့်ပေါ်ရှိ ဆရာထိုင်သော ခုံပေါ်တွင်ထိုင်နေပြီး ကေနှင့် ဖရီဒါက ကုလားထိုင် တစ်လုံးပေါ်တွင် ထိုင်နေသဖြင့် ဟန်က ဆရာတစ် ယောက်ပမာ သူတို့ကို စစ်ဆေးနေပြီး သူတို့၏ အဖြေများကို အဆုံးအဖြတ် ပေးနေသည့်ပမာ ဖြစ်သည်။ သူ့နှုတ်ခမ်း စုံတွင် ရေးရေးလေး ပေါ်နေသော အပြုံးက သူ၏ကျေနပ်နှစ်သက်မှုကို ပြနေသည်။

အံ့ဩစရာကောင်းသည်ကတော့ နောက်ပိုင်း ပြောစကားများအရ သူသည် လက်ဆီမန်းထံသို့ ကေ လာကတည်းက ကေ့အား သိရှိခဲ့ခြင်းပင် ဖြစ်သည်။ သည်တော့ ကေ ပျော်သွားသည်။

"အဲဒီတုန်းက မင်းက အမျိုးသမီးရဲ့ခြေရင်းမှာ ဆော့နေတာမဟုတ်လား"

"ဟုတ်ပါတယ် သူက ကျွန်တော့်မေမေပဲ"

သူ့အမေအကြောင်း ပြောပြသည်။ အထပ်ထပ်မေးခါမှ မပြောချင် ပြော ချင် မျိုးနှင့် ဖြစ်သည်။ သူက တစ်ဦးတည်းသော သားဖြစ်သည်။ သို့သော် အချို့မေးခွန်း

များကို သူ မဖြေနိုင်ဘဲရှိသည်။

ဟန်၏အမေက အနည်းငယ် နာမကျန်းဖြစ်နေသည်။ သူမ၏ရင်ခွင်ထဲမှ ကလေးငယ်က ဟန်၏နှမကလေးဖြစ်သည်။ သူမ၏နာမည်ကလည်း ဖရီဒါ ပင် ဖြစ်သည်။ သူ့အား မေးခွန်းများ ထုတ်နေသော အမျိုးသမီးနှင့် နာမည် ချင်း ဆင်နေသည်ကို ဟန် သဘောမကျပါ။

သူတို့မိသားစုက ရွာထဲမှာပင် နေသည်။ သို့သော် လက်ဆီမန်းတို့ မိသားစု နှင့် အတူတူမဟုတ်ပါ။ လက်ဆီမန်းတို့ထံသို့ ရေချိုးရန် လာရောက်ခြင်း ဖြစ်သည်။ လက်ဆီမန်းတို့ ထံတွင် ဧရာမ ရေစည်ပိုင်းကြီး ရှိသည်။ ထို အထဲတွင် ကလေးတွေ ရေချိုးကြသည်။ သို့သော် သူတို့နှင့် ဟန် အမျိုးမ တော်ပါ။

ဟန်က သူ့ဖခင်အကြောင်းကို တလေးတစား ပြောသည်။ သူ့ဖခင်က ဤ နယ်တစ်ဝိုက်တွင် ဧရာမ ဖိနပ်ထောင်ဆရာကြီး ဖြစ်၏။ သူ၏လုပ်ငန်းများ ကို အခြားသူများသို့ ခွဲအပ်ရသည်။ ထိုအထဲတွင် ဗာနေဗက်၏ ဖခင်လည်း ပါဝင်သည်။

ရဲတိုက်ကြီးသို့ သူ ရောက်ဖူးသလားဟု အကြိမ်ကြိမ် မေးမြန်းသောအခါတွင်ကား အဖြေက "ဟင့်အင်း" ဖြစ်သည်။ သူ၏မိခင်ကော ရောက်ဖူး သလားဟု မေးသောအခါတွင်မူ သူက မဖြေပါ။

နောက်ဆုံးတွင် ကေက မေးရမြန်းရသည်မှာ မောလာသည်။ မိသားစု တစ်စု၏ အတွင်းရေးကို ကလေးငယ်တစ်ယောက်ထံမှ မေးနေရသည်မှာ သင့်လျော်ပါ။

ကေက စကားစကို ပိတ်သည့်အနေဖြင့် မေးမြန်းသည်မှာ ကောင်ကလေးအနေနှင့် သူတို့ကိုသာ ကူညီလိုပါသည်ဟု ပြောသည်။ ထိုအခါ အဖြေက မ ဟန်ပါ။ ကေနှင့် ဖရီဒါတို့ ဆရာများ၏ အဆူမခံရအောင် သူ့အနေနှင့် ကျောင်းတွင်းအလုပ်များကို သူ လုပ်ပေးလိုကြောင်း ပြောသည်။ ကေက ယင်းသို့ သူ လုပ်ပေးရန် မလိုကြောင်း ပြောသည်။ ဆူပူကြိမ်းမောင်းခြင်းမှာ ဆရာများ၏ ဝသီသာဖြစ်သည်။ အလုပ်များမှာ သည်မျှ မခက်ခဲပါ။

ဟန်က အခြားအကူအညီ ဘာလိုသနည်းဟု မေးသောအခါ ကေ ဝမ်းသာ ရသည်။ ကောင်လေးက သူမတတ်နိုင်သော အလုပ်ကို သူ့အဖေထံ ပြော ပေးမည်ဟု ဆိုသည်။ သူ့အဖေမှာ အခက်အခဲရှိလျှင်လည်း သူ့အမေထံမှာ ပင် အကူအညီ တောင်းမည်ဟု ဆိုသည်။

သူ့အမေက ကေ့အကြောင်း တစ်ခါမေးဖူးသည်ဟု ဆိုသည်။ မြေတိုင်းစာရေးကြီးသည် လက်ဆီမန်းအိမ်သို့ နောက်တစ်ကြိမ် လာသေး သလားဟု မေးသည်ဟု ဆိုသည်။ သူက နောက်ထပ်လာတာ မတွေ့ရ ကြောင်း ပြောသည်။ ယခု ကေ့အား ကျောင်းတွင် တွေ့ရသည်ကို သူ့အမေ အား ပြန်ပြောပြမည်ဟု ဆိုသည်။

ကေသည် ခေတ္တမျှ စဉ်းစားနေပြီးနောက် သူ့တွင် အကူအညီ မလိုအပ် ကြောင်း၊ လိုအပ်သည်များအားလုံး ပြည့်စုံကြောင်း၊ သို့သော် ဟန်က သူ့ကို

ကူညီလိုသည့်အတွက် ကျေးဇူးတင်ကြောင်း၊ သူ၏စေတနာအတွက် ကျေးဇူးတင်ကြောင်း၊ နောင် အကူအညီလိုသောအခါ ဟန်အား အကြောင်းကြားမည်ဖြစ်ကြောင်း ပြောကြားပြီး သူ၏လိပ်စာကို ပေးလိုက်သည်။ ကျေးဇူးတုံ့ပြန်သည့် အနေဖြင့် ကေ့အနေနဲ့ သူ့ကို အနည်းငယ် ကူညီ နိုင်ကြောင်း၊ ဟန်၏မိခင် နေမကောင်းဟူ၍ စိတ်မကောင်းကြောင်း၊ သူ့မိခင်၏ ရောဂါအရင်းအမြစ်ကို ရွာထဲကလူများ ဘယ်သူမျှမသိရှိကြ ကြောင်း၊ ဤအခြေအနေအတိုင်း ပစ်ထားခဲ့လျှင် တစ်နေ့လျှင် အပ်နှင့်ထွင်း ရမည့် ကိစ္စကို ပေါက်ဆိန်နှင့် ပေါက်နေရမည်ဟု သူက ပြောပြသည်။ ထို့နောက် ကေက သူသည် ဆေးပညာ အနည်းငယ်နားလည်ကြောင်း၊ သူ့တွင် နာမကျန်းသူ အများအပြားကို ကုပေးခဲ့ရသည့် အတွေ့အကြုံရှိ ကြောင်း၊ ဆရာဝန်တချို့ လက်လွှတ်ရမည့် ရောဂါ တော်တော်များများကို ပင် သူ ကုသနိုင်ကြောင်း ပြောပြသည်။

သူ၏ဆေးပညာစွမ်းကြောင့် သူ့အရပ်ဒေသတွင် သူ့ကို {ဆေးခါးကြီး} ဟုပင် ခေါ်ဆိုကြကြောင်း ပြောသည်။ ဘယ်လိုပင်ဖြစ်ဖြစ် သူသည် ဟန်၏မိခင်နှင့် တွေ့ဆုံပြီး စကားပြောလိုကြောင်း၊ သူမကို အကြံကောင်း ဉာဏ်ကောင်းများ ပေးလိုကြောင်း ပြောကြားသည်။

ပထမတွင် ဟန်သည် ရှင်လန်းအားတက် သွားပုံရသည်။ သို့သော် နောက်ပိုင်းတွင် ဟန်က သူ၏မိခင်သည် သူစိမ်းတစ်ယောက်နှင့် တွေ့ခွင့် မရှိကြောင်း၊ သူ့ကို ကောင်းစွာ စောင့်ရှောက် ကာကွယ်ထားကြောင်း ပြောသည်။

ထိုရက်ပိုင်းက ကေသည် သူမနှင့် စကားမပြောရသော်လည်း သူမသည် အိပ်ရာထဲတွင် ထုံးစံအတိုင်း ရက်ပေါင်းများစွာ လဲနေခဲ့သည်။ သို့သော် ဟန်၏ဖခင်ကမူ အလွန်အမင်း စိတ်ဆိုးနေပြီး ကေ့ကို သူတို့အိမ်သို့ လာခွင့် မပြုချေ။ အမှန်တကယ်တွင် ကေ့အား ရန်ပြုရန်ပင် ဖြစ်သော်လည်းကေ၏မိခင်က တားထားရသည်။

ဟန်၏မိခင်သည် မည်သူနှင့်မျှ စကားမပြောလိုသော်လည်း ကေ့ အကြောင်းကို သူ စုံစမ်းမေးမြန်းသည်ဟု ဆိုသည်။ ကေနှင့် တွေ့လိုသည်ဟု ဆိုသည်။ သို့သော် တကယ်တော့ မတွေ့ပါချေ။ သူမက ကေ့အကြောင်း သိ ချင်ခြင်းသာ ဖြစ်သည်။ သို့သော် ကေနှင့် သူ စကားမပြောလိုပါချေ။

တကယ်တော့ သူမက နေကောင်းပါသည်။ သူမမှာ ဘာရောဂါမှ မရှိပါ။ သူမက ရာသီဥတုနှင့် သဟ္ဇာယ မမျှခြင်းသာဖြစ်သည်။ သို့သော် သူမက ကလေးတွေနှင့် ယောကျာ်းနှင့် ခွဲရမည်စိုး၍ တခြား ဘယ်ကိုမျှ ထွက်မသွားပါ။

ဤတွင် ဟန်သည် သူ့မိခင်ကို အထူးကာကွယ်လိုကြောင်း ကေ တွေ့မြင်ရသည်။ သူက ကေ့အား ကူညီလိုသော်လည်း သူ့မိခင်ကို ကေ့လက်မှ ကာ ကွယ် လိုဟန်ရှိသည်။ သူ၏ဖခင်ကလည်း ဇနီးသည်အား ကာကွယ်လိုဟန် ရှိသည်။ သို့ဖြင့် ကေက သူ့မိခင်ကို တောင်းပန်ကြောင်းပြောရန် ဟန်အား မှာကြားရသည်။

သို့သော် နောက်တစ်ခု ကေ နားမလည်သည်ကတော့ ဟန်၏ ပြောစကား

များအရ သူ့မိခင်သည် နေမကောင်းဖြစ်နေသည်မှာ မှန်သော်လည်း ဇနီးသည်၏ ကျန်းမာရေးအတွက် တစ်နေရာရာသို့သွားရန် အဘယ့်ကြောင့် ခွင့် မပြုသနည်း။ တကယ်တော့ သူမသည် သူ့ယောကျ်ားနှင့် သားသမီးများကို ခေါ်ပြီး တစ်နေရာရာသို့ သွားနိုင်သည်။ သိပ်အဝေးကြီး သွားစရာမလိုပါ။ သိပ်အကြာကြီး သွားစရာမလိုပါ။ လေကောင်းလေသန့်ရှိရာ ရဲတိုက်ကြီး တောင်ကုန်းပေါ်သို့ သွားလျှင်ပင် လုံလောက်ပေပြီ။

ဟန်၏ဖခင်သည် အပန်းဖြေ ခရီးစရိတ်အတွက် ဘာမျှ ပူစရာမရှိပါ။ သူက ဤအရပ်ဒေသတွင် ရောမဖိနပ် ကုမ္ပဏီပိုင်ရှင်ကြီး ဖြစ်သည်။ ထို့အပြင် ၎င်းအနေနှင့် သော်လည်းကောင်း၊ ၎င်း၏ ဇနီးအနေနှင့်သော် လည်းကောင်း သူတို့ကိုလက်ခံမည့် ဆွေမျိုးများ သို့မဟုတ် အသိမိတ်ဆွေ များ ရဲတိုက်ကြီးတွင် ရှိမည်မှာ အမှန်ပင်။

အဘယ့်ကြောင့် သူက သူမကို မသွားစေသနည်း။

သူက ရောဂါအခြေအနေကို အဘယ်ကြောင့် လျှော့တွက်ရသနည်း။

ကေသည် သူမကို တစ်မိနစ်လောက်သာ တွေ့မြင်လိုက်ရသော်လည်း သူမသည် ဖြူလျော့ပြီး အားနည်း ပန်းလျနေသည်ကို တွေ့မြင်လိုက်ရပါသည်။ ထိုအချိန် ကတည်းကပင် ကေ အံ့သြရသည်မှာ ဇနီးသည်ကို ထိုင်းမှိုင်းသော အဝတ်လျှော်ခန်းနှင့် ရေချိုးခန်းတွင်ထားပြီး ၎င်းက အခြားသူများနှင့် ကျယ်လောင်စွာ စကားပြောဆိုနေသည်ကို အဘယ့်ကြောင့် မထိန်းချုပ် သနည်း။

ဟန်၏ဖခင်သည် အခြေအနေကို တကယ်ပင် မသိ၍လော။

လွန်ခဲ့သော ရက်သတ္တပတ်အနည်းငယ်က သူမ၏ ရောဂါအခြေအနေ သည် အတော်ကလေး တိုးတက် ကောင်းမွန်လာသည်။ သို့သော် ဤရောဂါ များသည် တက်လိုက်ကျလိုက် ဖြစ်သည်။ အကယ်၍ အချိန်မီ မကုသခဲ့လျှင် လူနာကို ကယ်တင်နိုင်သည့် အခြေအနေမရှိပါ။ ကေသည် ဤအကြောင်း ကို သူမနှင့် ပြောခွင့်မကြုံလျှင်လည်း သူမ၏ခင်ပွန်းကိုတော့ ပြောပြရပေ မည်။

ဟန်သည် ကေ ရှင်းသမျှကို ဂရုစိုက်ပြီး နားထောင်သည်။ ဆိုလိုရင်းကို အတော်ကလေး သဘောပေါက်ပုံလည်း ရသည်။ သို့တစေ သူ့ဖခင်နှင့် မ ပြောဆိုရန် တားမြစ်သည်။ အကြောင်းမှာ သူ့ဖခင်က ကေ့အား သဘောမ ကျသောကြောင့် ဖြစ်သည်။ ကေ့အား ကျောင်းဆရာက ဆက်ဆံသလိုမျိုး ဆက်ဆံလိမ့်မည်ဟု ဆိုသည်။

သို့သော် ကေသည် သူ့ဖခင်မရှိသည့်အချိန်တွင် သူ့မိခင်နှင့် စကားပြော နိုင်သည်ဟု ဆိုသည်။ အမျိုးသမီး တစ်ယောက်သည် တားမြစ်ထားသော ကိစ္စတစ်ခုကို အပြစ်မဖြစ်ရန် အကြံထုတ်သည့် အနေမျိုးဖြင့်၊ သူသည် ရှေ့ တည့်တည့်သို့ အတန်ကြာ စူးစိုက်ကြည့်နေပြီးနောက် သန်ဘက်ခါဆိုလျှင် ဖြစ်နိုင်သည်ဟု ဆိုသည်။ ထိုနေ့ ညနေဘက်တွင် သူ့ဖခင်သည် ဟာရင် ဟော့ တည်းခိုခန်းသို့ သွားရန်ရှိသည်။ အဲဒီမှာ အစည်းအဝေး တစ်ခုရှိသည်။

ထိုအချိန်တွင်ဟန် လာပြီး ကေ့အား သူ့အမေထံ ခေါ်သွားမည်။ သူ့ အမေက သဘောတူလိမ့်မည်ဟု ထင်ရသည်။ သို့သော် ဖြစ်နိုင် စရာတော့ မ ရှိပါ။ သူ့မိခင်သည် သူ့ဖခင် သဘောမတူသည့် မည်သည့်အလုပ်ကိုမျှ မလုပ် ချေ။ သူ့မိခင်က သူ့ဖခင်၏အလိုကို အမြဲတမ်းပင် လိုက်လျောသည်။ အချို့ အရာ များသည် ယထာဘူတ မကျဟုပင် ဟန် ယူဆသည်။

ဒီမတိုင်ခင် ကတည်းကပင် ကေသည် ဟန်အား စင်မြင့်ပေါ်သို့ ခေါ်ထားပြီး သူ၏ဒူးခေါင်းနှစ်ခုကြားတွင် ယုယစွာ ဖက်ထားသည်။ လူချင်းပူးကပ်နေမှုကြောင့် ဟန်က ကေ့အား ပိုမိုတွယ်တာနေသည်။

နောက်ဆုံးတွင် သဘောတူညီကြသည်မှာ ဤသို့ဖြစ်သည်။ ဟန်က သူ့ မိခင်အား အားလုံး ပြောပြထားသည်။ သူ့မိခင် သဘောတူစေရန်အတွက် ကေသည် သူ့ဖခင်နှင့်လည်း စကားပြောလိုသည်။ မိခင်အကြောင်းပြောရန် မဟုတ်ပါ။ သူ့ကိစ္စ တစ်ခုကို ပြောရန်ဖြစ်သည်။ ဘရန်ဝစ်သည် လူဆိုး လူကြမ်းတစ်ယောက် ဖြစ်သည့်တိုင် သူ့ရန်သူ မဖြစ်နိုင်ပါ။ အကယ်၍ ဖြစ်ခဲ့ သည်ဆိုလျှင်လည်း ကျေးရွာက ဥက္ကဋ္ဌထံမှ ရရှိသော သတင်းများအရ ဖြစ် ပေလိမ့်မည်။ တကယ်တော့ သူသည် မူအရ မြေတိုင်း စာရေးတစ်ယောက် ကို ငှားလိုသူဖြစ်သည်။ ဒီရွာသို့ ကေ ရောက်ရှိလာသည်ကို ဘရန်ဝစ် အနေနှင့် ကြိုဆိုလက်ခံပေလိမ့်မည်။ ကေ ရောက်သည့်နေ့က သူ့ထံတွင် ပထမဆုံး အကူအညီမတောင်းသည့် အတွက်သာ အထင်မှားနေခြင်းသာ ဖြစ်ပေလိမ့်မည်။ အကယ်၍သာ သူသည် သူ့အား အကူအညီတောင်းခဲ့လျှင် သူသည် ကျေးရွာဥက္ကဋ္ဌနှင့် ကျောင်းဆရာတို့က သူ့အား ရဲတိုက်ကြီးသို့ မ ရောက်စေရန် ကျောင်းစောင့်တစ်ဦးအဖြစ် ချောင်ထိုးထားသည်ကို လက်ခံ လိမ့်မည် မဟုတ်ချေ။

ယခုအခါ အားလုံး အဆင်ပြေသွားပြီ ဖြစ်သည်။ ဟန်လည်း စိတ်လက် ပေါ့ပါး သွားဟန်နှင့် ကေနှင့် အကြာကြီး စကားပြောနေသည်။ ထို့နောက် ဖရီဒါနှင့် စကား ပြောသည်။ စောစောပိုင်းက သူမစိတ်ကူးနှင့် သူမ ရှိနေ သေးသည်။ ဖရီဒါကလည်း သူတို့စကားဝိုင်းတွင် ဝင်ရောက်ပြောဆိုသည်။ ဖရီဒါက ဟန် ကြီးလာလျှင် ဘာဖြစ်ချင် သနည်းဟု မေးသည်။ ဟန်က ကြာကြာစဉ်းစားမနေဘဲ ကေ ကဲ့သို့သော လူကြီး တစ်ယောက် ဖြစ်ချင်သည်ဟု ဖြေသည်။ ဘာကြောင့်နည်းဟု မေးသောအခါ ဟန် ရေရေရာရာ မဖြေတတ်ပါ။ ကျောင်းစောင့်တစ်ယောက် ဖြစ်လိုတာလားဟု မေးသောအခါတွင်ကား မဟုတ်ဟုဖြေသည်။ ဖရီဒါ မေးဖန်များသောအခါ ထွက်ပေါ်လာသော အဖြေမှာ ကေကို အလားအလာရှိသော သူတစ်ယောက်ဟု တွက်ဆ သောကြောင့်ဖြစ်သည်။

ကေ စိတ်ခေတ်ပြန်လည်တကြွကလာပြီး ဟန် သူ့ကို ဘာဖြစ်လို့အားကျ ကြောင်း သူ သိသည်ဟု ပြောလိုက်သည်။ သူ၏ လှပသော လက်ကိုင်တုတ် ကလေးကြောင့် ဖြစ်သည်ဟု ဆိုလိုက်သည်။ စားပွဲပေါ်တွင် တင်ထားသော လက်ကိုင်တုတ်ကလေးကို ဟန်က စကားပြောနေသည့် တစ်လျှောက်လုံး

ကိုင်ကစားလျက်ရှိသည်။ ကေက ဒီလို လက်ကိုင်တုတ်မျိုးကို ဘယ်လိုလုပ်ရမှန်းသိသည်။ သူတို့၏စီမံကိန်း အောင်မြင်ခဲ့လျှင် ကေက ဒါ့ထက်လှသော လက်ကိုင်တုတ်တစ်ချောင်း လုပ်ပေးမည်ဟု ပြောလိုက်သည်။ ဟန်သည်လက်ကိုင်တုတ်ကြောင့်ပဲလား မသိ၊ ကေ၏ကတိအတွက် အထူးဝမ်းသာ သွားသည်။ သူက ပြုံးရွှင်သော မျက်နှာကလေးနှင့် သွားတော့မည်ဟု ဆိုပြီး ကေ၏ လက်ကို ဆုပ်ကိုင်လိုက်ပြီး ပြောသည်။

"ဒါဆိုရင် သန်ဘက်ခါပဲပေါ့"

ဟန်ထွက်သွားသည်မှာ အချိန်တော်ပင်ဖြစ်သည်။ သူထွက်သွားပြီး ဘာမှ မကြာခင်ကပင် ကျောင်းဆရာက တံခါးကို တွန်းဖွင့်လိုက်ပြီး စားပွဲတွင် အေးဆေးစွာ ထိုင်နေကြသော ကေနှင့် ဖရီဒါတို့ကို မြင်တွေ့ရသောအခါ

"ကျွန်တော် အနှောင့်အယှက် ပေးမိတယ်ဆိုရင် တောင်းပန်ပါတယ်။ ဒီအခန်းကို ဘယ်တော့ သပ်သပ်ရပ်ရပ် ဖြစ်အောင် လုပ်ကြမှာလဲ။ ကျွန်တော်တို့ဟာ ဒီမှာ ငါးသေတ္တာဘူးထဲမှာလို ထိုင်နေကြရတယ်။ စာသင်လို့မရဘူး။ ခင်ဗျားတို့က ရောမ အားကစားခန်းမကြီးထဲမှာ ဇိမ်ကျနေကြတယ်။ ခင်ဗျားတို့နှစ်ယောက် ပိုပြီး ကျယ်ကျယ်ဝန်းဝန်း နေရအောင် လက်ထောက်နှစ်ယောက်ကို မောင်းထုတ်ပစ်လိုက် ကြတယ်။ အဲဒီတော့ ခင်ဗျားတို့ အခုကစပြီး ကိုယ့်အလုပ် ကိုယ်လုပ်ကြပါ။ ကျောင်းဆရာက ဒေါ်နှင့်မောနှင့် ပြောခြင်းဖြစ်သော စကားလုံး အသုံးအနှုန်းများမှာ သိပ်ပြီး မပြင်းထန်လှပါ။ ကေက ပြောစကားများကို နားထောင်ရန် အသင့် ဖြစ်သော်လည်း ကျောင်းဆရာကို နည်းနည်းကလေး ကလိလိုသဖြင့်

"ကျွန်တော့်ကို နို့တစ် ပေးထားတယ်"

"နို့တစ်ပေးပေး မပေးပေး၊ ကျွန်တော့်အတွက် နေ့လယ်စာ ယူခဲ့ပါ"

ကျောင်းဆရာက ပြောသည်။

"နို့တစ်ပေးပေး မပေးပေး၊ အဲဒါကို ကျွန်တော် သေချာချင်တယ်"

"အဓိပ္ပာယ်မရှိတာပဲ။ နို့တစ်ကို ခင်ဗျားကမှ လက်မခံတာပဲ"

"ဒါဆိုရင် တရားမဝင်ဘူးပေါ့"

"ကျွန်တော့်အတွက်တော့ ဟုတ်တယ်။. ဒါပေမဲ့ ကျေးရွာဥက္ကဋ္ဌကြီး အတွက်တော့ ကျွန်တော် ဘယ်လိုမှ နားမလည်နိုင်ဘူး။ ကဲ ခင်ဗျား သွားစရာရှိတာသာ သွားတော့။ ဒါမှမဟုတ်ရင် ကျွန်တော် အတင်း တွန်းထုတ်မိလိမ့်မယ်။ ကျောင်းဆရာသည် ကျေးရွာဥက္ကဋ္ဌကြီးနှင့် ပြောပြီးပြီဟု ကေ တွက်ဆသည်။ သို့မဟုတ် မပြောရသေးတာလည်း ဖြစ်မည်။ သို့သော် မှန်းဆရသည်ကတော့ ကျေးရွာ ဥက္ကဋ္ဌကြီးသည် ကေ၏ဘက်မှ ရှိနေသည်။

ယခုအခါ ကေသည် နေ့လယ်စာယူရန် ထွက်သွားပြီ ဖြစ်သည်။ သို့သော် သူ တံခါးပေါက်သို့ ရောက်ချိန်တွင် ကျောင်းဆရာက ပြန်ခေါ်သည်။ သူက ကေ၏ နာခံမှုကို စမ်းသပ်ခြင်းပင် ဖြစ်လိမ့်မည်။ ဒါမှ ရှေ့တွင် မည်သို့ ဆက်ဆံရမည်ကို သူ

ဆုံးဖြတ်နိုင်မည်ဖြစ်သည်။ သို့မဟုတ် စားပွဲထိုးတစ် ယောက်လို ကေ ပြေးလိုက် လွှားလိုက်လုပ်နေရသည့် သူ၏ဩဇာအာဏာ ကို သဘောကျနေပုံ ရသည်။

ကေကလည်း သဘောပေါက်သည်။ သူ့ဘက်က အရမ်းအလျှော့ပေး လိုက်နာခြင်းဖြင့် သူသည် ကျောင်းဆရာ၏ ကျေးကျွန်တစ်ယောက် ဖြစ်သွားနိုင်သည်။ သို့သော် လောလောဆယ် အချိန်တွင် သူသည် ဤသတ္တဝါ၏ အာဏာပြမှုကို လက်ခံ လုပ်ဆောင်ရန် ဆုံးဖြတ်လိုက်သည်။ ဒီသတ္တဝါက သူ့ကို အလုပ်ဖြုတ်မပစ် နိုင်အောင်လည်း ရှေ့တွင် လုပ်ငန်းအဆင်မပြေမှု တွေ အများကြီးတွေ့နိုင်သည်။

ဤအလုပ်သည် ယခုအခါ သူ့အတွက် ပိုပြီးအရေးကြီးလာသည်ဟု ကေ တွက်မိသည်။ ဟန်နှင့် စကားပြောဆိုလိုက်ရသည့်အတွက် သူ့မှာ မျှော်လင့်ချက်အသစ်တွေ ထွက်ပေါ်လာသည်။ မဖြစ်နိုင်သည့် အချက်များ ရှိနေသော်လည်း ဗာနေဗက်ထက် ပိုပြီး မျှော်လင့်အားထားနိုင်သည်။ သူတို့ကို သူ အလျှော့ပေး ဆက်ဆံခဲ့လျှင် သူ့ဘက်က အခွင့်အလမ်းတွေ အများကြီး ရှိနိုင်သည်။ စားရေးသောက်ရေး နေထိုင်ရေးနှင့် ဖရီဒါ အတွက်ပါ အဆင်ပြေနိုင်သည်။ သူက ဖရီဒါနှင့်ပတ်သက်ပြီး အလွန်စိုးရိမ် ပူပန် နေသည်။

ယင်းအတွက် ဤအလုပ်ကို သူ လက်ခံပေးရမည်။ ဤအလုပ်က ဖရီဒါ အတွက် လုံခြုံမှုရှိသည်။ ယင်းသို့ဖြင့် သူသည် တည်းခိုခန်းသို့ နေ့လယ်စာ ယူရန် သွားတော့မည် ရှိသည်။ ဒုတိယအမိန့်ကို သူ လိုက်နာဆောင်ရွက်သည်။ ပထမဆုံး အခန်းကို သန့်ရှင်းသပ်ရပ်အောင် လုပ်သည်။ ယင်းမှသာ ဆရာမနှင့် ကျောင်းသားများ ပြန်လာနိုင်ကြမည် ဖြစ်သည်။

ကေသည် အခန်းကို နေသားတကျဖြစ်အောင် အပြေးအလွှား လုပ်ရသည်။ အခန်းကိစ္စပြီး၍ နေ့လယ်စာ သွားယူသောအခါ ကျောင်းဆရာမှာ အတော်ကြီး ဆာလောင် နေပြီဖြစ်သည်။ ကေက သူ့ဆန္ဒအတိုင်းဖြစ်အောင် လုပ်ပါသည်ဟု ချော့ရသည်။ ကေ အပြေးအလွှားလုပ်သည်များကို ကျောင်းဆရာ ကြည့်နေသည်။ ကောက်ရိုးအိတ်ကို ဖယ်ရှားပစ်ခြင်း၊ အားကစားပစ္စည်းများကို နေသားတကျ ပြန်ထားခြင်း၊ ဖရီဒါက စင်မြင့် ကြမ်းပြင်ကို ဆေးကြောသုတ်သင်နေစဉ် သူက အခန်းကို တံမြက်စည်း လှည်းသည်။ သူတို့၏လုပ်ဆောင်မှုကို ကျောင်းဆရာ သဘောကျနေသည်။ မီးဖိုအတွက် ထင်းတွေက တံခါးအပြင်ဘက်မှာ ပုံနေဆဲရှိသည်။ သူက ကေ့ အား ယင်းတဲအတွင်း ဝင်ခွင့်မပြုတော့ပါ။ ထို့နောက် ကျောင်းဆရာက တစ်ခါပြန်လာပြီး စစ်ဦးမည်ဟု ခြိမ်းခြောက်ပြီး ထွက်သွားသည်။

ဖရီဒါသည် အတော်ကလေးကြာအောင် တိတ်ဆိတ်စွာ အလုပ်လုပ်နေ ပြီးနောက် ယခုအခါ ဘာဖြစ်လို့ ကျောင်းဆရာကို ဒါလောက်ကျိုးနွံရသနည်း ဟု ကေ့အား မေးလိုက်သည်။ သူမက စာနာထောက်ထားသော၊ စိုးရိမ် ကြောင့်ကြသော လေသံဖြင့် မေးလိုက်ခြင်း ဖြစ်သည်။ သူမက ကတိပြု ထားသည့်အတိုင်း ကျောင်း ဆရာ၏အမိန့်နှင့် စော်ကားမှုများကို ကာကွယ် ပေးပါမည်ဟု ကတိပြုထားသည့်

အတိုင်း လုပ်ဆောင်ပေးနေသည်။ ကေက သူသည် ကျောင်းစောင့်တစ်ဦး ဖြစ်သဖြင့် တာဝန်ကို ကျေပွန်အောင် ထမ်း ဆောင်ခြင်းသာ ဖြစ်သည်ဟု တိုတိုတုတ်တုတ် ပြန်ပြောသည်။

ထို့နောက် အတန်ကြာ တိတ်ဆိတ်နေပြီးနောက် ဟန်နှင့် စကားပြောနေစဉ် တစ်လျှောက်လုံး ဖရီဒါ တိတ်ဆိတ်နေသည်ကို သတိရပြီး ထင်းတွေကို သူ သယ်လာသည့်အတွက် သူမကို ဘာအနှောင့်အယှက် ဖြစ်ရသနည်းဟု ဗြုန်းစားကြီး တဲ့တိုးကြီး မေးလိုက်သည်။ သူမက သူ့ဘက်သို့ တဖြည်းဖြည်း လှမ်းလှည့်ကြည့်ရင်း ဘာ့ကြောင့် မှတော့ မဟုတ်ပါ၊ တည်းခိုခန်းပိုင်ရှင် အမျိုးသမီးမှာ သူမ ပြောနေသည့် စကားများ မှန်နေ၍ ဖြစ်သည်ဟု ဆိုလိုက်သည်။

ကေက အတင်းမေးသောအခါတွင်မှ ဖရီဒါက မဖြေချင့်ဖြေချင်နှင့် ပြောသည်။ ဟန်နှင့် ကေတို့ ပြောနေကြစဉ်တွင် သူမက အသာကလေး နားထောင်နေခဲ့သည်။ ကေ ပြောလိုက်သော စကားအချို့အတွက် သူမ ထိတ်လန့်ရသည်။ ယင်းစကားရပ် များ၏အဓိပ္ပာယ်ကို တဖြည်းဖြည်း နားလည်လာရသည်။ ယခင်က တည်းခိုခန်း ပိုင်ရှင်အမျိုးသမီး၏ စကား များကို သဘောပေါက် လာရသည်။

ဖရီဒါ၏ မျက်ရည်စက်လက် စကားများထက် သူ့ပြဿနာထဲတွင် တည်းခိုခန်း ပိုင်ရှင်အမျိုးသမီး ဝင်ရောက်လာသဖြင့် ကေ ပိုပြီး စိတ်အနှောင့်အယှက် ဖြစ်ရသည်။ ကေက လက်ထဲတွင် ပိုက်လာသော ထင်းများကိုကြမ်းပြင်ပေါ် ပစ်ချလိုက်ပြီး ယင်းထင်းတုံး များပေါ်တွင် ထိုင်ချလိုက်သည်။ ထို့နောက် အားလုံးကို အမှန်အတိုင်း ပြောပြရန် တောင်းဆိုလိုက်သည်။ ဖရီဒါက...

"အစ်ကို့ကို သတိထားရန် မဒမ်က တစ်ကြိမ်မက ပြောခဲ့တယ်။ အစ်ကို လိမ်ညာပြီး ပြောနေတာလို့ သူက ဆိုလိုတာမဟုတ်ဘူး။ အဲဒါနဲ့တောင် ဆန့်ကျင်ဘက်ပဲ။ အစ်ကိုက ကလေးတစ်ယောက်လို ပွင့်လင်းတယ်တဲ့။ ဒါပေမဲ့ အစ်ကို့ရဲ့သဘော သဘာဝက ညီမတို့နဲ့ ဆန့်ကျင်ဘက် ဖြစ်နေတယ်တဲ့။ အစ်ကိုက ပွင့်ပွင့်လင်းလင်း ပြောနေတဲ့ အဲဒီစကားတွေကို ညီမတို့အနေနဲ့ ယုံဖို့ခက်တယ်တဲ့။ သူ့စကားအတိုင်း ပြောရရင် တံတားတည်းခိုခန်းမှာ အစ်ကိုနဲ့ သူ နောက်ဆုံး စကားပြောပြီးကြတဲ့အခါမှာ သူဟာ အစ်ကို့ရဲ့လှည့် ဖြားမှုတွေကို သိလာတယ်တဲ့။ အဲဒီနောက်ပိုင်းမှာတော့ အစ်ကို ဟာ သူ့ကို ဘယ်လိုမှ မလှည့်စားနိုင်တော့ဘူးတဲ့။ ညီမနဲ့ ပတ်သက်တာတွေကို အစ်ကို သူ့ကို ပြောခဲ့တယ်။ အစ်ကိုက ညီမကို အသုံးချနေတာပဲ။ သူက ဒီအတိုင်းပဲ ပြောခဲ့တယ်။ ဘာဖြစ်လို့တုံးဆိုတော့ ညီမက သူ သွားရမယ့်လမ်းမှာ ရှိနေတယ်။ မဒမ်ပြောတာက အစ်ကိုဟာ ဟာရင်ဟော့တည်းခိုခန်းမှာ ညအိပ် ချင်တယ်။ အဲဒီလိုအိပ်ဖို့ရာ ညီမက တစ်ဆင့်လွဲလို့ အခြားဘယ်နည်းနဲ့မှမ ဖြစ်နိုင်ဘူး။ ညီမဟာ အစ်ကို့ရဲ့ တစ်ညတာချစ်သူ ဖြစ်ဖို့ထက် အစ်ကို့မှာ ဒါ့ ထက်အရေးကြီးတဲ့ အခြားကိစ္စရှိတယ်။ အဲဒါကတော့ ကလမ်ပဲ။

"ကလမ်ဆီက အစ်ကို ဘာလိုချင်သလဲ ဆိုတာကိုတော့ မဒမ်က မပြောဘူး။ ဒါပေမဲ့ အစ်ကိုဟာ ညီမနဲ့မတွေ့ခင်ကတည်းက ကလမ်ဆီကို ရောက် ဖို့ ကြိုးစားနေတယ်။ ဒါပေမဲ့ ညီမနဲ့ မတွေ့ခင်တုန်းက အစ်ကို့မှာ မျှော်လင့် ချက်မရှိဘူး ဖြစ်နေတယ်။ ဒါပေမဲ့ အခုဆိုရင် ညီမကနေတစ်ဆင့် ကလမ် ဆီကို ရောက်နိုင်တယ်ဆိုတာ အစ်ကို သဘောပေါက် သွားတယ်လေ။ အစ်ကို့အတွက် အကျိုးအများကြီး ရှိနိုင်တယ်။ အစ်ကိုက ညီမကို ကလမ်ရဲ့ ချစ်သူအဖြစ် တွက်တယ်။ အဲဒီတော့ ညီမကို ပြန်ပေး ဆွဲထားရင် အစ်ကို လိုချင်တဲ့ ပြန်ပေးငွေကို ရနိုင်တယ်လေ။ အစ်ကို့ရဲ့ရည်မှန်းချက်က ညီမကို ဓားစာခံအဖြစ် အသုံးပြုဖို့ပဲ။

"အဲဒီတော့ ညီမဟာ ဟာရင်ဟော့က အလုပ်ကို ဆုံးရှုံးခဲ့ရတယ်။ နောက်ပြီးတော့ တံတားတည်းခိုခန်း ကလည်း ညီမ ထွက်ခဲ့ရတယ်။ လောလောဆယ်မှာ ညီမဟာ ပင်ပင်ပန်းပန်းအလုပ်တွေကို လုပ်နေရတယ်။ အစ်ကိုဟာ ညီမအပေါ်မှာ ညှာတာမှု လုံးဝမရှိဘူး။ အစ်ကို့မှာ ညီမ အတွက် စဉ်းစားဖို့ အချိန်မရှိဘူး။ ညီမကို အစ်ကို့ လက်ထောက်တွေနဲ့ လွှတ်ထားတယ်။ အစ်ကို့မှာ မနာလိုဝန်တိုမှုဆိုတာ မရှိဘူး။

"နောက်ပြီးတော့ အစ်ကိုဟာ မဒမ်နဲ့ ကဏ္ဍာကောစ လုပ်ခဲ့တယ်။ အစ်ကိုနဲ့ ညီမကို ခွဲနိုင်တဲ့လူဟာ သူတစ်ယောက်တည်းရှိတယ်လို့ အစ်ကို ယူဆလို့ပဲ။ အစ်ကို သူနဲ့ ရန်ဖြစ်ခဲ့တယ်။ ဒါမှ အစ်ကိုက တံတားတည်းခိုခန်းက ထွက် လာနိုင်မှာဖြစ်တယ်။ အစ်ကို့အဖို့ ကလမ်နဲ့တွေ့ရေးဟာ အလုပ်ကိစ္စပဲ။ အစ် ကို့အတွက် ရောမ အကျိုးအမြတ်ပဲ။ အဲဒီလိုဖြစ်နိုင်အောင် အစ်ကို အမျိုးမျိုး ကြိုးပမ်းခဲ့တယ်"

ဖရီဒါသည် ကေနှင့် မျက်နှာချင်းဆိုင်တွင် ခပ်မတ်မတ်ဆိုကာ မျက်နှာကို ဖုံးကွယ်မနေတော့ဘဲ တသိမ့်သိမ့် ငိုကြွေးလျက် ရှိသည်။ ကေ၏ သစ္စာဖောက်မှုအတွက် ငိုကြွေးနေခြင်းဖြစ်သဖြင့် ဘာတစ်ခုမှ ဖုံးကွယ်နေ စရာ မလိုတော့ပါ။ သူ့အတွက် လွှိုကား နေရခြင်းဖြစ်ကြောင်း ကေအား သိသာထင်ရှားစေတော့သည်။

"ချာတိတ်ကလေးနဲ့ ပြောနေတာတွေကို နားထောင်ရကတည်းက အရာရာဟာ အားလုံး ပြောင်းလဲ သွားတော့တယ်။ အစ်ကိုဟာ ချာတိတ်ကလေးရဲ့ မိသားစု အကြောင်းကို အမှတ်မထင် သဘောမျိုးနဲ့ တောင်တစ်စ မြောက်တစ်စ လျှောက်မေးနေတယ်။ ညီမ သဘောပေါက် လိုက်တာ ကတော့ အစ်ကို ဟိုညက ဘားခန်းထဲကို လာပြီး ဟိုမေးဒီမေးနဲ့ ညီမရဲ့စိတ် အာရုံကို ဖမ်းစားတဲ့ အတိုင်းပဲ။

"အခုလည်း အစ်ကိုက အဲဒီပုံစံအတိုင်းပဲ။ ညီမစိတ်ထဲမှာ တည်းခိုခန်း ပိုင်ရှင် ကတော်လည်း ဒီမှာရှိနေပြီ။ အစ်ကိုပြောတာတွေကို နားထောင်နေ စေချင်တယ်။ အဲဒါဆိုရင် သူ့ရဲ့သဘောထားဟာ နဂိုကအတိုင်းပဲလားဆိုတာ ညီမတို့ သိရမယ်။ ညီမ ဘာကြောင့်မှန်းတော့ မသိဘူး။ ဖြုန်းခနဲ သတိထား မိတာကတော့ အစ်ကိုဟာ ချာတိတ်ကလေးကို ရည်ရွယ်ချက်တစ်ခုနဲ့ ပြော နေတယ် ဆိုတာပဲ။

သူ့ကို အစ်ကို သိမ်းသွင်းနိုင်ခဲ့တယ်။ ဒါဟာ သိပ်မလွယ်ဘူး။ အစ်ကို့ရဲ့ တည်ဆောက်ထားတဲ့ စကားလုံးတွေနဲ့ အစ်ကိုလိုချင်တဲ့ အ ဆင့်ကိုရခဲ့တယ်။ ဒါကို ညီမ တစ်စထက်တစ်စ သဘောပေါက်လာတယ်။ အစ်ကို့ရဲ့ပစ်မှတ်ကတော့ ဟိုအမျိုးသမီးပဲ။ အဲဒီအမျိုးသမီးနဲ့ ပတ်သက်ပြီး အစ်ကိုမေးတဲ့ မေးခွန်းတွေက အစ်ကို့ကိစ္စအတွက်ပဲ။ အဲဒီအမျိုးသမီးကို အစ်ကို မသိမ်းသွင်းရခင် ကတည်းက အစ်ကို သစ္စာဖောက်ခဲ့တယ်။

"အစ်ကို့စကားတွေအရ ညီမ သဘောပေါက်လာတာကတော့ ညီမရဲ့ အတိတ်တင်မဟုတ်ဘူး၊ ညီမရဲ့အနာဂတ်ရေးပဲ။ ပိုင်ရှင်ကတော်က ညီမ ဘေးမှာထိုင်ပြီး အားလုံးကို ရှင်းပြနေသလိုပဲ။ ညီမဟာ သူ့ကို တွန်း ထုတ်ပစ်တယ်။ ဒါပေမဲ့ မရဘူး။ ဒါပေမဲ့ သစ္စာဖောက်ခံရတာက ညီမ မဟုတ်ဘူး။ အဲဒီ ဘုမသိ ဘမသိ အမျိုးသမီးပဲ။

"ညီမက ဟန်ကို မေးကြည့်တယ်။ မင်း ကြီးရင် ဘာဖြစ်ချင်သလဲလို့၊ သူက အစ်ကို့လိုမျိုး ဖြစ်ချင်တယ်လို့ ဖြေတယ်။ သူဟာ အစ်ကို့ရဲ့ လွှမ်းမိုးမှု အောက်ကို လုံးဝရောက်နေပြီး ခြားနားတာကတော့ ကောင်ကလေးက ခုအသိမ်းသွင်းခံရတာနဲ့ ယမကာအခန်းထဲမှာ ညီမ အသိမ်းသွင်းခံခဲ့ရတာပဲ"

ကေက အသေအချာနားထောင်ပြီးနောက်

"ညီမပြောတာတွေအားလုံးဟာ ဖြစ်နိုင်ပါတယ်။ မဟုတ်မမှန်တာတွေ မဟုတ်ပါဘူး။ ဒါပေမဲ့ ထောက်ခံတဲ့သဘောပဲ ရှိပါတယ်။ ဒါတွေအားလုံး ဟာ ပိုင်ရှင် ကတော်ရဲ့ အယူအဆတွေပဲ။ ညီမရဲ့စိတ်ကူးမို့ ညီမထင်တဲ့ အတိုင်း မဟုတ်ပါဘူး။ ပိုင်ရှင်ကတော်ရဲ့ အယူအဆတွေပါ။ အဲဒီအတွက် အစ်ကို စိတ်သက်သာ ရပါတယ်။ ဒါတွေဟာ ညွှန်ကြားချက်တွေပါ။ ပိုင်ရှင် ကတော်ဆီက အများကြီး လေ့လာစရာတွေ ရှိပါတယ်။ သူက ဒီစကားတွေ ကို အစ်ကို့ကို မပြောဘူး။ သူက ဒီစကားတွေကို ညီမ ခေါင်းထဲကို ထည့် ပေးလိုက်တယ်။ ညီမက ဒါကို အသုံးပြုလိမ့်မယ်။ တကယ်လို့ အစ်ကိုဟာ ညီမကို စိတ်ထိခိုက်အောင် လုပ်တယ်ဆိုရင် သူကလည်း ညီမကို အလားတူ စိတ်ထိခိုက်အောင် လုပ်နေတာပဲ။

"ဒါပေမဲ့ ဖရီဒါ၊ သေသေချာချာ စဉ်းစားကြည့်စမ်းပါ။ တည်းခိုခန်း ပိုင်ရှင်မကြီး ပြောတာအားလုံး မှန်တယ်ဆိုရင် အင်မတန် ရှက်စရာကောင်းတဲ့ အချက်က ပေါ်လွင်လာတယ်။ အဲဒါ ညီမက အစ်ကို့ကို မချစ်ဘူးဆိုတာပဲ။ ဒါဆိုရင် အစ်ကိုဟာ အမြတ် ထုတ်တဲ့အနေနဲ့ ညီမကို ပိုင်ဆိုင်ခဲ့တာပဲ။ အဲဒါ ဆိုရင် အစ်ကိုဟာ ညီမရဲ့ မနာလိုမှုကို ရရှိအောင် အော်လဂါနဲ့ လက်ချင်း ချိတ်ခဲ့တာပဲ။ ပိုင်ရှင်မကြီးဟာ အစ်ကို့အပေါ် မကောင်းတာတွေ ပြောတဲ့ နေရာမှာ ဒီအချက်ကို မေ့နေခဲ့တယ်နဲ့တူတယ်"

"ပြောရမှာ ခက်တယ် အစ်ကို။ ညီမကို အစ်ကို မပြောဘဲထားတာတွေ အများကြီးရှိတယ်။ အစ်ကို ဘယ်ကလာတယ်ဆိုတာ ညီမ မသိဘူး။ အခုပဲ ကြည့်လေ၊ ဟန်က တံခါးခေါက်တဲ့အခါမှာ အစ်ကိုက ဗာနေဗက်ရဲ့နာမည် ကို

ပြောတယ်။ အစ်ကိုဟာ တစ်ချိန်မှာ အကြောင်းတစ်ခုခုရှိလာရင် ညီမနာမည်ကိုပြောရင် ဘယ်လောက် ကောင်းမလဲ။ အစ်ကို လက်ထောက်နှစ်ယောက်ကို မောင်းထုတ်ပစ်တာ ညီမကြောင့် မဟုတ်ဘူး"

"ဒီမှာ ဖရီဒါ၊ ကုန်ကုန်ပြောမယ်၊ အစ်ကို ညီမ မသိအောင် လျှို့ဝှက်ထားတာ ဘာမှမရှိဘူး။ ပိုင်ရှင်မကြီးက အစ်ကို့ကို ဘယ်လောက်မုန်းတယ်ဆို တာ ညီမသိပါတယ်။ သူဟာ ညီမကို အစ်ကို့လက်ထဲက ရအောင် လုယူ တာပဲ။ ဒီမယ် ဖရီဒါ၊ ညီမကို အစ်ကို လျှို့ဝှက်စရာ ဘာရှိသလဲ။ အစ်ကို ကလမ်နဲ့ အရမ်းတွေ့ချင်နေတယ်ဆိုတာ ညီမသိတယ်။ ဒါကို ညီမ ဘာမှ မကူညီနိုင်ဘူး။ အဲဒီတော့ အစ်ကို့နည်းနဲ့ အစ်ကို သူ့ဆီရောက်အောင် လုပ် တယ်ဆိုတာ ညီမ သိပါတယ်။ အခုအထိလည်း အစ်ကို မအောင်မြင်သေးဘူးဆိုတာ ညီမသိပါတယ်။ အစ်ကို သူ့ကို အဲဒီလိုတွေ့ဖို့ ကြိုးစားရင်း ဘယ်လောက်သိက္ခာကျခဲ့ရသလဲ။ ချမ်းချမ်းစီးစီးထဲမှာလည်း တစ်ညနေလုံး သူ့ရဲ့ စွတ်ဖားရှေ့မှာ စောင့်နေခဲ့ရတယ်။ နောက်ဆုံးမှာ ညီမဆီကို အပြေးအလွှားပြန်ခဲ့တယ်။ ညီမက အစ်ကို့ကို ဆီးပြီး အပြစ်တင်တယ်"

"အင်း... ဟုတ်တယ်၊ ဗာနေဗက်ကိစ္စ အစ်ကို သူ့ကို စောင့်နေတာ အမှန်ပဲ။ သူက ကလမ်ရဲ့ ဆက်သားပဲ"

"လာပြန်ပြီလား ဗာနေဗက်၊ ညီမကတော့ သူဟာ ဆက်သားတစ်ယောက် မဟုတ်ဘူးလို့ ထင်တယ်"

ဖရီဒါက ပြောလိုက်သည်။

"ညီမပြောတာ ဖြစ်နိုင်ပါတယ်။ ဒါပေမဲ့ သူ အစ်ကို့ဆီကိုလွှတ်တဲ့ တစ်ဦးတည်းသော ဆက်သားပဲ"

"ဆိုးတာကတော့ အစ်ကို သူ့ကို ဘာပြုလို့ သတိမထားသလဲ"

"အခုအထိတော့ သူက သတိထားရမယ့် အခြေအနေ မရှိသေးလို့ပဲ"

ကေ ပြုံးပြီး ပြောသည်။

"သူက တစ်ခါတလေမှ လာတယ်။ ပြီးတော့ သူ့မှာ အရေးကြီးတဲ့ သတင်းတွေ ပါမလာဘူး။ ကလမ်ဆီက လာတယ်ဆိုတာပဲ ပြောစရာရှိတယ်"

"ဒါပေမဲ့ အစ်ကို အခု အရေးကြီးဖြစ်နေတာက ဟာန်ရဲ့အမေပဲ မဟုတ် လား"

"ဟုတ်တယ်၊ တကယ်အမှန်ပဲ။ မျှော်လင့်ချက်ရှိတဲ့ ဘယ်ကိစ္စကိုမဆို အမိအရ ဆုပ်ကိုင်ထားရမယ်။ အဲဒီအမျိုးသမီးက ရဲတိုက်ကြီးက လာတာပဲ။ အမျိုးသမီးကိုယ်တိုင်ပြောတာပဲ။ လက်ဆီမန်းတို့အိမ်ကို အစ်ကို ပထမဆုံး ရောက်သွားတဲ့နေ့ကပဲ။ ဒီအမျိုးသမီးဟာ ကလမ်ဆီကို ရောက်နိုင်တဲ့ နည်း လမ်းကို သိတယ်။ ဘာပြုလို့လဲ ဆိုတော့ သူကိုယ်တိုင်က အဲဒီက လာလို့ပဲ"

"ကလမ်ဆီကိုလား"

ဖရီဒါက မေးသည်။

"ကလမ်ဆီကိုပေါ့၊ တခြားဘာဖြစ်ရဦးမလဲ" ထို့နောက် သူ ခုန်ပြီး ထ လိုက်ကာ "ဒါနဲ့ နေ့လယ်စာ စားဖို့အချိန် အများကြီးရောက်နေပြီ"

ဖရီဒါက စောင့်ရန်ပြောသည်။

သို့သော် ကေက ကျောင်းဆရာကို သတိရနေသည်။ တံခါးပေါက်ကို လက်ညှိုးထိုးပြသည်။ ဝုန်းခနဲဆို အချိန်မရွေး ပွင့်လာနိုင်သည်။ အမျိုးသမီး က မီးပင် မမွေးရပါ။ ကေကိုယ်တိုင်လုပ်သည်။

နောက်ဆုံးတော့ ဖရီဒါ အလျှော့ပေးလိုက်ရသည်။

အပြင်ဘက် နှင်းတောထဲသို့ ကေ ထွက်သွားသည်။ စောစောက နှင်းတွေ ကို ဖယ်ရှားပြီး လမ်းဖောက်ထားသည်။ ယခု နှင်းတွေ ပြန်ပုံနေသည်။ လက်ထောက် တစ်ယောက် အခုအချိန်အထိ လက်ရန်းမှာ တွယ်နေသည်ကိုတွေ့ရသည်။ တစ်ယောက်တည်း ဖြစ်သည်။ အခြားတစ်ယောက် ဘယ် ရောက်နေသနည်း။

"အတော်ခေါင်းမာတဲ့ ကောင်ပဲ။ ဒီအတိုင်းဆိုရင် ဒီကောင် လက်ရန်းပေါ်မှာတင် သေွးခဲ သွားလိမ့်မယ်"

ကေ တစ်ယောက်တည်း ပြောလိုက်သည်။

ထို့နောက် လက်ထောက်တစ်ယောက်အနီးသို့ ကပ်မလာနိုင်ရန် သူ့ လက်သီးကို အသင့်ပြင်ထားသည်။ တကယ်တမ်းတွင်လည်း လက်ထောက်သည် ခပ်ဝေးဝေးသို့ ထွက်ပြေးသွားပြီ ဖြစ်သည်။

ထိုအချိန်တွင် ဖရီဒါသည် နေ့လယ်စာအတွက် မီးမမွေးခင် အခန်းတွင်းသို့ လေကောင်းလေသန့်ဝင်နိုင်ရန် အခန်းတံခါးကို ဖွင့်လိုက်သည်။ ထို့နောက် ပြတင်းပေါက်ဆီသို့ လျှောက်သွားသည်။

သူမ၏မျက်နှာက လက်ထောက်အတွက် စိတ်မကောင်းဟန်ရှိသလို ကေ့ အား တောင်းပန်ဟန်လည်း ရှိသည်။ ထို့နောက် သူမ၏လက်ကို ပြတင်းပေါက် အပြင်ဘက်သို့ ထုတ်လိုက်သည်။ ယင်းအချက်မှာ လက်ထောက်ကို နှုတ်ဆက်လိုက်သည်လား သို့မဟုတ် ထွက်သွားဟု အမိန့် ပေးလိုက်သည်လား မကွဲပြားပါ။

ထို့နောက် ဖရီဒါသည် ပြတင်းပေါက်ကို လျင်မြန်စွာ ပိတ်လိုက်သည်။ သို့သော် ပြတင်းပေါက်၏ နောက်ဘက်တွင် မတ်တတ်ရပ်လျက် ရှိသည်။ သူမ၏ မျက်နှာပေါ်တွင်ကား အပြုံးတစ်ခုရှိနေသည်။

သူမ ထိုကဲ့သို့ရပ်နေသည်မှာ လက်ထောက်ကို မောင်းထုတ်နေသည်ထက် ဆွဲခေါ်နေရာကျကြောင်း သိသာလှသည်။ သို့သော် ကေက ထပ်မကြည့်တော့ပါ။ သူက မြန်မြန်သွားပြီး မြန်မြန်ပြန်လာရမည်ဟု တွေးနေမိပါသည်။

# ၁၄

အတော်ကြီးကြာသောအခါ ညနေ မှောင်ရီပျိုးသော အချိန်တွင် ကေသည် ဥယျာဉ်တွင်း လမ်းကို ရှင်း၍ ပြီးသွားသည်။ လမ်းဘေးတွင် ပုံထားသော နှင်းများကို ဟသွားအောင် ထုရိုက်လေသည်။ တစ်နေ့အတွက်တော့ သူ့ အလုပ် ပြီးချေပြီ။

သူက ဥယျာဉ်တံခါးဝ ကျယ်ကြီးတွင် တစ်ယောက်တည်း ရပ်နေသည်။ ကျန်ရှိနေသော လက်ထောက် တစ်ယောက်ကိုလည်း ခပ်စောစောကပင် သူ မောင်းထုတ် ပစ်ခဲ့ပြီးပြီ။ သူ့ကို အတော်ကြီး ဝေးအောင် မောင်းထုတ်ခဲ့သည်။ သို့သော် သူသည် ဥယျာဉ်နှင့် ကျောင်းအဆောက်အအုံကြား တစ်နေရာတွင် ပုန်းအောင်းနေခဲ့သည်။ သူ့ကို ရှာမတွေ့ပါ။ သူကလည်း သူ့ မြင်ကွင်းထဲ ထွက်မလာပါ။

ဖရီဒါကတော့ အဆောက်အဦအတွင်းမှာ ဖြစ်သည်။ အဝတ်တွေကိုပဲ လျှော်နေသလား၊ ဂီဆာ၏ ကြောင်ကြီးကိုပဲ ရေချိုးပေးနေသလား မသိပါ။ ယခုအခါ ဂီဆာသည် သူမ၏ ကြောင်ကြီးကိစ္စကို ဖရီဒါအား စိတ်ချလက်ချ လွှဲထားပါသည်။ ယင်းအလုပ်ကို ကေ မကြိုက်ပါ။ သို့သော် သူတို့က ဂီ ဆာ၏ စိတ်ကောင်းဝင်မှုကို အရအမိ ဆုပ်ကိုင်ထားကြရမည်ဖြစ်သည်။

အပေါ်ခေါင်မိုးခန်းမှ ကလေးရေချိုးသည့် စည်တစ်လုံး ကေ ယူလာပြီး ရေနွေးစပ်ကာ ကြောင်ကြီးအား သေသေချာချာ ရေချိုးပေးနေသည်ကိုလည်း ဂီဆာက ကျေနပ်နှစ်သက်စွာ ကြည့်နေသည်။ ထို့နောက် လက်ထောက်ရဲတိုက်မှူးကြီး၏ သား ရှဝါဇာ ရောက်ရှိလာသဖြင့် ဂီလည်ရန် ဖြစ်သည်။ တံခါးဝမှာ တစ်မိနစ် နှစ်မိနစ်လောက် ရပ်ပြီး သူ မေး စရာရှိတာ မေးမည်။ သူ မကြာခင်တစ်ခေါက် ပြန်လာမည်ဟု ပြောမည်။

သို့ဖြင့် သူသည် ဂေါ်ပြားကို ရေခဲပြင်ထဲသို့ ပစ်လိုက်ပြီးနောက် အပြေး ကလေး ထွက်ခဲ့သည်။ ဗာနေဗက်အိမ်သို့ သူ မောကြီးပန်းကြီးဖြင့် ရောက် သွားသည်။ တံခါး ခေါက်လိုက်သောအခါ တံခါးပွင့်သွားသည်။ အိမ်ထဲတွင် မည်သူတွေ ရှိသည်ကို ကြည့်မနေတော့ဘဲ "ဗာနေဗက် ပြန်ရောက်ပလား" ဟု မေးလိုက်သည်။

ထိုအခါတွင်မှ အိမ်ထဲတွင် အော်လဂါမရှိကြောင်း သတိပြုမိသည်။ အဘိုးကြီး အဘွားကြီး နှစ်ယောက်သာလျှင် စားပွဲတစ်ဖက်ထိပ်တွင် ထိုင်နေကြသည်။ သူတို့က တံခါးပေါက်ဝတွင် ဘာဖြစ်သည်ကို မသိကြဘဲ ယခုမှ သူ တို့၏ခေါင်းများကို ဖြည်းလေးစွာ လှည့်ကြည့်ကြသည်။ နောက်ဆုံးကျမှ မီးဖိုအနီးတွင် စောင်တစ်ထည်ခြုံပြီး လဲလျောင်းနေသော အမာလီယာကို တွေ့ရသည်။ ကေ့အား ရုတ်တရက် မြင်တွေ့လိုက်ရသော အခါ သူမသည် ထိတ်လန့်သွားပြီး သူမကိုယ် သူမ ထိန်းသည့်အနေဖြင့် သူမ၏နဖူးပေါ်သို့ လက်တင်လိုက်သည်။

အကယ်၍ အော်လဂါသာ ထိုနေရာတွင် ရှိခဲ့လျှင် ချက်ချင်းပင် အဖြေ စကား ပြောပေလိမ့်မည်။ ထိုအခါ ကေလည်း ပြန်သွားတော့ရုံသာ ရှိသည်။ ယခုတော့ သူက လူကြီးတွေ ထိတ်လန့်ပြီး တံခါးဆီသို့မသွားဖို့ရန် ပြောပေး ဖို့ အမာလီယာကို ပြောရသည်။ အမာလီယာက စကား တစ်ခွန်း နှစ်ခွန်းဖြင့်ပင် လူကြီးတွေကို တားလိုက်သည်။

အော်လဂါသည် ခြံထဲတွင် ထင်းခွဲနေကြောင်း ကေ သိရသည်။ အမာလီယာက အနည်းငယ် ပင်ပန်းနေသဖြင့် စောစောကလေးကပင် အိပ်ရာထဲ လှဲနေခြင်းဖြစ်သည်။ အဘယ့်ကြောင့် ပင်ပန်းနွမ်းနယ် နေကြောင်းကိုတော့သူမက မပြောပါ။

ဗာနေဗက် ပြန်မရောက်သေးပါ။ သို့သော် သူ မကြာမီ ပြန်လာမည် ဖြစ်သည်။ အကြောင်းမှာ သူသည် ဘယ်တော့မှ ရဲတိုက်ကြီးမှာ ညအိပ်နေ လေ့မရှိသောကြောင့် ဖြစ်သည်ဟု သူမက ရှင်းပြသည်။

ယခုလိုပြောကြားပေးသည့်အတွက် ကျေးဇူးတင်ကြောင်း ကေက ပြော လိုက်သည်။ ထို့နောက် သူသည် ပြန်သွားရုံပဲဖြစ်သည်။ သို့သော် အမာလီ ယာက အော်လဂါကို မစောင့်တော့ဘူးလားဟု မေးသည်။

အော်လဂါနှင့် နေ့ခင်းက မတွေ့ကြဘူးလားဟု အမာလီယာက မေးသည်။ ကေ အံ့အားသင့်သွားပြီး သူတို့ မတွေ့ကြကြောင်း၊ အော်လဂါအနေနှင့် သူ့ အား ဘာအကြောင်းထူးများ ပြောရန်ရှိ၍နည်းဟု မေးလိုက်သည်။

အမာလီယာသည် အနည်းငယ် ဒေါသဖြစ်သွားဟန်ဖြင့် နှုတ်ခမ်းကို တင်းလိုက်သည်။ ထို့နောက် နှုတ်ဆက်သည့်အနေဖြင့် ခေါင်းညိတ်လိုက်ပြီး အိပ်ရာပေါ်တွင် ပြန်ပြီး လဲလျောင်းလိုက်သည်။ သူမသည် လဲလျောင်း နေရာကပင် ယခုထက်တိုင် ထွက်မသွားသေးဘဲ ရှိနေသော သူ့အား အံ့သြသော မျက်လုံးများဖြင့် ကြည့်နေသည်။

သူမ၏အကြည့်က ထုံးစံအတိုင်းပင် အေးစက်သည်။ ကြည်လင်သည်။ ပြီးတော့ တည်ငြိမ်သည်။ သူမက အရာဝတ္ထုတစ်ခုကို ဘယ်တော့မှ စိုက်ကြည့် မနေဘဲ ကျော်လွန်ပြီး ကြည့်နေသကဲ့သို့ ရှိသည်။ အားနည်း၍မဟုတ်။ ကသိကအောက်ဖြစ်၍ မဟုတ်။ ယုံမှား သံသယဖြစ်၍လည်း မဟုတ်။ အထီးကျန်ဆန်သည့် သဘောပင် ဖြစ်သည်။

သည်အကြည့်ကို ဘယ်လိုမှ နားမလည်နိုင်ဖြစ်ရသည်ကို ကေက သူတို့ ပထမအကြိမ် တွေ့စဉ်က အဖြစ်ကို အမှတ်ရမိသည်။

"အမာလီယာ၊ ညီမကိုကြည့်ရတာ အမြဲတမ်း ဝမ်းနည်းပူဆွေးနေသလို မျိုးပဲ။

ညီမကို စိတ်အနှောင့်အယှက် ပေးနေတာ ဘာရှိသလဲ။ အဲဒါ ဘာ လဲဆိုတာ ပြောမပြနိုင်ဘူးလား။ မင်းလို မိန်းကလေးမျိုး ကိုယ် တစ်ခါမှ မ တွေ့ဖူးဘူး။ ညီမဟာ ဒီရွာကဆိုတာ တကယ်ပဲလား။ ညီမကို ဒီမှာ မွေးတာ လား"

သူမက နောက်ဆုံးမေးခွန်းတစ်ခုတည်းကို ဖြေသည့်အလား ခေါင်းညိတ်လိုက်သည်။ ထို့နောက်

"အဲဒီတော့ အစ်ကို အော်လဂါကို စောင့်မှာလား"

"ညီမ ဘာဖြစ်လို့ အစ်ကို့ကို ဒီမေးခွန်းကိုပဲ မေးနေသလဲဆိုတာ ကိုယ် နားမလည်ဘူး။ အစ်ကို ဒီမှာ သိပ်ကြာကြာမနေနိုင်ပါဘူး။ ဘာဖြစ်လို့လဲဆိုတော့ အိမ်မှာ ကိုယ့်ရည်းစားက စောင့်နေမှာမို့ပဲ"

အမာလီယာ တံတောင်ထောက်ပြီး ထလိုက်သည်။ ကေတို့ စေ့စပ်ကြမည်ကို သူမက သိရှိဟန်မတူပါ။

ကေက ဖရီဒါ၏နာမည်ကို ပြောလိုက်သည်။ အမာလီယာ ကြားဖူးဟန် မရှိပါ။ သူတို့ စေ့စပ်ကြမည်ကို အော်လဂါသိသလားဟု သူမက မေးသည်။

သူမ သိရှိသည်ဟု ကေ တွက်ဆလိုက်ပါသည်။ အကြောင်းမှာ သူနှင့်အတူ ဖရီဒါကို သူမ တွေ့မြင်ဖူးသောကြောင့်ဖြစ်သည်။ သည်သတင်းမျိုးက ကျေးရွာတစ်ရွာတွင် ချက်ချင်းပင် ပျံ့နှံ့ သွားတတ်ပါသည်။

သို့ရာတွင် ဒီကိစ္စကို အော်လဂါ ဘာမှမသိရှိကြောင်း အမာလီယာက ပြောသည်။ အကယ်၍ အော်လဂါ သိခဲ့လျှင်လည်း အတော်ကြီးပင် စိတ်မ ကောင်းဖြစ်လိမ့်မည်ဟု ဆိုသည်။ အကြောင်းမှာ အော်လဂါက ကေ့အား ချစ်နေသောကြောင့်ဟု ဆိုသည်။ အော်လဂါက သူမကို ယင်းကဲ့သို့ ဖွင့်မ

ပြောပါ။ သို့သော် အချစ်သည် အလိုလိုပင် ပွင့်ထွက်တတ်သည်ဟု အမာလီယာက ဆိုပါသည်။

အမာလီယာ အထင်မှားနေခြင်းဖြစ်ကြောင်း ကေက ပြောသည်။ ထိုအခါ အမာလီယာ ပြုံးသည်။ သူမ၏ လျှို့ဝှက်သော အပြုံးပင်ဖြစ်သည်။ ယင်းအပြုံးကြောင့် သူမ၏ မျက်နှာကလေး မသိမသာ လင်းထိန်သွားသည်။

အမာလီယာက သူမ မမှားပါဟု ဆိုသည်။ သည့်ထက်ထပ်ပြီးပြောရလျှင် ကေကလည်း အော်လဂါအပေါ် တိမ်းညွှတ်နေသည်ဟု ဆိုသည်။ ကေ အခု ကဲ့သို့ လာရောက်နေခြင်းသည် ဗာနေဗက်ထံမှ သတင်းကို လိုချင်၍ဟု ထင် ရသော်လည်း တကယ်တော့ အော်လဂါထံသို့ လာရောက်ခြင်းပင် ဖြစ်သည် ဟု ဆိုသည်။ ယခုအခါတွင် သူမက အားလုံးကို သိရှိသွားပြီဖြစ်သဖြင့် ကေသည် ယခင်ကလို ထိန်းမနေတော့ဘဲ သူမတို့ထံသို့ မကြာခဏ လာရောက် နိုင်သည်ဟု ဆိုသည်။ သူမ ပြောချင်တာကတော့ ဒါပါပဲဟု ဆိုသည်။

ကေ ခေါင်းခါလိုက်ပြီး သူ စေ့စပ်ထားသည့်အကြောင်း သတိပေးလိုက်သည်။ အမာလီယာက ဤစေ့စပ်ကြောင်းလမ်းမှုကို သိပ်ပြီး အမှုထားဟန် မရှိပါ။ ဖရီဒါနှင့် သိတုန်းက ကေသည် ဤရွာတွင် ရက်အနည်းငယ်သာလျှင် ရှိသေးသည် မဟုတ်လားဟု သူမက မေးသည်။ ကေက သူမအား ဟာရင်ဟော့တည်းခိုခန်းတွင် ဖြစ်ပျက်သည့် ညအကြောင်း ပြောပြလိုက်သည်။ ထိုအခါ အမာလီယာက ဟာရင်ဟော့ တည်းခို ခန်းသို့ ကေ သွားရောက်သည်ကို

သူမအနေနှင့် အထူးဆန့်ကျင်ကြောင်း ပြောသည်။

ထိုအချိန်တွင် ထင်းတွေ တစ်ပွေ့တစ်ပိုက်ကြီးနှင့် အခန်းတွင်းသို့ ဝင်လာသော အော်လဂါထံမှလည်း သူမက ထောက်ခံချက် တောင်းလိုက်သည်။ အော်လဂါသည် အခန်းတွင်း အောင်းနေရာမှ အပြင်သို့ ထွက်လိုက်သဖြင့် သန့်စွမ်း လတ်ဆတ်လာပုံ ရသည်။ သူမက ထင်းတွေကို ပစ်ချလိုက်ပြီးနောက် ကေ့အား နှုတ်ဆက်လိုက်သည်။ ထို့နောက် ချက်ချင်းဆိုသလိုပင် ဖရီဒါအကြောင်း မေးမြန်းသည်။

ကေက အမာလီယာကို လှမ်းကြည့်လိုက်သည်။

သူမက အော်လဂါ၏ မေးခွန်းကြောင့် စိတ်အနှောင့်အယှက်ဖြစ်သွားဟန် မရှိပါ။ ထိုအခါ ကေသည် စိတ်အနည်းငယ် သက်သာရာ ရသွားဟန်ဖြင့် ကျောင်း အဆောက်အအုံ တစ်ခုထဲတွင် အိမ်ထောင်တစ်ခု တည်ဆောက်နေသည်မှာ မလွယ်ကူကြောင်း ရှင်းပြလိုက်သည်။ သူက အိမ်ပြန်ချင်လှပြီဖြစ်၍ ခပ်မြန်မြန်ခပ်သွက်သွက် ရှင်းပြသည်။ သူက သတိလစ်သွားပြီး ညီအစ်မနှစ် ယောက်ကို နှုတ်ဆက်ရင်း သူ့ထံသို့ လာရောက် လည်ပတ်ရန် ဖိတ်ကြား လိုက်မိသည်။

သူက ဗလုံးဗလုံးနှင့် ဆက်လက်ပြောကြားစဉ်မှာပင် အမာလီယာက သူ့အား နောက်ထပ် ဘာစကားတစ်ခွန်းမှ ပြောခွင့်မပြုတော့ဘဲ ဖိတ်ကြားချက်ကို လက်ခံလိုက်သည်။ အော်လဂါကလည်း အလားတူပင် ရောပြီး လက်ခံလိုက်သည်။

သို့ရာတွင် ကေသည် ယခုချက်ချင်းပင် ပြန်သွားလိုစိတ် ရှိသော်လည်း ယခု ဖိတ်ကြားမှုသည် ကြိုတင်စီစဉ်ထားမှုမရှိဘဲ သူ့စိတ်ထဲတွင် ပေါ်လာသည့်အလျောက် ပြောလိုက်ခြင်းဖြစ်ကြောင်း၊ ဖရီဒါနှင့် သူတို့မိသားစုကြားတွင် မလိုမုန်းတီးမှုတွေ ရှိနေသည့်အတွက် မဖြစ်နိုင်ကြောင်းကို အနှောင့် အနှေးမရှိဘဲ ပြောလိုက်သည်။

"မလိုမုန်းတီးမှုတွေ မဟုတ်ပါဘူး။ ဒီလောက် မကြီးကျယ်ပါဘူး။ လူတွေ က တစ်ဆင့်စကား တစ်ဆင့်နား ပြောနေကြတာပါ။ ကဲသွားတော့၊ အစ်ကို့ အမျိုးသမီး ကလေးဆီကို သွားတော့။ အစ်ကို ရေးကြီးသုတ်ပျာ ဖြစ်နေတာ ကို ညီမ သိပါတယ်။ ညီမတို့ လာမှာကို အစ်ကို ဘာမှ စိုးရိမ်စရာ မရှိပါဘူး။

ညီမက သက်သက်နောက်တဲ့ အနေနဲ့ အပျော်အပြက် ပြောလိုက်တာပါ။ ဒါပေမဲ့ အစ်ကို့အနေနဲ့ ညီမတို့ဆီကို မကြာခဏ လာနိုင်ပါတယ်။ ဘာ အတားအဆီးမှ မရှိပါဘူး။ ဗာနေဗက်ဆီက သတင်းကိုလည်း အမြဲတမ်း အကြောင်းပြနိုင်ပါတယ်။ အစ်ကို စိတ်အေးလက်အေးရှိဖို့ ညီမ ပြောနိုင်တာ တစ်ခုရှိပါတယ်။ ဗာနေဗက်က အစ်ကို့အတွက်သတင်း ရဲတိုက်ကြီးက ရ ရင်လည်း အစ်ကို့ကိုတွေ့ရအောင် ကျောင်းကို လာနိုင်မှာ မဟုတ်ပါဘူး။ သူ ဒါလောက် အဝေးကြီး မသွားနိုင်ပါဘူး။ သတင်းကိုယူရအောင် အစ်ကိုပဲ လာခဲ့ပါ"

အမာလီယာက ပြောလိုက်သည်။

အမာလီယာ စကားတွေ ဒါလောက်အများကြီး အဆက်မပြတ် ပြောသည် ကို ကေ ယခင်က မကြားခဲ့ဖူးပါ။ ယခုစကားတွေက ယခင်စကားတွေနှင့်

ခြားနားသည်။ ဒီစကားတွေက အတော်လေးနက်ပါသည်။ ကေ့အားသာ မက အော်လဂါကိုပါ အံ့အား သင့်စေမိသည်။ အော်လဂါသည် လက်နှစ် ဖက်ကိုပိုက်ပြီး အမာလီယာကို ကြည့်နေသည်။ အမာလီယာကတော့ ကေ့ အား ငေးစိုက်ပြီး ကြည့်နေသည်။

"အစ်ကိုဟာ ဗာနေဗက်နဲ့တွေ့ဖို့ ဒါလောက် စိတ်အားထက်သန်သူဆိုတာ မှားတယ်။ အများကြီးကို မှားတယ်။ ဒါဟာ အစ်ကို့ရဲ့ အရေးတကြီးအလုပ်ပဲ။ အစ်ကို့ ကိစ္စကို အာဏာပိုင်တွေနဲ့ နည်းလမ်းတကျ ဖြေရှင်းပြီးသွားချင်တယ်။ ဒီကိစ္စမှာ ဗာနေဗက်က အစ်ကို့ကို ကူညီရမယ်။ အစ်ကို့ရဲ့ မျှော်လင့် ချက်တွေဟာ သူ့အပေါ်မှာ တည်နေတယ်။ တစ်ကြိမ်က သူဟာ အစ်ကို့ကို အများကြီး စိတ်ပျက်စေခဲ့ပြီ။ ဒါပေမဲ့ အဲဒါဟာ သူ့အပြစ်ထက် ကိုယ့်အပြစ် ဖြစ်ပါတယ်။ ကိုယ်ဟာ ဒီရွာကို ရောက်စတုန်းကတော့ ပြဿနာတွေ အားလုံးဟာ ညနေဘက် ခဏကလေး လမ်းလျှောက်ရုံနဲ့ ပြီးသွားမယ်လို့ထင်ခဲ့တယ်။ မဖြစ်နိုင်တဲ့ ကိစ္စ ဖြစ်မလာတဲ့အခါမှာ ကိုယ်ဟာ သူ့ကို အပြစ်တင်ခဲ့တယ်။ အဲဒီကိစ္စဟာ ညီမနဲ့ ညီမတို့မိသားစုအပေါ်မှာအထိ ကို ယ့်အပြစ် လွှမ်းမိုးခဲ့တယ်။ အခုတော့ ဒါတွေ ပြီးပါပြီ။ အခုဆိုရင်တော့ ညီမ တို့ကို အစ်ကို ကောင်းကောင်း နားလည်သွားပါပြီ။ ညီမတို့ဟာ..."

ကေက စကားလုံးအတိအကျကို ရှာမတွေ့သဖြင့် အလျဉ်းသင့်သလို သုံး လိုက်ရသည်။

"ညီမတို့ဟာ အစ်ကိုသိသမျှတော့ ဒီရွာထဲမှာ သဘောအကောင်းဆုံး လူ တွေပဲ။ ဒါပေမဲ့ အမာလီယာဟာ ညီမရဲ့စကားလို လမ်းလွဲကို ရောက်သွားရ ပြန်ပြီ။ အစ်ကိုရဲ့လုပ်ငန်းကြောင့်သာ သူဟာ ကိုယ့်အတွက် အရေးအကြီး ဆုံး ဖြစ်နေရတာပဲ။ ဒါပေမဲ့ ညီမဟာ သူ့အလုပ်တွေကို မသိဘူးနဲ့တူတယ်။ အဲဒါဆိုရင် အရေးမကြီးပါဘူး။ ဒါပေမဲ့ ညီမဟာ သူ့ရဲ့အလုပ်တွေကို သိ တယ်ဆိုရင်တော့ မကောင်းဘူး။ ညီမရဲ့ အစ်ကိုဟာ ကိုယ့်ကို လှည့်စားနေ တာပဲ"

"ခေါင်းအေးအေး ထားပါ။ သူ့လုပ်ငန်းတွေကို ညီမ ဘာမှမသိပါဘူး။ ဘာ အကြောင်းကြောင့်မှလည်း သိစရာမရှိပါဘူး။ အစ်ကိုနဲ့ ပတ်သက်ပြီးတော့လည်း ညီမ ဘာမှစဉ်းစားစရာ မရှိပါဘူး။ တကယ်ဆိုရင်တော့ အများကြီး စဉ်းစားရမှာပေါ့။ ဘာဖြစ်လို့လဲ ဆိုတော့ အစ်ကိုက ညီမတို့ကို သဘောကောင်းတဲ့ လူတွေလို့ ပြောထားတယ် မဟုတ်လား။ ညီမအစ်ကိုရဲ့ လုပ်ငန်းက သူ့လုပ်ငန်းပဲဖြစ်ပါတယ်။ ညီမ ဘာမှ မသိပါဘူး။ ဒါပေမဲ့ မသိ ချင်ပေမဲ့ တစ်ခါတစ်ခါမှာ နားထဲမှာ ကြားရတာ တွေလည်း ရှိပါတယ်။ ဒါပေမဲ့ အော်လဂါကတော့ အစ်ကို့ကို အများကြီး ပြောပြနိုင်ပါ လိမ့်မယ်။ ဘာဖြစ်လို့လဲဆိုတော့ အော်လဂါက အစ်ကို့ရဲ့ လူယုံတစ်ယောက်ဖြစ်လို့ပဲ"

ထို့နောက် အမာလီယာ ထွက်သွားသည်။ ပထမတွင် သူ့မိဘတွေထံ ထွက်သွားသည်။ သူတို့နှင့် တီးတိုးစကား ပြောသည်။ ထို့နောက် မီးဖိုချောင်ဆီသို့

သွားသည်။ သူမက ကေ့အား နှုတ်ဆက်မသွားပါ။ သူမက ကေ ဒီမှာ ကြာ နိုင်မည်ကို သိသည့်အလား နှုတ်ဆက်ရန် မလိုဘူးဟု တွက်ဆဟန် ရှိသည်။

ယင်းအဖြစ်ကို မြင်တွေ့ရသောအခါ အနည်းငယ် အံ့ဩသောမျက်နှာဖြင့် ကေသည် ထိုနေရာမှာပင် ရယ်လျက် ရှိတော့သည်။ အော်လဂါက ရယ်မောကာ သူ့ကို မီးဖိုအနီးရှိ ထိုင်ခုံဆီသို့ ဆွဲခေါ်သွားသည်။ အော်လဂါသည် ထို နေရာတွင် သူနှင့် နှစ်ယောက်တည်း ထိုင်နေရသည်ကို တကယ်ပျော်ရွှင်နေ ပုံ ရသည်။ မနာလိုဝန်တိုမှုကင်းသော ကျေနပ် ဝမ်းသာမှုမျိုး ဖြစ်သည်။ ထိုအခါ ကေကလည်း သူမ၏သန့်ရှင်းသော မျက်နှာကလေးကို ကြည့်နေရသည်ကို ပီတိဖြစ်နေတော့သည်။ အမာလီယာသည် သဘောကောင်းသည် ဟု ပြောလိုက်သည့်အတွက် အော်လဂါက ရယ်မောလျက် ရှိသည်။ အမာလီယာသည် အခြားအရည်အချင်းတွေ အများကြီး ရှိသော်လည်း သဘောကောင်းခြင်းတော့ မရှိပါ။ သည်တော့ ကေလည်း သူမနှင့်အတူ ရောပြီး ရယ်ရသည်။ သည်တော့ ကေက သဘော ကောင်းသည်ဟုပြော ခြင်းမှာ အော်လဂါ ပိုပြောခြင်းဖြစ်ကြောင်း ရှင်းပြရသည်။ အမာလီယာက သူမ လိုချင်သည့်သဘောမျိုး ပါးနပ်စွာ ဆွဲယူသွားခြင်း ဖြစ်သည်။

"အဲဒါမှန်တယ်" အော်လဂါက ပြောသည်။ "အစ်ကိုထင်တာထက် ပိုပြီးမှတောင် မှန်သေးတယ်။ အမာလီယာက ညီမထက် ငယ်တယ်။ ဗာနေဗက် ထက်လည်း ငယ်တယ်။ ဒါပေမဲ့ သူ့စကားဟာ မိသားစုထဲမှာ အကောင်းဖြစ် စေ အဆိုးဖြစ်စေ အဆုံးအဖြတ်ပဲ။ ဟုတ်တယ်၊ သူက အားလုံးထက်ပိုပြီး တာဝန်ယူထားတယ်။ ကောင်းတာရော ဆိုးတာရောပဲ"

ဤစကားသည် ပိုလွန်းသည်ဟု ကေ ထင်သည်။ ယခုပင် အမာလီယာ ကပြောသွားပြီ။ သူမ သူ့အစ်ကို၏ပြဿနာကို စိတ်မဝင်စားကြောင်း၊ အော်လ ဂါက အားလုံးကို သိရှိကြောင်းဖြင့်။

"ဒီဥစ္စာကို ရှင်းအောင် ညီမ ဘယ်လိုပြောရမလဲ။ အမာလီယာက ညီမ ကိုလည်း ဂရုမစိုက်ဘူး။ ဗာနေဗက်ကိုလည်း ဂရုမစိုက်ဘူး။ အဘိုးကြီး အဘွားကြီးက လွဲရင် ဘယ်သူ့ကိုမှ ဂရုမစိုက်ဘူး။ သူတို့ကို သူကပဲ နေ့ရော ညရော ပြုစုနေတာ။ အခုလည်း သူတို့ကို ဘာစားချင်သလဲမေးပြီး မီးဖိုချောင်ထဲကို ဝင်သွားတယ်။ လူကြီးတွေအတွက် သူ နေမကောင်းတာ တောင် ပျောက်သွားတယ်။ နေ့လယ်ကတည်းက သူမအီမသာဖြစ်ပြီး ဒီနေရာမှာ လှဲနေတာပဲ။

"သူက ညီမတို့ကိုဂရုမစိုက်ပေမဲ့ ညီမတို့က သူ့ကို အစ်မကြီးတစ်ယောက်လို အားထားနေရတယ်။ တကယ်လို့ သူက ညီမတို့ကိစ္စမှာ ဘာလုပ်ပါလို့ ပြောရင် ညီမ တို့က လိုက်လုပ်မှာပဲ။ ဒါပေမဲ့ သူက မပြောဘူး။ သူက ညီမ တို့နဲ့ မတူဘူး။ လူတွေ အကြောင်း အစ်ကို သိပါတယ်။ အစ်ကိုက ထူးဆန်း တဲ့ အရပ်ဒေသတစ်ခုက လာတာ မဟုတ်လား။ သူဟာ အထူးတလည် လိမ္မာပါးနပ်တယ်လို့ အစ်ကို မထင်ဘူးလား"

"အစ်ကိုကတော့ သူဟာ အထူးတလည် စိတ်မချမ်းမသာ ဖြစ်နေတယ်လို့

ထင်တယ်။ ဒါပေမဲ့ ညီမက သူ့ကို ဘယ်လိုလုပ်ပြီး လေးစားရတာလဲ။ သူက ဗာနေဗက် ရဲတိုက်ကြီးရဲ့ ဆက်သား လုပ်တာကိုလည်း မကြိုက်ဘူး။ သရော် တောင် သရော်လိုက် သေးတယ်"

"ဗာနေဗက်မှာ တခြားလုပ်စရာ အလုပ်တစ်ခုရှိရင် ဆက်သားအလုပ်ကို သူ စွန့်လွှတ်လိုက်မှာပဲ။ ဒီအလုပ်ကို သူ သဘောမကျပါဘူး"

"သူက ကျွမ်းကျင်တဲ့ ဖိနပ်ချုပ်သမားတစ်ယောက် မဟုတ်လား"

ကေက မေးလိုက်သည်။

"ဟုတ်တယ်၊ သူက ဖိနပ်ချုပ်သမား တစ်ယောက်ပဲ။ သူ အားတဲ့အချိန်မှာ ဘရန်ဝစ်ရဲ့ အလုပ်တွေကို လုပ်ပေးတယ်။ သူ လုပ်မယ်ဆိုရင် သူဟာ နေ့ရော ညရော လုပ်စရာအလုပ်တွေ ရှိတယ်။ ဝင်ငွေကောင်းကောင်း ရနိုင်တယ်"

"ဒါဆိုရင် ဆက်သားအစား ရွေးစရာအလုပ်တစ်ခု မဟုတ်လား"

ကေက မေးလိုက်သည်။

"ရွေးစရာအလုပ်၊ ဟုတ်လား"

အော်လဂါ အံ့အားသင့်ဟန်ဖြင့် မေးလိုက်သည်။

"သူ ဆက်သားလုပ်တာ ပိုက်ဆံအတွက်ကြောင့်လို့ အစ်ကို ထင်သလား"

"ဖြစ်နိုင်တာပဲ။ ဒါပေမဲ့ သူ့မှာ မကျေနပ်တာ အများကြီးရှိတယ်လို့ ညီမ ပြောတယ်မဟုတ်လား"

"အကြောင်းအမျိုးမျိုးကြောင့် သူ မကျေနပ်ဘူး။ ဒါပေမဲ့ ဒါဟာ ရဲတိုက်ကြီးရဲ့ ဝန်ထမ်းအလုပ်ပဲ။ ဘာပဲဖြစ်ဖြစ် ရဲတိုက်ကြီးရဲ့ လုပ်ငန်းတစ်ခုပဲ။ အနည်းဆုံး အဲဒီလို ယူဆရတာပဲ"

"ဘာပြောတယ်၊ ဒီအလုပ်ကို ညီမ သံသယရှိနေတာလား"

"အို... တကယ်တော့ မဟုတ်ပါဘူး။ ဗာနေဗက် ရုံးကိုသွားတယ်။ တခြား ဝန်ထမ်းတွေက သူ့ကို ဝန်ထမ်းတစ်ယောက်အနေနဲ့ လက်ခံတယ်။ သူက အရာရှိကြီး တွေကို တွေ့ရတယ်။ ခပ်လှမ်းလှမ်းကပေါ့။ သူတို့က သူ့ကို အရေးကြီးတဲ့စာတွေ ပို့ခိုင်းတယ်။ တချို့ကို နှုတ်နဲ့မှာတယ်။ ဒါဟာ ကောင်း တဲ့အချိန်ပဲ။ သူ့အသက်အရွယ်နဲ့ ဒီလိုအောင်မြင်မှုမျိုးရတာကို ညီမတို့ ဝမ်းသာ ဂုဏ်ယူရတယ်"

ကေ ခေါင်းညိတ်လိုက်သည်။ အိမ်ပြန်ရန် သူ စိတ်မကူးတော့။

"သူ့မှာလည်း တူညီဝတ်စုံတစ်ခု ရှိတယ်မဟုတ်လား"

ကေ မေးလိုက်သည်။

"ဂျက်ကက်အင်္ကျီကို ပြောတာလား။ ဟင့်အင်း၊ အဲဒါက သူ ဆက်သား မ ဖြစ်ခင်ကတည်းက အမာလီယာက သူ့အတွက် ချုပ်ပေးထားတာ။ အစ်ကို က အခု ပျော့ကွက်ကို ကိုင်လာပြီ။ အင်း... ဟုတ်တယ်။ သူဟာ အစောကြီး ကတည်းက တစ်ခု ရှိသင့်တယ်။ တူညီဝတ်စုံတော့ မဟုတ်ဘူးပေါ့။ ဘာဖြစ် လို့လဲဆိုတော့ ရဲတိုက်ကြီးမှာ တူညီဝတ်စုံတွေ အများကြီး မရှိလို့ပဲ။ ဒါပေမဲ့ သူတို့ဌာနက

ထုတ်ပေးတဲ့ ဝတ်စုံတော့ ရှိတယ်။ သူ့ကိုလည်း တစ်စုံပေး တယ်လို့ ပြောတယ်။ ဒါပေမဲ့ ဒီလိုကိစ္စမျိုးမှာ ရဲတိုက်ကြီးက လှုပ်ရှားတာ အင်မတန် နှေးတယ်။ အဆိုးဆုံးကတော့ ဘာ့ကြောင့် ဒီလိုမျိုး နှေးရတယ် ဆိုတာကို ဘယ်သူမှ မသိတာပဲ။ ပြဿနာကို စဉ်းစားနေတာ ဖြစ်နိုင်တယ်။ ဒါပေမဲ့ ပြဿနာကို အခုထက်ထိ မကိုင်တွယ်သေးတာ ဖြစ်နိုင်တယ်။ ဥပမာ ဗာနေဗက် ပြဿနာကို ကြည့်ရင် ယာယီကိစ္စပဲ ဖြစ်နိုင်တယ်။ ဒါပေမဲ့ ရေရှည်မှာ ပြဿနာတစ်ခုလုံး ပြီးပြတ်သွားနိုင်တယ်။ အကြောင်း တစ်ခုခုကြောင့် ပေးမယ်ဆိုတဲ့ ကတိကို ဖျက်ပစ်နိုင်တယ်။ ဗာနေဗက်ဟာ ဝတ်စုံကို မရတော့တာ ဖြစ်နိုင်တယ်။ ဘာဖြစ်လို့လဲဆိုတာ ဘယ်တော့မှ မသိနိုင်ဘူး။ ဒါမှမဟုတ် အတော်ကြီးကြာမှ သိနိုင်တယ်။ ညီမတို့ဆီမှာ ပြောစကားတစ်ခု ရှိတယ်။ အစ်ကိုလည်း ကြားဖူးချင် ကြားဖူးမှာပေါ့။ တရားဝင် ဆုံးဖြတ်ချက်ဟာ မိန်းမငယ်ကလေးတွေလို ရှက်ရွံ့တတ်တယ် တဲ့"

"ဒါဟာ ကောင်းတဲ့ သုံးသပ်ချက်တစ်ခုပဲ" ကေက ပြောလိုက်သည်။ သူက ဒီပြောစကားကို အော်လဂါထက် အလေးအနက်ထားသည်။ သုံးသပ်ချက် ကောင်း တစ်ခုပဲ။ "ဆုံးဖြတ်ချက်တွေဟာ မိန်းမငယ်ကလေးတွေနဲ့ တူညီတဲ့စရိုက်လက္ခဏာတွေ ရှိလို့ နေမှာပေါ့"

အော်လဂါက

"ဖြစ်နိုင်ပါတယ်။ ဌာနဆိုင်ရာ ဝတ်စုံနဲ့ ပတ်သက်လို့ကတော့ ဗာနေဗက်မှာ အများကြီး စိတ်ထိခိုက်ရတယ်။ ညီမတို့တစ်တွေဟာ ဒုက္ခဆင်းရဲတွေ အားလုံးကို မျှဝေ ခံစားကြတာဖြစ်တော့ ညီမလည်း စိတ်ထိခိုက်ကြရတယ်။ သူ ဘာဖြစ်လို့ ဌာနဝတ်စုံကို မရသလဲဆိုတာ ညီမတို့လည်း ကိုယ့် ဘာကိုယ် မေးခွန်း ထုတ်ကြရတယ်။ ဒါပေမဲ့ ပြဿနာတစ်ခုလုံးက ထင် သလောက် မလွယ်ဘူးဆိုတာ တွေ့ရတယ်။ ဥပမာဆိုကြပါစို့၊ အရာရှိတွေ မှာ အရာရှိဝတ်စုံ မရှိကြဘူး။ ညီမတို့သိသလောက်ဆိုရင်၊ ဗာနေဗက် ပြော ပြသလောက်ဆိုရင် အရာရှိတွေဟာ ရိုးရိုး အဝတ်အစားတွေနဲ့ သွားလာကြတယ်။ အင်း... အဝတ်အစား ကောင်းကောင်းတွေနဲ့ပေါ့။ အစ်ကိုလည်း ကလမ်ကို မြင်ဖူးတယ် မဟုတ်လား"

"ဗာနေဗက်ဟာ အရာရှိတစ်ယောက် မဟုတ်ဘူး။ အငယ်ဆုံးအရာရှိ ကလေးတောင် မဟုတ်ဘူး။ သူ့အဆင့်ကို လွန်လို့မရဘူး။ ဒါပေမဲ့ ဗာနေဗ က်အပြောအရ ဆိုရင်တော့ အထက်တန်း ဝန်ထမ်းတွေမှာ ဌာနဝတ်စုံ မရှိဘူး။ ဒီထဲကိုလည်း တစ်ယောက်မှ မလာကြဘူး။ ဒါဟာ ဖြေသိမ့်စရာတစ်ခုပဲပေါ့။ ဒါပေမဲ့ ကိုယ့်ကိုယ်ကိုယ် လှည့်စားတဲ့ ဖြေသိမ့်မှုမျိုးပေါ့။ အကြောင်း ကတော့ ဗာနေဗက်က အထက်တန်းဝန်ထမ်း တစ်ယောက်လား"

"မဟုတ်ပါဘူး။ သူ့ကို ဘယ်သူကမှ အဲဒီလိုမပြောနိုင်ပါဘူး။ သူက ရွာထဲ ကို လာတယ်။ ရွာထဲမှာနေတယ်။ အဲဒါကိုက မဟုတ်ဘူးဆိုတာ ပြနေတာပဲ။ အထက်တန်း ဝန်ထမ်းတွေကို အရာရှိတွေထက် ပိုပြီးတွေ့ရခဲ့တယ်။ သူ တို့က အရာရှိတွေထက် ပိုပြီး အဆင့်မြင့်ကြပုံ ရတယ်။ သူတို့က အလုပ် နည်းနည်းပဲ

လုပ်တယ်။ သူတို့က စကြ်ံလမ်း တစ်လျှောက်မှာအေးအေးဆေးဆေးပဲ လမ်းလျှောက်နေကြတယ်။ ဗာနေဗက်ကတော့ သူ တို့ကို ဝေးဝေးကပဲ ရှောင်တယ်"

"အင်း သူက အောက်တန်းဝန်ထမ်းတစ်ဦးပဲ ဖြစ်ပုံရတယ်။ ဒါပေမဲ့ အဲဒီ လူတွေမှာလည်း ဌာနဆိုင်ရာ ဝတ်စုံတွေ ရှိကြတယ်။ သူတို့ဟာ ရွာထဲကို လာရင် အဲဒီဝတ်စုံတွေ ဝတ်လာကြတယ်။ တူညီဝတ်စုံတော့ မဟုတ်ဘူး။ ဘာပဲဖြစ်ဖြစ် သူတို့ ဝတ်ထားတာကိုကြည့်ပြီး ရဲတိုက်ကြီး ဝန်ထမ်းဆိုတာ ကိုတော့ ပြောနိုင်ကြတယ်။ အစ်ကိုလည်း သူတို့ကို ဟာရင်ဟော့ တည်းခိုခန်းမှာ တွေ့သားပဲ"

"သူတို့ရဲ့ဝတ်စုံတွေမှာ သိသာတာကတော့ ချပ်ချပ်ရပ်ရပ်ရှိတာပဲ။"

“လယ်သမားတွေ၊ အလုပ်ကြမ်းသမားတွေက ဒီလိုမျိုး မချုပ်နိုင်ဘူး။ အဲဒီလိုမျိုး ဝတ်စုံ ဗာနေဗက်ကို မပေးတာဟာ ရက်စရာကောင်းရုံ၊ သိက္ခာကျရုံတင် မကဘူး၊ စိတ်ဓာတ် ပျက်ပြားရတယ်။ ညီမနဲ့ ဗာနေဗက်ဟာ မကြာခဏဆို သလို စိတ်ဓာတ်ပျက်ပြား ကြရတယ်။ အဲဒီတော့ ဗာနေဗက်နဲ့ ညီမဟာ အားလုံးကို သံသယဖြစ်ကြရတယ်။ ဗာနေဗက်ဟာ ရဲတိုက်ကြီးရဲ့ တာဝန် ထမ်းဆောင်နေတာ ဟုတ်ရဲ့လား၊ ညီမတို့ဟာ အဲဒီမေးခွန်းကို ကိုယ့်ကိုယ် ကိုယ် မကြာခဏ မေးကြရတယ်။ သူ ရုံးခန်းကို သွားတာတော့ အမှန်ပဲ။ အဲဒီရုံးခန်းဟာ ရဲတိုက်ကြီးရဲ့ အစိတ်အပိုင်းဟုတ်ရဲ့လား။ ရဲတိုက်ကြီးမှာ ရုံးခန်း တကယ်ရှိတယ်ဆိုရင်ကော ဗာနေဗက်ကို ရုံးခန်းထဲကို ဝင်ခွင့်ပြုကြ သလား"

"သူ့ကို အခန်းတချို့ထဲကို ဝင်ခွင့်ပြုတယ်။ ဒါပေမဲ့ အဲဒီအခန်းတွေဟာ တစ်ခုလုံးရဲ့ အစိတ်အပိုင်း တစ်ခုပဲ။ ဘာဖြစ်လို့လဲဆိုတော့ အတားအဆီး တွေရဲ့ နောက် ဘက်မှာ တခြားအခန်းတွေ ရှိနေကြသေးလို့ပဲ။ သူ့ကို တကယ်တမ်းတော့ အတားအဆီးတွေ လွန်မသွားရဘူးလို့ ပိတ်ပင်မထားဘူး။ ဒါပေမဲ့ သူဟာ လူကြီးတွေနဲ့ တွေ့ပြီးတဲ့ နောက်ပိုင်းမှာ ပြန်ခွင့်ပြု လိုက်တဲ့အတွက် သူဟာ အဲဒီအတားအဆီးတွေကို ကျော်မသွားနိုင်တော့ဘူး။ နောက်ပြီးတော့ အဲဒီမှာ လူတိုင်းကို စောင့်ကြည့်နေကြလို့ပဲ။ အဲဒီလိုပဲ ညီမတို့ ယူဆလို့ပဲ။ တကယ်လို့ သူ ရှေ့ကိုဆက်ပြီးသွားရင် ဘာဖြစ်မလဲ။ သူ့ မှာ အလုပ်တာဝန်မရှိဘဲနဲ့ သွားရင် သူဟာ ကျူးကျော်သူ တစ်ယောက်ပဲ မဟုတ်လား"

"ဒါပေမဲ့ အဲဒီအတားအဆီးတွေကို အပြီးသတ် နယ်နိမိတ် မျဉ်းကြောင်း တစ်ခုလို့တော့ အစ်ကို မယူဆပါနဲ့။ ဒါကို ဗာနေဗက်က ညီမကို အမြဲတမ်း ပြောတယ်၊ သူ့ကို ဝင်ခွင့်ပြုထားတဲ့ အခန်းတွေဆီကို သွားရာ အဝင်ဝခန်းမ ဆောင်ကြီးမှာလည်း အတားအဆီးတွေ ရှိတယ်။ အဲဒီတော့ အစ်ကိုသိရမှာ က သူကျော်ဖြတ်သွားနိုင်တဲ့ အတားအဆီးတွေရှိတယ်။ အဲဒီအတားအဆီး တွေဟာ သူအခုအထိ မကျော်ရသေးတဲ့ အတားအဆီးတွေနဲ့ အတူတူပဲ။ အဲဒီသဘောက နောက်ဆုံး အတားအဆီးရဲ့ နောက်မှာ ရှိတဲ့ ရုံးခန်းဟာ ဗာ နေဗက် လောလောဆယ် ရောက်ဖူးနေတဲ့ ရုံးခန်းထက် ဘာမှ ထူးခြားမှာ မဟုတ်ဘူး။

"ညီမတို့ စိတ်ဓာတ်ပျက်ပြားတဲ့ အခါမှာ တွေးမိတာတစ်ခုပဲ။

အဲဒီသံသယက အကန့်အသတ် ထားလို့မရဘူး။ ဗာနေဗက်ဟာ လူကြီးတွေနဲ့တွေ့တယ်။ သတင်းတွေ ပေးတယ်။ ဒါပေမဲ့ အဲဒီလူကြီးတွေက ဘယ်သူတွေလဲ၊ သတင်းစကားတွေက ဘာတွေလဲ။ သူက ကလမ်ဆီမှာ တာဝန်ထမ်းဆောင် ရတယ်။ ကလမ်က သူကိုယ်တိုင် တွေ့ပြီး သူ့ကို သတင်းစကားပါးတယ်။ ဒါဟာ ရောမအခွင့်အရေးပဲ။ အထက်တန်း ဝန်ထမ်းတွေတောင် အဲဒီအခွင့် အရေးကို မရကြဘူး။ ယုံနိုင်ဖွယ်ရာတောင် မရှိဘူး။ ကလမ်ဆီမှာ တာဝန် ပေးတယ်။ သရဲမျက်နှာချင်းဆိုင်ပြီး စကားပြောရတယ်။ ဒါ တကယ်ကောဟုတ်ရဲ့လား။ တကယ်ဆိုရင် ဗာနေဗက်ဟာ သူနဲ့တွေ့တဲ့ လူကြီးဟာ ကလ မ်အစစ်မှ ဟုတ်ရဲ့လားလို့ ဘာဖြစ်လို့ သံသယဝင်နေရတာလဲ"

"အော်လဂါ... ညီမ နောက်နေတာလား။"

"ကလမ်ရဲ့ ပုံပန်းသဏ္ဍာန်ကို ဘယ်လို လုပ်ပြီး သံသယဖြစ်ရမှာလဲ။ သူ ဘယ်ပုံဆိုတာ လူတိုင်းသိနေတာပဲ။ အစ်ကိုတောင် သူ့ကို မြင်ဖူးသေးတယ်"

ကေက ပြောလိုက်သည်။

အော်လဂါက

"မဟုတ်ဘူး ကေ၊ ညီမ နောက်နေတာမဟုတ်ဘူး။ တကယ် အလေး အနက် ပြောနေတာ။ အစ်ကို့ကို ညီမ ဒါတွေပြောနေတာ ညီမ စိတ်သက်သာရာရအောင် ဝန်ထုပ် ဝန်ပိုးတွေ လျော့သွားအောင် ပြောနေ တာမဟုတ်ဘူး။ အမာလီယာက ပြောခိုင်းလို့ ပြောနေရတာ။ အစ်ကိုက ဗာ နေဗက်ကို မေးနေတော့ ဒီအကြောင်းတွေကို အစ်ကို ပိုပြီးသိထိုက်တယ်လို့ ညီမလည်း ယူဆတယ်။ ညီမ ဒါတွေကိုပြောနေတာ ဗာနေဗက် အတွက်ပဲ။ ဒါမှ အစ်ကို သူ့အပေါ်မှာ မျှော်လင့်ချက်တွေ သိပ်မထားမှာ။ စိတ်ပျက်တာတွေ မဖြစ်မှာ။ အစ်ကို စိတ်ပျက်တဲ့အတွက် သူ့မှာ ခံစားရမှာ။ သူက အင်မတန် စိတ်ထိခိုက်လွယ်တယ်။ မနေ့ညနေက အစ်ကို သူ့ကို မကျေနပ် တဲ့အတွက် သူ တစ်ညလုံး အိပ်မပျော်ဘူး။ သူ့လိုမျိုး ဆက်သားတစ်ယောက် သာ ရှိတဲ့အတွက် အစ်ကို့ အတွက် အလားအလာ မကောင်းဘူးလို့ ပြော ရအောင် အစ်ကို့ကို သူခေါ်သွားတာပဲ။ ဒီစကားလုံးတွေကြောင့် သူ တစ်ညလုံး အိပ်မပျော်ဘူး။ သူ ဘယ်လောက် ကသိကအောက် ဖြစ်သွားတယ်ဆိုတာ အစ်ကို မသိဘူး။ ရဲတိုက်ကြီး ဆက်သားတွေဟာ စနစ်တကျ ထိန်းချုပ် မှုအောက်မှာ ရှိကြတယ်။ သူ့မှာ ဘယ်တော့မှ သက်သာချောင်ချိတဲ့ အချိန် မ ရှိဘူး။ အစ်ကိုနဲ့ အစပေါ့။ အစ်ကိုအမြင်အရ သူ့ကို သိပ်ပြီး မတောင်းဆိုခဲ့ဘူး။ ဆက်သားတွေမှာ သူ့အစွမ်းနဲ့ သူရှိတယ်လို့ အစ်ကိုက ကြိုတင် တွက် ဆခဲ့တာကိုး။ ဒါကြောင့်မို့ အစ်ကိုက သူ့ကို ပုံမှန်အတိုင်း လုပ်ခိုင်းခဲ့တာပဲ။

"ဒါပေမဲ့ ရဲတိုက်ကြီးမှာ ဆက်သားတွေနဲ့ ပတ်သက်ပြီး အယူအဆ အမျိုးမျိုး ရှိကြတယ်။ အဲဒီအယူအဆတွေက အစ်ကို့ရဲ့ အယူအဆနဲ့ မတူနိုင်ဘူး။ ဗာနေဗက်ဟာ သူ့အလုပ်တွေကို လုပ်နိုင်တဲ့ တိုင်အောင်လည်း ဘယ်သူက မှလည်း

သူဟာ ဆက်သား တစ်ယောက် ဟုတ် မဟုတ် သံသယမဖြစ်ဘူး။ အစ်ကို့ကိုလည်း ဒီအကြောင်းတွေ သူ ဖွင့်ပြောမှာ မဟုတ်ဘူး။ ညီမလည်း သူ့မှာရှိတဲ့ သံသယတွေကို ချေဖျက်ပစ်နေတာပဲ။ ဒါတောင် သူ့ရဲ့သံသယ တွေဟာ သံသယသက်သက်ပဲ ဖြစ်တယ်လို့ သူ မပြောဘူး။

"သူ့မှာ အမာလီယာနဲ့ တူတာတွေရှိတယ်။ သူက ညီမကို ဘယ်လောက်ပဲ ယုံကြည် စိတ်ချတယ်ပြောပြော ပြောစရာတွေ အကုန်မပြောဘူး။ ဒါပေမဲ့ ညီမတို့ဟာ ကလမ်အကြောင်း မကြာခဏပြောကြတယ်။ ကလမ်ကို ညီမ တစ်ခါမှမမြင်ဖူးဘူး။ ဖရီဒါက ညီမကို သဘောမကျဘူး။ ဒါကြောင့်မို့လို့ ကလမ်ကို တစ်ခါမှ ကြည့်ခွင့် မပေးဘူး။ ဒါပေမဲ့ သူ့ရဲ့ ပုံပန်းသဏ္ဌာန်ကို တစ် ရွာလုံးက သိနေကြတယ်။ တချို့ လူတွေက သူ့ကို မြင်ဖူးကြတယ်။ သူ့ အကြောင်း လူတိုင်း ကြားဖူးကြတယ်။ ရိပ်ခနဲ မြင်လိုက်ကြတယ်။ ကောလာဟလတွေ ကြားကြတယ်။ ဒါပေမဲ့ ကလမ်ရဲ့ပုံရိပ်ကို အခြေခံ သဘောပဲ ပြောနိုင်ကြတာ။ ဒါပေမဲ့ သူ့ရဲ့ တကယ့်ပုံပန်းသဏ္ဌာန်ကို ဘယ် သူမှ မပြောနိုင်ကြဘူး။

"ရွာထဲကိုလာတဲ့အချိန်မှာ သူ့ရဲ့ရုပ်က တစ်မျိုး၊ ရွာထဲက ပြန်သွားတဲ့အခါ ကျတော့ တစ်မျိုး။ ဘီယာသောက်နေတဲ့ အခါကျတော့ အရင်ရုပ်နဲ့ တခြားစီ ဖြစ်သွား ပြန်ရော။ သူ ငိုင်နေတဲ့ပုံက အိပ်နေတဲ့ပုံနဲ့ တခြားစီ။ သူ တစ်ယောက်တည်းရှိနေတဲ့ အခါမှာ တခြားလူတွေကို စကားပြောနေတဲ့ရုပ်နဲ့ တခြားစီဖြစ်ပြန်ရော။ သူက ရဲတိုက်ကြီးထဲကျတော့ ရုပ်တစ်မျိုး ဖြစ် နေပြန်ရော။ ရွာထဲမှာကိုပဲ သူ့ရဲ့ပုံပန်းသဏ္ဌာန်ကို ပြောကြတာက အမျိုးမျိုးပဲ။ အရပ်အမောင်းချင်းလည်း မတူဘူး။ ကိုယ်လုံးကိုယ်ထည် ချင်းလည်း မတူဘူး။ မုတ်ဆိတ်ရိတ်ထားပုံ ချင်းလည်း မတူဘူး။ အားလုံးပြောပြပုံချင်း တူတာကတော့ တစ်ခုပဲရှိတယ်။ သူက အမြဲတမ်း အဝတ်အထည် တစ်ခုကိုပဲ ဝတ်တယ်။ မနက်ပိုင်းဝတ်တဲ့ ကုတ်အင်္ကျီအနက်ကြီးပဲ။

"အခုလို အမျိုးမျိုးအဖုံဖုံကွဲပြားနေကြတာတွေဟာ ပဉ္စလက်အတတ်တော့ မဟုတ်ပါဘူး။ အလွယ်တကူ ရှင်းပြလို့ ရပါတယ်။ သူ့ကိုကြည့်တဲ့လူရဲ့ အခြေအနေပေါ်မှာ မူတည်တာပဲ။ အဲဒီလူရဲ့ စိတ်လှုပ်ရှားနေတဲ့ အခြေအနေ၊ သူ့ကိုတွေ့တဲ့အခါမှာ ဖြစ်ပေါ်လာတဲ့ မျှော်လင့်ချက်၊ စိတ်ပျက် မှုတွေပဲ။ နောက်တစ်ခုကတော့ ကလမ်ကို ... တစ်စက္ကန့် နှစ်စက္ကန့် လောက်ပဲ မြင်လိုက်ရတာပဲ။ အခု ညီမပြောနေတာတွေဟာ ဗာနေဗက်က ညီမကို ပြောပြတဲ့အတိုင်းပဲ။ စာရင်းချုပ်လိုက်ရင်တော့ ဒီပြဿနာမှာ စိတ် မဝင်စားတဲ့ လူတစ်ယောက်အဖို့တော့ ဒါလောက်နဲ့ လုံလောက်ပါတယ်။ ဒါပေမဲ့ ညီမတို့အတွက်တော့ မဟုတ်ဘူး။ သူနဲ့ စကားပြောရတဲ့လူက ကလ မ်အစစ် ဟုတ် မဟုတ်ဆိုတာ ဗာနေဗက်အတွက်တော့ သေရေးရှင်ရေးပဲ"

"အစ်ကို့အတွက်လည်း ဒါ့ထက် မလျော့ပါဘူး"

ကေက ပြောလိုက်သည်။

သူတို့သည် ထိုင်ခုံပေါ်တွင် တစ်ယောက်အနီးသို့ တစ်ယောက် ပို၍ နီးကပ်စွာ တိုးသွားကြသည်။

အော်လင်ဂါ၏ စိတ်ပျက်ဖွယ်ရာ သတင်းတွေသည် ကေ့အဖို့ အကျိုးသက်ရောက် ပါသည်။ သူ့လိုလူမျိုးတွေ အများကြီးရှိကြောင်း ဖြေသိမ့်ရပါသည်။ သူတို့သည် အပြင်ပန်းအားဖြင့် သူနှင့်တူကြသည်။ သူက သူတို့နှင့်လက်တွဲနိုင်သည်။ နေရာပေါင်းများစွာတွင် ထိတွေ့နိုင်သည်။ ဖရီဒါနှင့်က နေရာအနည်းငယ်လောက်တွင်သာ ထိတွေ့ နိုင်သည်။

သူက ဗာနေဗက်ကတစ်ဆင့် အောင်မြင်နိုင်သည်ဟူသော မျှော်လင့်ချက်များကို တဖြည်းဖြည်းချင်း ပယ်ဖျက်လိုက်သည်။ သို့သော် ရဲတိုက်ကြီးတွင် ဗာနေဗက် အဆိုးတွေ ကြုံတွေ့ရသမျှ သူသည် ဗာနေဗက်အပေါ် နားလည်လာပါသည်။ ရွာထဲတွင် ဗာနေဗက်နှင့် သူ့ညီမများလို ရုန်းကန်နေရသူများ မရှိပါ။ အော်လင်ဂါ၏ရိုးသားမှုသည် ဆန့်ကျင်ဘက် အကျိုးကို သက်ရောက် စေပါသည်။ ဗာနေဗက်၏ရိုးသားမှုကို သဘော ပေါက်စေပါသည်။

အော်လင်ဂါက ဆက်ပြီး

"ကလမ်ရဲ့ပုံပန်းသဏ္ဍာန်နဲ့ပတ်သက်ပြီး ဗာနေဗက် သိတယ်။ သူက အချက်အလက်တွေ အများကြီးကို စုပေါင်းကာ နှိုင်းယှဉ်ပြီး ကြည့်နိုင်တယ်။ သူက ကလမ်ကို ရွာထဲမှာ မြင်ရတာ၊ ပြတင်းပေါက်ကကော မြင် လိုက်ရတယ်၊ ဒါမှမဟုတ် မြင်လိုက် တယ်လို့ ထင်ရတယ်။ အဲဒီတော့ နောက်တစ်ခါ သူ့ကိုတွေ့ရင် မှတ်မိဖို့ အသင့်ပြင် ထားတယ်။ ဒါပေမဲ့လည်း ဘယ်လိုလုပ်ပြီး ရှင်းပြရမလဲ၊ ရဲတိုက်ကြီးက ရုံးခန်းထဲကို ဝင်သွားတဲ့အခါ မှာ အရာရှိတွေထဲက တစ်ယောက်ကို အဲဒါ ကလမ်ပဲလို့ လက်ညှိုး ထိုးပြတဲ့ အခါမှာ သူ မမှတ်မိဘူး ဖြစ်နေတယ်။ အတော်ကြီး ကြာသွားတဲ့ အချိန် အထိပဲ။ သူဟာ ကလမ်ပဲဆိုတာ သေချာမသွားဘူး။ တကယ်လို့ ကလမ်နဲ့ ကလမ်လို့ ယေဘုယျ ပြောနေကြတဲ့ ပုံပန်းသဏ္ဍာန် ဘာခြားနားသလဲလို့ ဗာနေဗက်ကို မေးကြည့်ရင်လည်း သူ မပြောနိုင်ဘူး။ ဒါမှမဟုတ် သူ ကြိုးစားပြီး ရှင်းပြပြန်ရင်လည်း ရဲတိုက်ကြီးထဲက အရာရှိဟာ ညီမတို့ ကြားဖူးနေတဲ့ ကလမ်ရဲ့ပုံပန်းသဏ္ဍာန်နဲ့ အတူတူပဲဖြစ်နေတယ်။

"အဲဒီတော့ ညီမက သူ့ကို ပြောတယ်။ ဒါဆိုရင် အစ်ကို ဘာဖြစ်လို့သံသယဖြစ်နေရတာလဲ။ ဘာဖြစ်လို့ ကိုယ့်ကိုယ်ကိုယ် ညှဉ်းဆဲနေရတာ လဲ။ အဲဒီအခါမှာ သူက ရဲတိုက်ကြီးက ရဲအရာရှိအချို့ရဲ့စရိုက်ကို ပြောပြတယ်။ ဒါပေမဲ့ သူတို့ရဲ့ပုံပန်းကို ပြောပြနေတာက ပြန်ပြီး စဉ်းစားနေတာနဲ့ တူတယ်။ နောက်ပြီးတော့ အဲဒါတွေက အသေးအဖွဲ့ကလေးတွေပဲဖြစ်တယ်။ ဥပမာ အချို့ အပေါ်အင်္ကျီကို ကြယ်သီးဖြုတ်ထား တယ်ပေါ့။ အဲဒါ တွေကို အလေးအနက်ထားလို့ မရဘူး။

"ညီမအဖို့ ပိုပြီး အရေးမကြီးတဲ့အချက်ကတော့ ကလမ်က ဗာနေဗက်ကို လက်ခံပုံပဲ။ အဲဒီအကြောင်းကို ဗာနေဗက်က ခဏခဏပြောပြတယ်။ အခန်းကို

ပုံကြမ်းတောင် ဆွဲပြတယ်။ ယေဘုယျအားဖြင့် သူ့ကို အခန်းကြီး တစ်ခုထဲကို ဝင်ခွင့်ပြုတယ်။ ဒါပေမဲ့ အဲဒီအခန်းဟာ ကလမ်ရဲ့ ရုံးခန်းမ ဟုတ်ဘူး။ တခြား ဘယ်အရာရှိကြီးတစ်ယောက်ရဲ့ အခန်းမှလည်း မဟုတ်ဘူး။ အခန်းကြီးကို စာဖတ်စားပွဲကြီးတစ်လုံးနဲ့ နှစ်ပိုင်းခွဲထားတယ်။ စာရေးစားပွဲကြီးက နံရံ ဒီဘက်ထိပ်က ဟိုဘက်ထိပ်အထိ ရှည်တယ်။ အခန်းတစ်ဖက် ခြမ်းက ကျဉ်းလွန်းတဲ့အတွက် လူနှစ်ယောက် တစ်ယောက် ကိုတစ်ယောက် မနည်း တိုးဖှေ့ပြီး ဖြတ်ကျော်ရတယ်။ အဲဒီဘက်ခြမ်းက အရာရှိတွေအတွက် သတ်မှတ်ထားတာပဲ။ နောက်တစ်ဖက်ခြမ်းကတော့ အကျယ်ကြီးပဲ။ ဧည့်သည်တွေ၊ ဝန်ထမ်းတွေ၊ ဆက်သားတွေ စောင့်ဖို့ နေရာပဲ။ စားပွဲပေါ်မှာ ရောမ စာအုပ်ကြီးတွေကို ဖွင့်ထားတယ်။ တစ်အုပ် ပြီး တစ်အုပ် စီတန်းပြီးတော့လည်း အရာရှိတွေက မတ်တတ်ရပ်နေကြတယ်။ တချို့က စာဖတ်နေကြတယ်။ စာအုပ်တစ်အုပ်တည်းကို သတ်သတ် မှတ်မှတ် ဖတ်နေကြတာ မဟုတ်ဘူး။ စာအုပ်တွေကို လဲပြီး ဖတ်နေကြတာ မဟုတ်ဘူး။ နေရာလဲပြီး ဖတ်နေကြတာ ဖြစ်တယ်။ သူတို့ နေရာချင်း လဲတဲ့ အခါမှာ အတင်းတိုးဖှေ့ပြီး သွားကြရတာကို ဗာနေဗက် တအံ့တသြတွေ့ရတယ်။ နေရာက သိပ်ကျဉ်းလွန်းလို့ တိုးဖှေ့ကြရတာပဲ။

"စားပွဲရှည်ကြီးရဲ့ ရှေ့ဘက်မှာ စာရေးတွေထိုင်တဲ့ စားပွဲနိမ့်နိမ့် သေးသေး ကလေးတွေ ရှိတယ်။ အရာရှိတွေက နှုတ်တိုက်ပြောတဲ့အခါမှာ လိုက်ရေးဖို့ အသင့်ရှိနေ ကြတယ်။ အဲဒီလုပ်ပုံလုပ်နည်းတွေကိုကြည့်ပြီး ဗာနေဗက် အမြဲတမ်း အံ့သြရတယ်။ အရာရှိတွေက အမိန့်ပေးတဲ့ သဘောလည်း မရှိဘူး။ အသံကျယ်ကျယ်ကြီးနဲ့ နှုတ်တိုက် ပြောတာမျိုးလည်း မရှိဘူး။ နှုတ်တိုက်ပြောနေတယ်လို့တောင် မထင်ရဘူး။ အရာရှိတွေဟာ စောစော ကအတိုင်း စာဖတ်နေတဲ့ပုံစံပဲ။ စာဖတ်နေရင်းနဲ့ ခပ်တိုးတိုးပြောတာပဲ။ အဲဒီတိုးတိုးပြောတာကို စာရေးက ကြားတယ်။ တစ်ခါတစ်ခါမှာ အသံက တိုးလွန်းတဲ့ အတွက် စာရေးဟာ ထိုင်နေရာကနေ မကြားရဘူး။ အဲဒီအခါ မှာ ဝုန်းခနဲ ထလိုက်ပြီး ဘာပြောတယ်ဆိုတာကို နားထောင်ရတယ်။ ပြီးမှ ကမန်းကတန်း ထိုင်ချလိုက်ပြီး ပြောတာကို လိုက်ရေးရတယ်။ နောက်တစ်ခါ ဝုန်းခနဲ ခုန်ထရပြန်တယ်။ အဲဒီပုံစံမျိုး ဆက်ပြီးသွားနေတယ်။ ဘယ်လိုဆန်းကြယ်တဲ့အလုပ်မျိုးလဲ သဘောမပေါက်နိုင် သလောက်ပဲ။ ဒါတွေအားလုံးကို ဗာနေဗက် မြင်တွေ့ရတယ်။ ကလမ်က သူ့ကို တွေ့မသွားမ ချင်း အဲဒီအခန်းကြီးထဲမှာ နာရီပေါင်းများစွာ၊ နေ့ပေါင်းများစွာ၊ မတ်တတ် ရပ်ပြီး စောင့်နေရတယ်။ ကလမ်က သူ့ကို မြင်တွေ့သွားပြီး သူက သတိ အနေနဲ့ မတ်တတ် ထရပ်လိုက်တဲ့ အခါမှာတောင် ဘာမှဖြစ်မလာဘူး။ ကလမ်က စာအုပ်ကြီး ဘက်ကို ပြန်လှည့်လိုက်ပြီး သူ့ကို မေ့သွားတယ်။

"အဲဒါမျိုး မကြာခဏဖြစ်တယ်။ အဲဒီတော့ ဆက်သားအလုပ်ဆိုတာ ဘာ အဓိပ္ပာယ်ရှိသလဲ။ မနက်ဘက် သူ ရဲတိုက်ကြီးကို သွားခါနီးမှာ ဗာနေဗက်က အဲဒီလို ပြောတော့ ညီမ စိတ်မကောင်းဖြစ်ရတယ်။ သူသွားရတာ အလကားပဲ။ သူ့အဖို့

တစ်နေ့ ဆုံးရှုံးသွားတာပဲ။ မျှော်လင့်ချက် လုံးဝမရှိတဲ့အဖြစ်ပဲ။ အဲဒီတော့ ဘာများကောင်းသေးသလဲ။ ဘရန်ဝစ်ခိုင်းတတ်တဲ့ ဖိနပ်ချုပ်ဖို့အလုပ်တွေ ပုံနေတာပဲ"

"အင်း ဗာနေဗက်ဟာ အလုပ်တာဝန်ရတဲ့အထိ စောင့်နေရမှာပဲ" ကေက ပြောလိုက်သည်။ "ဒါက နားလည်နိုင်ပါတယ်။ သူတို့ဌာနမှာ ဝန်ထမ်းများ နေလို့ ဖြစ်မယ်။ လူတိုင်းဟာ ဘယ်မှာ နေ့တိုင်း အလုပ်တစ်ခုရနိုင်မှာလဲ။ ဒါကို အပြစ်ပြောနေလို့ မဖြစ်ဘူး။ လူတိုင်း ကြုံတွေ့နေရတာပဲ။ ဒါပေမဲ့ ရေရှည်ကျရင် ဗာနေဗက် လုပ်ငန်း တာဝန်တစ်ခု ရမှာပဲ။ သူက လောလောဆယ်မှာ အစ်ကို့ဆီကို စာနှစ်စောင်တောင် ယူလာပြီးပြီပဲ"

"အင်း အဲဒါဖြစ်နိုင်ပါတယ်" အော်လဂါ ပြောသည်။ "ညီမတို့က အပြစ် ပြောနေတာ မှားပါတယ်။ အထူးသဖြင့် သတင်းတွေကို တစ်ဆင့်စကား ကြားရတဲ့ ညီမကို သူက ပြောတယ်။ နောက်ပြီးတော့ ညီမက ပြဿနာ အားလုံးကို ဗာနေဗက် လောက်လည်း မသိဘူးပေါ့။ သူက ညီမကို မပြော ဘဲထားတာတွေလည်း အများကြီး ရှိတယ်။ ဒါပေမဲ့ စာတွေကို ဘယ်လိုပေးတယ် ဆိုတာကိုတော့ ပြောပြပါရစေဦး။ ဗာနေဗက်ဟာ အဲဒီစာတွေကို ကလမ်ဆီက တိုက်ရိုက်ရတာ မဟုတ်ဘူး။ စာရေးဆီက တစ်ဆင့်ရတာ။ ဘယ် နေ့မှာရယ်လို့ မဟုတ်ဘူး။ ဘယ်အချိန်မှာရယ်လို့ သတ်သတ် မှတ်မှတ် မဟုတ်ဘူး။ ဒါကြောင့်မို့လို့ ဗာနေဗက်ဟာ အမြဲတမ်းအသင့်ဖြစ်နေရတယ်။ စာရေးတစ်ယောက်က ဖြုန်းခနဲ သူ့ကိုတွေ့သွားတဲ့အခါ ကလမ်ဆီက အထူး ညွှန်ကြားချက် မရှိဘဲနဲ့ လက်ရိပ်ပြလိုက်တယ်။ ကလမ်ကတော့ စာပဲဖတ် နေတယ်။

"အမှန်ပဲ၊ တစ်ခါတစ်ရံမှာ ဗာနေဗက်ရောက်သွားတဲ့အချိန်မှာ ကလမ်က သူ့မျက်မှန်ကို သုတ်နေတယ်။ ဒါပေမဲ့ အဲဒီအချိန်မှာ သူက ဗာနေဗက်ကို ကြည့် လိုက်တယ်။ သူက ဒါမျိုး မကြာခဏ လုပ်တတ်တယ်။ မျက်မှန်မပါဘဲနဲ့ ဘာမှမမြင်ရဘူး ဆိုတဲ့သဘောပဲ။ အဲဒါကို ဗာနေဗက် မယုံဘူး။ ဘာ ဖြစ်လို့လဲဆိုတော့ ကလမ်ရဲ့မျက်လုံး တွေဟာ အမြဲတမ်းမှိတ်ထားတယ်။ သူ့ ကိုကြည့်ရတာ အိပ်နေတယ်လို့ ထင်ရတယ်။ မျက်မှန်ကို သုတ်နေတာက အိပ်မက်တစ်ခု မက်နေသလိုပဲ။ အဲဒီအချိန်မှာ စာရေးက စာရွက်စာတမ်းပုံ ကို မွှေနှောက်ပြီး အစ်ကို့အတွက် စာတစ်စောင်ကို ဆွဲထုတ်လိုက်တယ်။ စာအိတ်ကို ကြည့်ခြင်းအားဖြင့် အဲဒီစာဟာ အသစ်ရေးထားတာ မဟုတ်ဘူး။ ဟောင်းနေပြီ ဖြစ်တဲ့ စာတစ်စောင်ပဲ။ အဲဒီစာဟာ အဲဒီနေရာမှာ ရှိနေ တာ ကြာလှပြီ။ အဲဒါဆိုရင် သူတို့ဟာ ဗာနေဗက်ကို ဘာဖြစ်လို့ စောင့်ခိုင်း ထားရတာလဲ။ အစ်ကို့ကို စောင့်ခိုင်းထားရ တာလဲ။ စာကိုကော ဘာဖြစ်လို့ ပစ်ထားရတာလဲ။ စာက အများကြီး နောက်ကျနေပြီ။

"အဲဒီနည်းနဲ့ ဗာနေဗက်ဟာ နှေးကွေးတဲ့ ဆက်သားညံ့တစ်ယောက်အဖြစ် နာမည်ပျက် ရတာပဲ။ စာရေးကတော့ {ကလမ်မှ ကေသို့} ပေးရန် ဆိုပြီး

ပေးလိုက်တာပဲ။ ဗာနေဗက်ဟာ အဲဒီစာအဟောင်းကြီးကို အိတ်ထဲထည့်ပြီး အိမ်ကို ပြန်ရောက်လာတာပဲ။ ညီမတို့ အခုကိုပဲ ဒီခုံပေါ်ထိုင်ပြီး ဗာနေဗက် ဖြစ်ပျက်ပုံကို အစုံပြောကြတာပဲ။ သူ့ရဲ့အောင်မြင်မှုဟာ ဘာမှမပြောပ လောက်ဘူးဆိုတာ တွေ့ရတယ်။ ဗာနေဗက်ဟာ စာကို ပစ်ချထားပြီး စာကို ပို့ချင်စိတ်မရှိဘူး ဖြစ်နေတယ်။ နောက်ပြီးတော့ အိပ်လည်း မအိပ်ချင်ဘူး ဖြစ်နေတယ်။ ဒါနဲ့ သူဟာ ဖိနပ်ချုပ်တဲ့အလုပ်ကို တစ်ညလုံး လုပ်တော့တာပဲ။ အဖြစ်အပျက်တွေကတော့ အဲဒါပဲလေ။ အခုဆိုရင် ညီမရဲ့လျှို့ဝှက်ချက် တွေလည်း အစ်ကို သိရပြီ။ အမာလီယာရဲ့ မသိကျိုးနွံမှုကိုလည်း အစ်ကို အံ့ သြစရာ မရှိတော့ဘူး"

"စာက ဘာဖြစ်သွားသလဲ"

ကေက မေးလိုက်သည်။

"စာ ဟုတ်လား၊ ဒီစာနဲ့ပတ်သက်ပြီး ညီမ သူ့ကို အများကြီး ပြောရတယ်။ အစ်ကိုဟာ ရဲတိုက်ကြီးကို သွားရတယ်။ ရုံးခန်းကို မှန်မှန်သွားရတယ်။ ကလမ်နဲ့ အခန်းထဲမှာ တစ်နေကုန် နေရတယ်။ အစ်ကို့ကို ဆက်သားအဖြစ် အသိအမှတ် ပြုတယ်။ အဲဒီအတွက် ဌာနဆိုင်ရာဝတ်စုံ တောင်းထားတယ်။ အစ်ကို့ကို အရေးကြီးတဲ့ လုပ်ငန်းတွေမှာ ယုံကြည်ကြတယ်။ အဲဒါကို အစ်ကိုက စိတ်ဝင်စားမှုမရှိဘဲ ဖိနပ်ပဲ ချုပ်နေတယ်။ စာကို အခန်းထောင့် မှာ ပစ်ထားတယ်။ အဲဒီတော့မှ သူဟာ စာကို ယူပြီး သွားပို့တယ်"

"ညီမပြောတာအားလုံး မှန်ပါတယ်။ ညီမ ဘယ်လိုလုပ်ပြီး ဒါတွေအားလုံး ကို သဘောပေါက်တယ်ဆိုတာ အံ့သြစရာပဲ။ ညီမရဲ့ အတွေးအခေါ်တွေက ရှင်းပြီး ပြတ်နေ တာပဲ"

ကေက ပြောလိုက်သည်။

"မဟုတ်ဘူး အစ်ကို၊ ဒီကိစ္စမှာ အစ်ကိုလည်း ပါတယ်။ သူလည်း ပါတယ်။ သူ ဘာတွေ တကယ်အောင်မြင်သလဲ။ သူဟာ ရုံးခန်းထဲကို သွားရတယ်။ ဒါပေမဲ့ အဲဒါဟာ ရုံးခန်းနဲ့မတူဘူး။ သူ ကလမ်နဲ့ စကားပြောရတယ်။ ဒါပေမဲ့ အဲဒီသူဟာ ကလမ်အစစ်လား၊ ကလမ်နဲ့တူတဲ့ တခြားလူတစ် ယောက်လား၊ ကလမ်နဲ့တူအောင် လုပ်နေတဲ့ လူတစ်ယောက်လား၊ ကလမ် အိပ်နေတဲ့ပုံမျိုး၊ ကလမ်အိပ်မက်နေတဲ့ပုံမျိုး ကြိုးစားထားတာလား။ ဒါမျိုး က အင်မတန် တုလို့ လွယ်တယ်။

"ဥပမာပြောရရင် ကလမ်မှာ မိုမက်ဆိုတဲ့ ကျေးရွာအတွင်းရေးမှူးတစ် ယောက် ရှိတယ်။ သူ့ကို အစ်ကိုသိတယ်မဟုတ်လား။ သူက နောက်ပိုင်းမှာပဲနေတယ်။ ဒါပေမဲ့ ညီမ သူ့ကို အကြိမ်ပေါင်းများစွာ တွေ့ဖူးတယ်။ တုတ်တုတ်ခိုင်ခိုင် လူရွယ်တစ်ယောက်ပဲ။ ဟုတ်တယ် မဟုတ်လား။ အဲဒီတော့ ကလမ်နဲ့ နည်းနည်းကလေးမှ မတူဘူး။ ဒါပေမဲ့ ရွာထဲမှာတော့ မိုမက်ဟာ ကလမ်ပဲလို့ ပြောတဲ့လူတွေ အများကြီးပဲ။ အဲဒါက လူတွေဟာ ကိုယ့်ဟာကိုယ် မရှုပ်ရှုပ်အောင် လုပ်နေကြတာပဲ။ ရဲတိုက်ကြီးထဲမှာ ဘာပြုလို့ ဒီအတိုင်း

မဖြစ်နိုင်ရမှာလဲ။ လူတစ်ယောက်က အရာရှိတစ်ယောက်ကို လက်ညှိုးထိုးပြီး အဲဒါ ကလမ်ပဲလို့ ဗာနေဗက်ကိုပြောလိုက်ရင် အဲဒီအခါမှ ဆင်တူမှုဟာ တစ်ခါတည်း ဖြစ်ပေါ်လာတော့တာပဲ။ ဗာနေဗက်မှာ အမြဲတမ်း သံသယဖြစ်ရတော့တာပဲ။ သူ့ရဲ့သံသယကို အချက်တွေအားလုံး က ထောက်ခံတော့တာပဲ။ လူအများ ရှိတဲ့ အခန်းတစ်ခုထဲမှာ ကလမ်ဟာ ခဲတံကို နားရွက်မှာ ညှပ်ပြီး တခြားအရာရှိတွေ ကြားထဲမှာ တိုးဝှေ့ပြီးသွား နေတာ ဖြစ်နိုင်ပါ့မလား။ ဒါ ဘယ်လိုမှမဖြစ်နိုင်ဘူး။

"ဗာနေဗက်က ကလေးတစ်ယောက်လို ကလေးအတွေးမျိုးနဲ့ အမြဲတမ်း ပြောလေ့ရှိတယ်။ {အဲဒီအရာရှိက ကလမ်နဲ့ တကယ်တူတာပဲ။ တံခါးပေါက် မှာ သူ့နာမည် ရေးထားပြီး သူ့ရုံးခန်းထဲက သူ့စားပွဲမှာ ထိုင်နေလို့ရှိရင် ကို ယ့်အနေနဲ့ ဘယ်လိုမှ သံသယရှိမှာ မဟုတ်ဘူး} ဒါဟာ ကလေးဆန်ပေမဲ့ ဖြစ်နိုင်ခြေတော့ ရှိပါတယ်။ နောက်ပြီးတော့ ဗာနေဗက်ဟာ အဲဒီမှာ လူအချို့ကို အမှန် ဟုတ် မဟုတ် မေးနိုင်ပါတယ်။ ဒါပေမဲ့ စည်းကမ်းနည်းလမ်း ချိုးဖောက်ရာကျမှာစိုးလို့ သူ မမေးရဲဘူး။ သူ့အလုပ် ပြုတ်သွားမှာကို သူ စိုးရိမ်နေတယ်။ သူက အဲဒီမှာ ကြောက်ဒူးတုန်နေတယ်"

"ညီမက အဓိကအချက်ကို တွေ့မြင်တာပဲ။ ဒါကို ကိုယ် သဘောပေါက်နိုင် ပါတယ်။ ဗာနေဗက်ဟာ ဒီအလုပ်အတွက် အများကြီး ငယ်သေးတယ်။ ညီမ က သူ့ကို အတင်းပြောခိုင်းတဲ့ အခါမှာ သူဆီက အဖြေတွေဟာ ရှုပ်ထွေးနေ တော့တာပဲ။ အဲဒါကို အစ်ကို မအံ့ဩပါဘူး။ ဒီကလူတွေက အာဏာပိုင်တွေ ကို ကြောက်နေကြတယ်။ ဗာနေဗက်လို အတွေ့အကြုံမရှိတဲ့ လူငယ်တစ် ယောက်၊ ဒီရွာကနေ လွန်ပြီး မသွားဖူးတဲ့ လူရွယ်တစ်ယောက်ကို ရဲတိုက်ကြီးကို လွှတ်လိုက်ပြီး သူ့ဆီမှာ အဖြစ်မှန်တွေကို သိချင်တဲ့အခါမှာ ဘယ်မှာ ဖြစ်နိုင်ပါ့မလဲ။

"အစ်ကိုတို့ဟာ စာတွေရတာ အမှန်ပဲ။ ဒါပေမဲ့ ဒီစာတွေဟာ တန်ဖိုးမရှိ တဲ့ စာတွေလို့ပဲ ထားလိုက်ပါ။ စာက အဟောင်းပုံထဲကနေ ထုတ်ပေးလိုက်တယ်။ ဒါပေမဲ့ ဒီစာတွေဟာ အစ်ကို့အတွက်တော့ တန်ဖိုးရှိတယ်။ ကျေးရွာ ဥက္ကဋ္ဌနဲ့ သူ့ဇနီးပြောသလို ဒီစာတွေဟာ ကလမ်ကိုယ်တိုင် ရေးတာပဲ"

"ဥက္ကဋ္ဌကြီးက ဒီလိုပဲပြောသလား"

အော်လဂါက မေးလိုက်သည်။

"ဟုတ်တယ်၊ ဒီလိုပဲပြောတယ်"

ကေက ဖြေလိုက်သည်။

"ဒီအကြောင်း ဗာနေဗက်ကို ညီမပြောပြရမယ်။ ဒါက သူ့ကို အများကြီး အားပေးရာရောက်တယ်"

အော်လဂါက လျှင်မြန်စွာပြောလိုက်သည်။ ကေက

"သူ့ကို အားပေးစရာ မလိုပါဘူး။ သူ အားတက်စေဖို့အတွက် သူ မှန်တယ် ဆိုတာကိုပဲ ပြောပြရုံပဲ။ သူ့အနေနဲ့ အခုအတိုင်း ဆက်လုပ်သွားရုံပဲ။ ဒါပေမဲ့ သူ ဒီလို လုပ်နေတဲ့အတွက် ဘာအောင်မြင်မှုမှ မရနိုင်ဘူး။ လူတစ်ယောက် ရဲ့

မျက်လုံးတွေကို ပတ်တီးစည်းထားရင် ပတ်တီးကို ဖောက်ပြီး ကြည့် အောင် ဘယ်လောက်ပဲ အားပေးပေး သူ မြင်ရမှာ မဟုတ်ဘူး။ ပတ်တီးကို ဖယ်ပစ်မှသာ သူ မြင်ရလိမ့်မယ်။

"ဒီလိုပြောလိုက်ခြင်းအားဖြင့် ဗာနေဗက်ရဲ့ လိုအပ်ချက် ဖြည့်ဆည်းပေး ရာတော့ ရောက်မယ်။ ဒါပေမဲ့ အားပေးရာတော့ မရောက်နိုင်ဘူး။ တစ်ခုပဲစဉ်းစားကြည့်ပါ။ ညီမတို့အားလုံးဟာ အာဏာပိုင်အဖွဲ့ကြီးနဲ့ ရှုပ်ထွေး ပတ်သက်နေကြတယ်။ ဗာနေဗက်ဟာ အာဏာပိုင်အဖွဲ့ကြီးကို တစ်ယောက်တည်း သနားစရာ ဆန့်ကျင်နေ ရတယ်။ သူဟာ အမှောင်ထဲ မှာ သည်းခံနေရပြီး ဌာနတစ်ခုမှာ အမေ့ခံနေရတယ်"

"ညီမတို့ဟာ ဗာနေဗက်ရင်ဆိုင်နေရတဲ့ အခက်အခဲတွေကို လျှော့တွက် ထားတယ်လို့ မထင်ပါနဲ့လေ။ ညီမတို့ဟာ အာဏာပိုင်အဖွဲ့ကြီးကို လေးစား လို့ပါ"

အော်လဂါက ပြောလိုက်သည်။

ကေက

"ဒါက မှားယွင်းတဲ့ လေးစားမှုပဲ။ နေရာမှားပြီး လေးစားနေတာပဲ။"

“ဂုဏ်သိက္ခာကို ထိခိုက်စေတဲ့ လေးစားမှုမျိုးပဲ။ ဗာနေဗက်ဟာ အဲဒီအခန်းထဲကိုဝင်ပြီး အချိန်တွေ အလဟဿ ဖြစ်နေရတာ၊ ကြောက်ဒူးတုန်နေရတာကို လေးစားမှုလို့ ခေါ်မလား။ ဒါဟာ လေးစားမှုနဲ့ ဘာမှမဆိုင်ဘူး။ အစ်ကို့မှာ နောက်ထပ် ရှုတ်ချစရာရှိသေးတယ် အော်လဂါ။ အဲဒါကတော့ ညီမကိုပဲ အပြစ်တင်ရမယ်။ ညီမကို ချန်မထားနိုင်ဘူး။ ညီမဟာ အာဏာပိုင်အဖွဲ့ကြီး ကို လေးစားလို့ဆိုပြီး ဗာနေဗက်ကို ရဲတိုက်ကြီးကို အားငယ် ပါးငယ်နဲ့ လွှတ်ခဲ့တယ်။ သူ့ကို မသွားရအောင် ညီမက မတားခဲ့ဘူး"

"အစ်ကို အခုလို ရှုတ်ချတာမျိုးကို ညီမကိုယ်တိုင် အစကတည်းက စဉ်းစားခဲ့ပါတယ်။ ဗာနေဗက်ကို ရဲတိုက်ကြီးကို ညီမလွှတ်ခဲ့တာ မဟုတ်ပါဘူး။ သူ့ဘာသာသူ သွားတာပါ။ ဒါပေမဲ့ ညီမက သူ့ကိုနည်းမျိုးစုံနဲ့ တားခဲ့ဖို့ ကောင်းပါတယ်။ အတင်း အကျပ်ရော၊ ချော့မော့ ဖြားယောင်းလို့ရောပေါ့။ ညီမဟာ သူ့ကို တားသင့်ပါတယ်။ ဒါပေမဲ့ ဒီကိစ္စကို ညီမ ဒီနေ့ဆုံးဖြတ်ရ မယ်ဆိုရင်လည်း ဗာနေဗက်ဟာ ကနေ့အထိ အကျဉ်းအကျပ်ကြီးထဲမှာ ရှိနေလို့ပဲ။ ဘာတွေပဲဖြစ်ဖြစ် ကနေ့လည်း ညီမအနေနဲ့ တားမှာ မဟုတ်ပါဘူး။ ညီမနေရာမှာ အစ်ကိုသာဆိုရင်လည်း ဒီအတိုင်းပဲလုပ်မှာပါပဲ။ ညီမတို့ ကျရောက်နေတဲ့ အန္တရာယ်ကြီးကို အစ်ကိုမသိဘူး။ ဒါကြောင့်မို့လို့ အစ်ကို ဟာ ညီမတို့အားလုံးအပေါ်မှာ တရားမျှတမှု မရှိတာပဲ။ အထူးသဖြင့် ဗာနေ ဗက်အပေါ် မှာပေါ့။ အဲဒီအချိန်တုန်းက ညီမတို့မှာ မျှော်လင့်ချက်တွေ ရှိ သေးတယ်။ ဒါပေမဲ့ ညီမတို့ ကျရောက်နေတဲ့ အန္တရာယ်က ကြီးမားတယ်။ အခုလည်း ဒီအတိုင်းပဲ။ ဖရီဒါက ညီမတို့အကြောင်း အစ်ကို့ကို ဘာမှပြောမ ပြဘူးလား"

"အရိပ်ကြွမက်လောက်ပါပဲ၊ ဘာမှ အသေအချာ ပြောမပြပါဘူး။ ဒါပေမဲ့

ညီမရဲ့နာမည် ပြောလိုက်ရုံနဲ့ သူဟာ ကသိကအောက်ဖြစ်သွားတော့တာပဲ"

"တည်းခိုခန်းပိုင်ရှင် အမျိုးသမီးကြီးကကော ဘာမှပြောမပြဘူးလား"

"ဟင့်အင်း၊ ဘာမှမပြောပါဘူး"

"တခြားတစ်ယောက်ယောက်ကကော ပြောမပြဘူးလား"

"ဘယ်သူ့မှ မပြောပါဘူး"

"အင်းလေ၊ အစ်ကို့ကို ဘယ်သူက ပြောပြမလဲ။ ညီမတို့အကြောင်း လူ တိုင်းကလည်း တစ်ခုခုတော့ သိနေတာပေါ့။ အမှန်တွေရော ချဲ့ကားထား တဲ့ ကောလာဟလ တွေရောပေါ့။ များသောအားဖြင့် လုပ်ကြံထားတာ။ လူ တွေက ညီမတို့အကြောင်းကို လိုအပ်တာထက်ပိုပြီး စဉ်းစားကြတယ်။ ဒါပေမဲ့ တကယ်တမ်းကျတော့ ဘယ်သူမှ တကယ်လက်တွေ့ မပြောကြဘူး။ စကားအဖြစ် ပြောရမှာကို ရှက်နေကြတယ်။ အဲဒါလည်း သူတို့ မှန်ပါတယ်။ အစ်ကို့ရှေ့မှာ ပြောဖို့တောင် အများကြီး ခက်ပါတယ်။ ဒီအကြောင်း တွေအားလုံးကို အစ်ကိုကြားရရင် ဒီကိစ္စဟာ အစ်ကိုနဲ့ နည်းနည်းကလေးမှ မပတ်သက်ပေမဲ့ အစ်ကို တခြားကိုထွက်သွားပြီး ညီမတို့နဲ့ ဘယ်လိုမှ မပတ်သက်တော့မှာ ဖြစ်နိုင်တယ်။ အဲဒီအခါကျရင် အစ်ကို့ကို ညီမတို့ ဆုံးရှုံး သွားနိုင်တယ်။ အခုဆိုရင် အစ်ကိုဟာ ဗာနေဗက်ရဲ့ ရဲတိုက်ကြီးလုပ်ငန်း ထက် ညီမကို ပိုပြီး အလေး ထားနေတယ်ဆိုတာ ညီမ ဝန်ခံပါတယ်။ ဒီကိစ္စ ကိုပြောဖို့ ညီမ တစ်ညနေလုံး တံ့ဆိုင်း နေခဲ့ရတယ်။ ဒါပေမဲ့ အစ်ကို့ကို ပြောမှဖြစ်မယ်။ ဒီလိုမပြောရင် အစ်ကိုဟာ ညီမတို့ကို အတွင်းကျကျ မမြင် နိုင်ဘူးဖြစ်နေမယ်။ ညီမအတွက် ပိုပြီး စိတ်အနှောင့်အယှက် ဖြစ်နေတာ ကတော့ အစ်ကိုဟာ ဗာနေဗက်အပေါ် တရားမမျှတဘူး ဖြစ်နေမယ်။ ညီမ တို့ ကြားမှာ လက်တွဲမှုမရှိဘူးဖြစ်နေမယ်။ အစ်ကိုက ညီမတို့ကို မကူညီတော့တာလည်း ဖြစ်နိုင်တယ်။ ညီမတို့ရဲ့အကူအညီကို လက်မခံတော့တာလည်း ဖြစ်နိုင်တယ်။ ဒါပေမဲ့ နောက်ထပ်မေးစရာ မေးခွန်းတစ်ခု ကျန်သေးတယ်။ ဒီအကြောင်းတွေကို အစ်ကို့အနေနဲ့ တကယ်ပဲ ပြောပြစေချင် သလား"

ကေက

"ဘာဖြစ်လို့မေးတာလဲ။ တကယ်ကို လိုအပ်တယ်ဆိုရင် အစ်ကို့ကိုပြောပြပါ။ ဘာဖြစ်လို့ ဒီလို တကူးတကန့် မေးနေရတာလဲ"

"စိတ်ထဲမှာ ထင်နေတာ ရှိလို့ပဲ။ အစ်ကိုဟာ ရိုးရိုးသားသားနဲ့ပဲ ညီမတို့ ကိစ္စထဲမှာ ဝင်ပတ်သက် လာလိမ့်မယ်။ ဗာနေဗက်လို ရိုးရိုးသားသားလေးနဲ့ ပဲပေါ့"

"အစ်ကို့ကို မြန်မြန်ပြောစမ်းပါ။ ကိုယ် မကြောက်တတ်ပါဘူး။ အခုလို ပေါက်တတ်ကရတွေ လျှောက်ပြောနေတာက ပိုပြီးဆိုးတယ်"

## အမာလီယာ၏ လျှို့ဝှက်ချက်

အော်လင်ဂါက ...

"အစ်ကို စဉ်းစားကြည့်ပါ။ ပြဿနာက ရိုးရိုးကလေးပဲ။ ပထမတော့ ဒီကိစ္စဟာ ဘယ်လိုမှ အရေးကြီးစရာအကြောင်း မရှိဘူး။ ရဲတိုက်ကြီးမှာ ဆော်တီနီ လို့ခေါ်တဲ့ အရာရှိကြီးတစ်ယောက် ရှိတယ်"

"သူ့အကြောင်း အစ်ကိုကြားဖူးတယ်။ အစ်ကို့ကို ဒီကိုရောက်အောင် ခေါ် လာတာ သူပဲ"

ကေက ပြောလိုက်သည်။

"မဟုတ်ဘူးနဲ့တူတယ်။ သူက လူမြင်ကွင်းကို ထွက်ခဲတယ်။ ဆော်ဒီနီနဲ့ အစ်ကို မှားနေတာ မဟုတ်လား"

"ဒွေးနဲ့ စာလုံးပေါင်းတာမဟုတ်လား။ ညီမပြောတာ မှန်တယ်။ ဆော်ဒီနီပဲ။

"ဆော်ဒီနီက နာမည်ကြီး၊ သူက အင်မတန်အလုပ်လုပ်တဲ့ အရာရှိတစ်ယောက်ပဲ။ ဆော်တီနီ ဆိုတာကတော့ အေးအေးဆေးဆေး သမားပဲ။ သူ့ကို လူတွေ သိပ်မသိကြဘူး။ လွန်ခဲ့တဲ့ သုံးနှစ်လောက်က ညီမ သူ့ကို ပထမဆုံးအကြိမ်နဲ့ နောက်ဆုံးအကြိမ် မြင်ဖူးတာပဲ။ ဇူလိုင်လ သုံးရက်နေ့က မီးသတ်တပ်ဖွဲ့ပွဲ ကျင်းပတဲ့နေ့ကပဲ။ ရဲတိုက်ကြီးကလည်း အဲဒီပွဲမှာ ပါဝင်တယ်။ မီးသတ်စက် အသစ်တစ်လုံး လှူဒါန်းတယ်။

"ဆော်တီနီက မီးသတ်တပ်ဖွဲ့ကို တစ်နည်းနည်းနဲ့ ကိုင်ရတယ်။ ဒါမှမဟုတ် သူဟာ တစ်ယောက်ယောက်ရဲ့ လက်ထောက်အဖြစ် လုပ်ရတာဖြစ်မယ်။ အရာရှိ တွေဟာ တစ်ယောက်နောက်က တစ်ယောက် ပုန်းကွယ် နေ တတ်တယ်။ ဒါကြောင့်မို့လို့ ဘယ်အရာရှိက တာဝန်ရှိတယ်ဆိုတာ မသိနိုင် တာပဲ။ မီးသတ်စက် လွှဲပြောင်းပေးတဲ့ အခမ်းအနားမှာ ဆော်တီနီပါဝင်တယ်။ ရဲတိုက်ကြီးက တခြားလူတွေလည်း အများကြီး ပါတယ်။ အရာရှိ တွေရော၊ တက်ရောက်သူတွေရောပဲ။ အဲ သူ့စရိုက်အတိုင်းပဲ ဆော်တီနီဟာနောက်ပိုင်းမှာ ပါနေတယ်။

"သူက လူပိန်ပိန်သေးသေးကလေးပဲ။ သူ့ကို မြင်တဲ့လူတိုင်းက သတိပြုမိတယ်။ သူက နဖူးကြောတွေကို ရှုံ့တွထားတယ်။ သူက အသက်လေးဆယ်ကျော်ပုံ မရသေးပေမဲ့ နဖူးကြောတွေအားလုံး တွန့်ထားတယ်။ နဖူးပြင်တစ် ခုလုံး ရှုံ့နေတာပဲ။ နှာခေါင်းနားအထိ ရောက်အောင်ပဲ။ ဒါမျိုး ညီမ တစ်ခါမှ မမြင်ဖူးဘူး။

"အင်း ဟုတ်တယ်၊ အဲဒီအခမ်းအနားကို ညီမတို့ တက်ကြတယ်။ လွန်ခဲ့တဲ့ နှစ်ပတ် သုံးပတ်လောက် ကတည်းက အမာလီယာနဲ့ ညီမတို့ စိတ်လှုပ်ရှား နေခဲ့ကြတယ်။ ဒီပွဲအတွက် ညီမတို့ ဝတ်စုံသစ်တွေ ချုပ်ခဲ့ကြတယ်။ အမာ လီယာရဲ့ဝတ်စုံက အတော့်ကို ကောင်းတယ်။ အင်္ကျီအဖြူ ရှေ့ပိုင်းမှာ ဇာတွန့်တွေ

တစ်တွန့်ပြီး တစ်တွန့်ပဲ။ ဇာတွန့် တွေကို မေမေကိုယ်တိုင် လုပ်ပေး တာပါ။ ညီမ မနာလိုဖြစ်ရတယ်။ ပွဲမတိုင်ခင် ညဝက် လုံးလုံး ညီမ ငိုခဲ့ရတယ်။ တံတားတည်းခိုခန်း ပိုင်ရှင်ကတော်ကြီး လာတဲ့အထိပဲ"

"တံတားတည်းခိုခန်းပိုင်ရှင်ကတော် ဟုတ်လား"

ကေက မေးလိုက်သည်။

"ဟုတ်တယ်၊ သူက ညီမတို့ရဲ့ မိတ်ရင်းဆွေရင်း တစ်ယောက်ပဲ။ သူ ရောက် လာပြီး အမာလီယာက ပိုပြီးလှနေတာဆိုတာ ဝန်ခံတယ်။ သူက ညီမကို နှစ်သိမ့်တယ်။ သူ့ရဲ့ဂေါ်မုတ်လည်ဆွဲကို ညီမကို ငှားတယ်။ ညီမတို့ သွားကြမယ့်အချိန်မှာ ညီမရဲ့ ဘေးမှာ အမာလီယာ ရပ်နေတော့ ညီမတို့ အားလုံးက သူ့ကို ချီးကျူးကြရတယ်။ ညီမတို့ ဖေဖေက ပြောတယ်။ {ငါ့ စကားကို မှတ်ထားကြ၊ အမာလီယာဟာ ကနေ့ ခင်ပွန်း တစ်ယောက် ရလိမ့်မယ်} တဲ့။ အဲဒီအချိန်မှာ ဘာပြုလို့လဲမသိဘူး၊ ညီမရဲ့ ဂေါ်မုတ် လည်ဆွဲကို ချွတ်ပြီး အမာလီယာရဲ့လည်ပင်းမှာ ဆွဲပေးလိုက်တယ်။ ညီမရဲ့စိတ်ထဲမှာ မနာလိုစိတ်တွေ မရှိတော့ဘူး။ သူ့ရဲ့အလှကို အားလုံးကလည်း အသိအမှတ် ပြုကြရတယ်။ ညီမတို့ကို လာခေါ်တဲ့ လက်ဆီမန်းနဲ့ သူ့ဇနီးကရောပေါ့"

"လက်ဆီမန်း၊ ဟုတ်လား" ကေက မေးလိုက်သည်။ အော်လဂါက

"ဟုတ်တယ်။ လက်ဆီမန်းလည်း ညီမတို့ကို အထူးအလေးထား ကြရတယ်။ ညီမတို့မပါဘဲနဲ့ အခမ်းအနားကို မကျင်းပနိုင်ဘူး။ ဘာဖြစ်လို့လဲဆိုတော့ ဖေဖေက မီးသတ်တပ်ဖွဲ့ရဲ့ တတိယ ခေါင်းဆောင်ပဲ"

"ညီမတို့ရဲ့ဖေဖေက လုပ်နိုင်ကိုင်နိုင်တုန်းပဲလား"

ကေက မေးလိုက်သည်။ အော်လဂါက မေးခွန်းကို သိပ်နားမလည်ဟန်နှင့် ပြန်ပြောသည်။

"ဖေဖေဟာ လွန်ခဲ့တဲ့သုံးနှစ်လောက်က သူဟာ လူရွယ်တစ်ယောက်ပဲ ရှိသေးတယ်။ ဥပမာ ဟာရင်ဟော့မှာ မီးလောင်တုန်းက သူဟာ ဂါလက်တာ ဆိုတဲ့ အရာရှိ တစ်ယောက်ကို ထမ်းပြေးခဲ့ဖူးတယ်။ ဂါလက်တာက ရောမ လူဝကြီး တစ်ယောက်ပဲ။ အဲဒီတုန်းက ညီမလည်း အဲဒီမှာရှိနေတယ်။ မီးဖိုနားက ထင်းစတစ်စက စပြီး မီးလောင်တာပဲ။ ဂါလက်တာက အရမ်း ကြောက်ပြီး ပြတင်းပေါက်ကနေ ကယ်ကြပါလို့ အော်နေတယ်။ မီးသတ် တပ်ဖွဲ့ ရောက်လာတော့ မီးငြိမ်းသွားပြီဖြစ်ပေမဲ့ ဖေဖေက သူ့ကို ထမ်းပြေးတယ်။ တကယ်ပဲ ဂါလက်တာက အဲဒီအခြေအနေမျိုးမှာ မပြေးနိုင်ဘဲကိုး။ ဖေဖေနဲ့ပတ်သက်ပြီး ညီမ ပြောပြနေတာပဲ။ သုံးနှစ်လောက် ကြာတဲ့အခါ မှာကျတော့ ကနေ့တွေ့နေရတဲ့ ဖေဖေ့ကို ကြည့်စမ်းပါဦး"

ထိုအခါကျမှ အမာလီယာ အခန်းတွင်းသို့ ပြန်ဝင်လာကြောင်း ကေ သတိပြုမိသည်။ သို့သော် သူမက အဝေးကြီးတွင် ဖြစ်သည်။ မိဘနှစ်ပါးထိုင်နေ သော စားပွဲတွင် ဖြစ်သည်။ လက်တွေ မလှုပ်နိုင်သော မိခင်ကို စွပ်ပြုတ်

တိုက်နေသည်။ ဖခင်အား စိတ်ရှည်ရှည်နှင့် သူ့အလှည့်စောင့်ရန် သတိပေး နေသည်။ သို့သော် သူမ၏သတိပေးမှုသည် အချည်းနှီးပင်။ အကြောင်းမှာ သူမ၏ဖခင်သည် စွပ်ပြုတ်သောက်ရန် အာသာ ငမ်းငမ်းဖြစ်နေသဖြင့် သူ၏အားနည်းမှုကို သတိမရတော့ဘဲ ပထမတွင် ဇွန်းနှင့် ခပ်သောက်ရန် ကြိုးစားသည်။ ထို့နောက် ဇလုံကို ယူမော့ရန် ကြိုးစားသည်။ သို့သော် မည် သည့်ကြိုးပမ်းချက်မှ မအောင်မြင်ပါချေ။ ဇွန်းထဲမှ စွပ်ပြုတ်များသည် သူ့ ပါးစပ်ထဲ မရောက်ခင် ကုန်သွားသည်။ အကြောင်းမှာ သူ၏နှုတ်ခမ်းမွေး များက စွပ်ပြုတ်ထဲသို့ ကျပြီး အားလုံး ဖိတ်စဉ်ကုန်သည်။

"သုံးနှစ်အတွင်းမှာ သူ ဒီလိုဖြစ်သွားသလား"

ကေ မေးလိုက်သည်။ သူက လူကြီးနှစ်ယောက်ကို ကရုဏာမသက်မိဘဲ အခန်းထောင့် ဘေးတွဲမြင်ကွင်းသည် စက်ဆုပ်ဖွယ်ရာ ဖြစ်နေတော့သည်။

"သုံးနှစ် ဒါမှမဟုတ် ပိုပြီးတိတိကျကျ ပြောရရင် အဲဒီအခမ်းအနားက နာရီ အနည်းငယ် အတွင်းမှာ ဒီလိုဖြစ်သွားတာပဲ။ အခမ်းအနားကို ကျောင်း အနီးက ရွာ မြက်ခင်းပြင်မှာ ကျင်းပတယ်။ ညီမတို့ရောက်သွားချိန်မှာ လူ တွေအများကြီးရောက်နေပြီး အနီးအနား ရွာတွေကလည်း လူတွေအများ ကြီး လာကြတယ်။ အသံတွေက ဆူညံ နေတာပဲ။

"ဖေဖေက ညီမတို့ကို ပထမဆုံး မီးသတ်စက်ကို ကြည့်စေတယ်။ မီးသတ် စက်ကို တွေ့တော့ သူ ပျော်ပြီး ရယ်မောတယ်။ မီးသတ်စက်အသစ်က သူ့ကို ပျော်ရွှင် စေတယ်။ သူက မီးသတ်စက်ကို စစ်ဆေးကြည့်ရှုပြီး ညီမတို့ကို ရှင်းပြတယ်။ တစ်ယောက်ယောက်က တားမြစ်မှာ၊ ဟန့်တားမှာကို သူ နည်းနည်းမှမစိုးရိမ်ဘူး။ မီးသတ်စက် အောက်မှာ တစ်ခုခုကို ပြစရာရှိတဲ့ပုံစံနဲ့ ညီမတို့အားလုံးကို ငုံ့ပြီးကြည့်စေတယ်။ ငုံ့ပြီး မကြည့်တဲ့ ဗာနေဗက် ကို သူ့လက်နဲ့ လှမ်းရိုက်လိုက်သေးတယ်။

"အမာလီယာတစ်ယောက်ပဲ မီးသတ်စက်ကို စိတ်မဝင်စားတာ။ သူက ဝတ်ကောင်းစားလှတွေနဲ့ ရင်ကော့ပြီး ခေါင်းမော့နေတယ်။ သူ့ကို ဘယ်သူ ကမှ ဘာတစ်ခွန်းမှ မပြောရဲဘူး။ ညီမက မကြာခဏဆိုသလို သူ့ဆီကို ပြေးသွားပြီး သူ့ လက်မောင်းကို ဆွဲတယ်။ ဒါပေမဲ့ သူက ဘာမှမပြောဘူး။ ကနေ့အထိ ညီမ ရှင်းမပြ တတ်တာကတော့ ညီမတို့ဟာ မီးသတ်စက်ကြီး ကို မှီပြီး ရယ်နေတဲ့ ဆော်တီနီကို ဘာဖြစ်လို့ ဒါလောက်အကြာကြီး သတိမ ပြုမိဘဲ ရှိနေကြသလဲဆိုတာပဲ။ နောက်ဆုံး ဖေဖေလှည့်ကြည့်လိုက်တဲ့ အချိန်ကျမှပဲ သတိပြုမိ ကြရတော့တယ်။

"ဟုတ်တယ်။ ညီမတို့ပတ်ပတ်လည်မှာ အသံတွေ ကျွက်ကျွက်ညံ နေတယ်။ သာမန် အသံတွေလောက်သာ မဟုတ်ဘူး။ ရဲတိုက်ကြီးကလည်း မီးသတ်တပ်ဖွဲ့နဲ့အတူ ထရမ်းပက်တွေကို လက်ဆောင် ပေးလိုက်တယ်။ ထ ရမ်းပက် ဆိုတာက အသာကလေး ခလုတ်နှိပ်လိုက်ရုံနဲ့ အသံတွေ ထွက်လာ တာပဲ။ ကလေးတောင် လုပ်နိုင်တယ်။ လူတိုင်းကလည်း လုပ်ကြည့်ချင်ကြတယ်။

အားလုံးကို စမ်းကြည့်ခွင့် ပေးထားတယ်။ ဘာပြုလို့လဲဆိုတော့ ပွဲတော်ကြီး မဟုတ်လား။ ညီမတို့နားထဲမှာ ထရမ်းပက်သံတွေပဲ ကြားနေ ရတယ်။ အမာလီယာက ဒီအသံတွေကို စိတ်ဝင်စားနေတယ်။ ဒီအချိန်မှာ ဖေဖေ ကလည်း မီးသတ်စက်ကို ကြည့်ဖို့ခိုင်းထားတော့ ညီမတို့ဟာ တခြား ဟာကို စိတ်မဝင်စားနိုင်တော့ဘူး။ အဲဒါကြောင့်မို့လို့လည်း ညီမတို့ဟာ ဆော်တီနီကို အချိန် အတော်ကြီးကြာအောင် သတိမပြုမိကြတာပဲ။ ပြီးတော့ သူ ဘယ်သူလဲဆိုတာ ညီမတို့ မသိကြဘူး။

"{ဟိုမှာ ဆော်တီနီ} လို့ လက်ဆီမန်းက ဖေဖေ့ကို တိုးတိုးကလေး ပြောလိုက်တယ်။ ညီမက ဖေဖေ့ဘေးမှာရှိနေတယ်။ အဲဒီတော့ ဖေဖေက အတော်ကြီးကို အံ့သြတုန်လှုပ်သွားပြီးတော့ ခေါင်းကို အများကြီးညွတ်ပြီး အလေးပြုလိုက်တယ်။ ညီမတို့ကိုလည်း အဲဒီအတိုင်းလုပ်ဖို့ အရိပ်ပြလိုက်တယ်။ ဖေဖေဟာ သူ့ကို မတွေ့ဖူးခင် ကတည်းက ဆော်တီနီဟာ မီးသတ် တပ်ဖွဲ့ကိစ္စမှာ အာဏာပိုင်တစ်ယောက်ဖြစ်ကြောင်း ဂုဏ်ပြုပြောဆိုလေ့ ရှိတယ်။ သူ့အကြောင်း အိမ်မှာလည်း မကြာခဏ ပြောနေလေ့ ရှိတယ်။ အဲဒါ ကြောင့် ညီမတို့အတွက် ဆော်တီနီကို မျက်ဝါးထင်ထင် တွေ့လိုက်ရ တာ ဟာ အင်မတန် အရေးကြီးပြီး အံ့သြစရာကိစ္စကြီးပဲ ဖြစ်ပါတယ်။

"ဒါပေမဲ့ ဆော်တီနီကတော့ ညီမတို့ကို ဂရုမပြုမိပါဘူး။ အဲဒီကိစ္စမှာလည်း သူက အထူးအဆန်း မဟုတ်ပါဘူး။ အရာရှိ တော်တော်များများက လူထုကြီးနဲ့ ဆက်ဆံ ရတဲ့နေရာမှာ တသီးတခြား နေကြလေ့ ရှိပါတယ်။ ပြီးတော့ သူဟာ အတော်ကြီး ပင်ပန်း နွမ်းနယ်နေဟန် ရှိပါတယ်။ တာဝန် အရသာ သူ ဒီမှာနေနေရတာ ဖြစ်ပါတယ်။ ဒီလို တာဝန်မျိုး ထမ်းဆောင်ခွင့်ရတဲ့ အရာရှိတွေဟာ အညံ့ဆုံးပုဂ္ဂိုလ်တွေ မဟုတ်ကြပါဘူး။ တခြား အရာရှိတွေနဲ့ လက်ထောက်တွေဟာလည်း လူထုနဲ့ ရောနေကြပါတယ်။ သူက မီးသတ်စက်နားပဲ ဆက်ပြီး နေပါတယ်။ သူက ခပ်မဆိတ်ရှိနေတဲ့ အတွက် သူ့ကို ချဉ်းကပ်ပြီး တစ်ခုခု တောင်းဆိုချင်တဲ့လူတွေ၊ ချီးကျူး စကားပြောချင်တဲ့ လူတွေအတွက် မဝံ့မရဲဖြစ်နေကြရပါတယ်။

"အဲဒါကြောင့် ညီမတို့ သူ့ကို သတိပြုမိတာ အတော်ကြီး ကြာတဲ့အထိ သူက `ညီမတို့ကို သတိမပြုမိပါဘူး။ ညီမတို့က သူ့ကို လေးလေးစားစား ဦးညွတ်ပြီးတဲ့အခါမှ၊ ဖေဖေက သူ့ကို တောင်းပန်စကား ပြောပြီးတဲ့ အခါ ကျမှသာ သူက ညီမတို့ဘက်ကို လှမ်းကြည့်ပါတယ်။ ပင်ပန်းနွမ်းနယ်ဟန်နဲ့ တစ်ယောက်ပြီးတစ်ယောက် ကြည့်ပါတယ်။ သူ့မျက်လုံးတွေက အမာလီယာဆီကို ရောက်သွားတဲ့အခါမှာ သူ ခေါင်းမော့ပြီး ကြည့်ရ ပါတယ်။ အမာ လီယာက သူ့ထက် အရပ်မြင့်တာကိုး။

"အမာလီယာကိုတွေ့မြင်ရတော့ သူ လန့်သွားဟန်ရှိပြီး အမာလီယာနှင့် နီးအောင် မီးသတ်စက် လှည်းသန်ပေါ်ကို ခုန်တက်လိုက်တယ်။ ညီမတို့လည်း

ပထမတော့ နားလည်မှုလွဲပြီး သူ့အနားကို ကပ်သွားကြတယ်။ ဖေဖေ က ရှေ့ဆောင်ပြီးတော့ပေါ့။ ဒါပေမဲ့ သူက ညီမတို့ကို လက်ဝါးကာပြီး တား လိုက်တယ်။ ပြီးတော့ သွားကြဆိုတဲ့သဘောနဲ့ လက်ကို ဝှေ့ယမ်းပြလိုက်တယ်။ အဲဒါပဲပေါ့၊ ညီမတို့က အမာလီယာ တကယ်ပဲ ခင်ပွန်းတစ်ယောက် တွေ့ပြီလို့ စကြ နောက်ကြတယ်။ ညီမ တို့ဟာ ဘာမှမသိတော့ အဲဒီနေ့ တစ်ညနေလုံး ပျော်နေကြတယ်။ ဒါပေမဲ့ အမာလီယာ ကတော့ ခါတိုင်းထက် ပို ပြီး နှုတ်ဆိတ်နေတယ်။

"{အမာလီယာကတော့ ဆော်တီနီကိုချစ်တာ တစ်ခါတည်း စုပ်စုပ်ကို မြုပ်သွားတာပဲ} လို့ ဘရန်ဝစ်က ပြောလိုက်တယ်။ သူက အမြဲတမ်းလိုပဲ ညစ်ညစ် ညမ်းညမ်း ပြောတတ်တယ်။ နောက်ပြီးတော့ အမာလီယာတို့လို စရိုက်မျိုးကိုလည်း နားမလည်ဘူး။ ဒါပေမဲ့ ဒီတစ်ခါတော့ သူပြောတာမှန် တယ်လို့ ညီမတို့ထင်မိတယ်။ ညီမတို့ဟာ အဲဒီနေ့ တစ်နေ့လုံး အရူးအမူး ဖြစ်နေကြတယ်။ ညသန်းခေါင်လောက် အိမ်ပြန်ရောက်ကြတဲ့ အချိန်မှာ ရဲတိုက်ကြီးက ဝိုင်ချိုချိုကလေး သောက်ထားကြရသလိုပဲ"

"ဆော်တီနီ၊ ဟုတ်လား"

ကေက မေးလိုက်သည်။

"ဟုတ်တယ်။ ဆော်တီနီပဲ။ အဲဒီနေ့ တစ်ညနေလုံးပဲ ညီမ သူ့ကို ခဏ ခဏခဏ မြင်ရတယ်။ သူက မီးသတ်စက် လှည်းသန်ပေါ်မှာ လက်ပိုက်ပြီး ထိုင်နေတယ်။ ရဲတိုက်ကြီးက မြင်းရထား လာခေါ်တဲ့အထိ သူ အဲဒီမှာပဲ ထိုင်နေတယ်။ မီးသတ်တပ်ဖွဲ့ စစ်ရေးပြ အခမ်းအနားကိုတောင် သူ သွားမကြည့်ဘူး။ ဖေဖေကတော့ သူ ကြည့်နေမှာပဲဆိုပြီး သူများတွေထက် ခေါင်း တစ်လုံး ပိုမြင့်နေတယ်"

"သူ့ဆီက နောက်ထပ် ဘာမှမကြားရတော့ဘူးလား။ ညီမကိုကြည့်ရတာ ဆော်တီနီကို တော်တော်ကလေး အလေးထားပုံရတယ်"

ကေက မေးလိုက်သည်။

"အင်း ဟုတ်တယ်။ အလေးထားတယ်။ အင်း ဟုတ်တယ်။ သူ့ဆီက နောက်ထပ် ကြားရတယ်။ နောက်တစ်နေ့မနက်မှာ ညီမတို့အားလုံး အိပ်မောကျနေ ကြရာကနေ အမာလီယာရဲ့ အော်သံကြောင့် လန့်နိုးကြရတယ်။ တခြားလူတွေက ပြန်အိပ်သွားကြပေမဲ့ ညီမကတော့ လုံးဝနိုးနေပြီ ဖြစ်လို့ အမာလီယာဆီကို ပြေး သွားတယ်။ သူက ပြတင်းပေါက်နားမှာ စာတစ်စောင်ကိုင်ထားပြီး ရပ်နေတယ်။ စာက အခုပဲ ပြတင်းပေါက်ကနေပြီး လူတစ်ယောက်က ပေးလိုက်တာပဲ။ သူက အမာလီယာရဲ့ အဖြေကို ရပ်ပြီး စောင့်နေတယ်။ စာက တိုတိုကလေးပဲ။ အမာလီယာ ဖတ်ပြီးသွားလို့ အောက်ကိုချထားတဲ့ လက်ထဲမှာ ကိုင်ထားတယ်။ ညီမ သူ့ဘေးမှာ ဒူး ထောက်ကာ ထိုင်ချလိုက်ပြီး စာကို ဖတ်တယ်။ ညီမ စာကိုဖတ်ပြီးချိန် လောက်မှာပဲ သူက ညီမကို ဖျတ်ခနဲကြည့်တယ်။ ပြီးတော့ လက်ထဲက စာရွက်ကို

ပြန်ကြည့်တယ်။ ဒါပေမဲ့ သူက စာကို ပြန်မဖတ်တော့ဘဲ စာကို အစိတ်စိတ်အမြွှာမြွှာ ဆုတ်ဖြဲပစ်လိုက်ပြီး အပြင်ဘက်မှာ ရှိတဲ့လူရဲ့မျက်နှာ ကို ပေါက်လိုက်တယ်။ ပြီးတော့ ပြတင်းပေါက်ကို ပိတ်လိုက်တယ်။ အဲဒီနေ့ မနက်ဟာ ညီမတို့ရဲ့ ကံကြမ္မာကို ဆုံးဖြတ်တာပဲ။ ညီမက {ဆုံးဖြတ်တာပဲ} လို့ ပြောလိုက်တယ်။ ဒါပေမဲ့ ဒီအရင်နေ့ နေ့ခင်းပိုင်းက မိနစ်တိုင်းဟာ အဆုံးအဖြတ် ပေးနေတာပဲ"

"စာထဲမှာ ဘာတွေပါသလဲ"

ကေ၏ အမေး။

အော်လဂါက

"ဟုတ်တယ်။ အဲဒါကို ညီမ အခုထက်ထိ မပြောရသေးဘူး။ ဂေါ်မုတ်လည်ဆွဲနဲ့ မိန်းကလေးဆီကို လိပ်မူထားတဲ့ ဆော်တီနီဆီက စာပဲ။ စာထဲမှာ ရေးထားတာတွေကို ညီမ ပြန်မပြောတတ်တော့ဘူး။ သူ့ကို ဟာရင်ဟော့ တည်းခိုခန်းမှာ လာတွေ့ဖို့ ဆင့်ခေါ်ထားတာပဲ။ ချက်ချင်းလာရမယ်တဲ့။ ဘာ ဖြစ်လို့လဲဆိုရင် နောက်နာရီဝက်ဆိုရင် သူ သွားရတော့မှာမို့တဲ့။ စာကို အညစ်ညမ်းဆုံး အသုံးအနှုန်းတွေနဲ့ ရေးထားတာပဲ။ ဒါမျိုးကို ညီမ အရင် က မကြားဖူးဘူး။ စာရဲ့အဓိပ္ပာယ် တစ်ဝက်လောက်ကိုပဲ ညီမ ခန့်မှန်းနိုင်တယ်။ စာက မေတ္တာစာ မဟုတ်ဘူး။ အထဲမှာ နူးညံ့တဲ့ စကား လုံးတွေ တစ်လုံးမှ မပါဘူး။ မပါရုံတင်မဟုတ်ဘူး၊ ဆော်တီနီဟာ အမာလီယာကို မြင်လိုက်ရတဲ့အတွက် သူ့မှာအနှောင့်အယှက်ဖြစ်ရပြီး သူ့အလုပ်တွေကို မ လုပ်နိုင်ဘူးတဲ့။

"နောက်ပိုင်းမှာ ညီမတို့ဟာ စုတ်ပြဲနေတဲ့ စာကို ပြန်ဆက်ပြီး ကြည့်ကြတယ်။ ဆော်တီနီဟာ အဲဒီညနေမှာပဲ ရဲတိုက်ကြီးကို တန်းပြန်ဖို့ပဲ။ ဒါပေမဲ့ အမာလီယာကြောင့် ရွာထဲမှာ နေရတယ်တဲ့။ တစ်ညလုံး အမာလီယာကို မေ့မရတဲ့အတွက် နောက်တစ်နေ့မနက်မှာ အဲဒီစာကို ဒေါသတကြီးနဲ့ ရေး လိုက်တာတဲ့။ ဒီစာကိုဖတ်ရတဲ့သူတိုင်းဟာ ဒေါသမဖြစ်ဘဲ မနေနိုင်ဘူး။ ညီမ အိပ်ရာထဲကို ဝင်သွားတဲ့ အခါမှာ စာရဲ့ နိဂုံးအကြောင်းကို အမှတ်ရနေ မိတယ်။ {မင်း ချက်ချင်းလာရင် လာ၊ မလာရင်...)။

အမာလီယာဟာ ပြတင်းပေါက်နားမှာထိုင်ပြီး နောက်ထပ် ဆက်သားတွေလာရင် ပထမတုန်းကအတိုင်း ဆက်ဆံဖို့ အသင့်စောင့်နေတယ်"

"အဲဒီတော့ အရာရှိတွေက ဒီလိုပဲ။ သူတို့အထဲမှာ ဒါမျိုးတွေပဲ တွေ့ရ တယ်" ကေက မပြောချင်ပြောချင်နှင့် ပြောလိုက်သည်။ "ညီမတို့အဖေက ဘာလုပ်လဲ၊ ဟာရင် ဟော့မှာ တိုတိုနဲ့ မြန်မြန်ပြီးအောင် မရှင်းနိုင်ဘူးဆိုရင် သက်ဆိုင်ရာဌာနမှာ ပြင်းပြင်း ထန်ထန်ကန့်ကွက်သလား။ ဒီဇာတ်လမ်းမှာ အဆိုးဆုံးကတော့ အမာလီယာကို စော်ကားတာ မဟုတ်ဘူးပေါ့။ ဒါက လွယ်လွယ်ကလေးနဲ့ ပြီးသွားနိုင်ပါတယ်။ ညီမ ဒီအပေါ်မှာ ဘာဖြစ်လို့ အလေးထားပြီး ပြောနေတာဆိုတာ အစ်ကို စဉ်းစားလို့မရဘူး။ ဆော်တီနီ ဆီက ဒီလိုစာမျိုးအတွက် အမာလီယာ ဘာဖြစ်လို့ ရှက်ရမှာကို ညီမပြောတဲ့ အပေါ်မှာ အခြေခံပြီး စဉ်းစားကြည့်ရင် ဒါဟာ

တာဝန်မဲ့တာပဲ။ ဒါအတွက် အမာလီယာ အဖို့ လွယ်ပါတယ်။ ရက်ပိုင်းအတွင်းမှာပဲ ဒီကိစ္စက ပျောက် သွားမှာပဲ။ ဒီစာအတွက် ရှက်ရမှာက အမာလီယာ မဟုတ်ဘူး။ ဆော်တီနီ ကိုယ်တိုင်ပဲ။ အစ်ကို စိတ်ပျက်တာက ဆော်တီနီပဲ။ အာဏာကို အလွဲသုံးစားလုပ်တာပဲ"

"ရှူး" အော်လဂါက သတိပေးလိုက်သည်။ "အမာလီယာ ဒီဘက်ကို ကြည့်နေတယ်"

အမာလီယာသည် မိဘနှစ်ပါးကို စွပ်ပြုတ်တိုက်၍ ပြီးသွားပြီ။ ယခုအခါ မိခင်၏ အဝတ်အစားတွေကို သန့်ရှင်းပေးလျက်ရှိသည်။ သူမက မိခင်၏ စကတ်ကြယ်သီးတွေကို ဖြုတ်ပြီး မိခင်ကို ကိုယ်ကို အနည်းငယ်မကာ စကတ်ကို ချွတ်လိုက်ပြီးနောက် မိခင်ကို ခပ်ဖြည်းဖြည်း ပြန်ထိုင်စေသည်။ ထိုအခါ သူမ၏ ဖခင်က သူ့မိန်းမကို အရင် လုပ်ပေးရသလားဆိုပြီး သူ့ဘာ သူ အဝတ်တွေချွတ်ရန် ကြိုးစားသည်။ သမီးကိုလုပ်တာ ကိုင်တာ နှေးရမ လားဆိုပြီး ဒေါသဖြစ်နေပုံ ရသည်။ သို့ရာတွင် သူသည် အလွယ်ကူဆုံး အလုပ်ကို လုပ်ရာမှာပင် လုပ်မရဘဲ ရှိနေသည်။ ရောမ ခြေညှပ်ဖိနပ်ကြီးကိုချွတ်ရာ မှာပင် ခြေထောက်တွေက ဖိနပ်နှင့် ကပ်နေသည်။ သူသည် ဖိနပ် ကို ချွတ်မရသည့် အဆုံးတွင် လက်လျှော့လိုက်ပြီး ကုလားထိုင်ပေါ်တွင် တောင့်တောင့်ကြီး ပြန်ထိုင်ချ လိုက်သည်။

"ဒါပေမဲ့ အဆုံးအဖြတ်ပေးတဲ့ အချက်တစ်ခုကို အစ်ကို သတိမပြုမိဘူး။ အစ်ကိုပြောတာတွေ အားလုံး မှန်ကောင်းမှန်ပါလိမ့်မယ်။ ဒါပေမဲ့ အရေးကြီးတဲ့အချက်က ဟာရင်ဟော့ကို အမာလီယာ မသွားတာပဲ။ အမာ လီယာ ဆက်သားကို လုပ်လိုက်ပုံက ခွင့်လွှတ်နိုင်တယ်။ ဒီကိစ္စက ပြီးသွား နိုင်တယ်။ ဒါပေမဲ့ တည်းခိုခန်း မသွားတဲ့အတွက် ညီမတို့ မိသားစုအပေါ်မှာ ကျိန်စာကျရောက်တာပဲ။ အဲဒီအတွက် ဆက်သားပေါ်မှာ သူလုပ်လိုက်တဲ့ပုံ က ခွင့်မလွှတ်နိုင်တဲ့ ပြစ်မှုကြီး ဖြစ်လာတယ်။ ဒီကိစ္စကို နောက်ပိုင်းမှာ အဓိကပြစ်မှုကြီးအဖြစ် ဖော်ထုတ်လာတယ်"

"ဘာပြောတယ်" ကေ အော်လိုက်သည်။ အော်လဂါက တောင်းပန်သည့် အနေဖြင့် လက်များကို မြှောက်ပြလိုက်သော အခါတွင်မှ သူကအသံကို နှိမ့် ပြီး "ညီမ ပြောတာက အမာလီယာဟာ ဟာရင်ဟော့က ဆော်တီနီဆီကို အပြေးအလွှား သွားရ မယ်လို့ ပြောတာလား"

"မဟုတ်ဘူး။ ညီမကို ဘာဖြစ်လို့ ဒီလိုမျိုးထင်ရတာလဲ။ အမာလီယာ လုပ် သမျှတွေဟာ မှန်ပါတယ်။ တကယ်လို့ သူ ဟာရင်ဟော့ကို သွားခဲ့ရင်လည်း ထောက်ခံရမှာပဲ။ ဒါပေမဲ့ မသွားတာက အင်မတန်သတ္တိရှိတာကို ပြတယ်။ ညီမအနေနဲ့ ပွင့်ပွင့်လင်းလင်းဝန်ခံရရင် ညီမအနေနဲ့ အဲဒီလိုစာမျိုး တစ် စောင်ရရင် ညီမသွားမှာပဲ။ ဘယ်လိုမျိုး ဖြစ်လာမလဲဆိုတဲ့ ကြောက်ရွံ့စိတ် ကို ညီမ မကျော်လွှားနိုင်ဘူး။ အမာလီယာ တစ်ယောက်ပဲ ကျော်လွှားနိုင်တယ်။ ဒီကိစ္စကို ရှောင်ကွင်းနိုင်တဲ့ နည်းလမ်းတွေ အများကြီး ရှိပါတယ်။ တကယ်လို့ သူဟာ ပြောတဲ့အချိန်မှာ ဟာရင်ဟော့ကို သွားခဲ့ရင် ညီမတို့ရဲ့ပြစ်ဒဏ်ကို

ဖယ်ရှားပစ်နိုင်ပါတယ်။ ညီမတို့မှာ အင်မတန်တော်တဲ့ ရှေ့နေတွေ ရှိပါတယ်။ ဒါပေမဲ့ အခုကိစ္စက ဆော်တီနီရဲ့စာကို မလေးစားတာနဲ့ သူ့ ရဲ့ဆက်သားကို စော်ကားတဲ့ ကိစ္စဖြစ်နေတယ်"

"နေပါဦး၊ ဒီပြစ်ဒဏ်နဲ့ ရှေ့နေဆိုတာက ဘာတွေလဲ။ အမာလီယာကို ဘယ်လိုမှ တရားမစွဲနိုင်ဘူး။ ပြစ်ဒဏ်မပေးနိုင်ဘူး"

"ဟုတ်ပါတယ်၊ သူ့ကို ထုံးတမ်းစဉ်လာအတိုင်း တရားမစွဲနိုင်ပါဘူး။ ဒါပေမဲ့ သူ့ကို တခြားနည်းတွေနဲ့ ပြစ်ဒဏ်ပေးထားပါပြီ။ သူနဲ့ မိသားစုတစ် ခုလုံးပဲ။ ပြစ်ဒဏ်ဟာ ဘယ်လောက် ကြီးမားတယ်ဆိုတာ အစ်ကို သဘောပေါက်စ ပြုနေပါပြီ။ အစ်ကို့ရဲ့ သဘောအရတော့ ဒီပြစ်ဒဏ်ဟာ တရားမျှတမှု မရှိဘူး။ အင်မတန်ဆိုးဝါးတယ်ပေါ့။ ဒါပေမဲ့ ဒီသဘောထား မျိုး ရှိတဲ့လူဟာ တစ်ရွာလုံးမှာ အစ်ကိုတစ်ယောက်ပဲ ရှိတယ်။ ဒီသဘောထားက ညီမတို့ဘက်ကပဲ။ ညီမတို့ကို နှစ်သိမ့်မှုပေးပါတယ်။ ဒါပေမဲ့ ဒီသဘောထားဟာ မှားယွင်းမှု တစ်ခုပေါ်မှာ အခြေခံထားတာ မဟုတ်ရင်ပေါ့။ ဒါကို ညီမ လွယ်လွယ်ကလေးနဲ့ သက်သေပြနိုင်ပါတယ်။ ဒီနေရာမှာ အစ်ကို တစ်ခုတော့ ခွင့်လွှတ်ပါ။ ဖရီဒါအကြောင်း ထည့်ပြောတာ ပေါ့။ နောက်ဆုံး ထွက်ပေါ်လာတဲ့ အဖြေတွေ မတူညီကြပေမဲ့ ပထမပိုင်းမှာတော့ ဖရီဒါနဲ့ ကလမ်ရဲ့ကိစ္စဟာ အမာလီယာနဲ့ ဆော်တီနီတို့ရဲ့ ပြဿနာ အတိုင်းပဲ။ ဒီကိစ္စဟာ ပထမပိုင်းမှာ အစ်ကို့ကို တုန်လှုပ်စေမှာ မှန်ပေမဲ့ အစ်ကိုဟာ အခုတော့ သဘာဝကျတယ်။ အမှန်အတိုင်းပဲလို့ လက်ခံတယ်။ အစ်ကိုဟာ ဒါတွေနဲ့ အကျွမ်းဝင်လာဖို့ချည်း မဟုတ်ပါဘူး။ အကျွမ်းဝင် ရင်းနှီးလာမှု တစ်ခုတည်းက ဆုံးဖြတ်ချက်ကို မပေးနိုင်ပါဘူး။ အစ်ကိုဟာ အာဃာတသဘောတွေက ကင်းလွတ်သွားလို့ပါပဲ"

"မဟုတ်ဘူး အော်လဂါ။ ဖရီဒါကို ဘာဖြစ်လို့ ဆွဲထည့်တယ်ဆိုတာ ကိုယ်သဘောမပေါက်ဘူး။ သူ့ပြဿနာက အမာလီယာနဲ့ မတူဘူး။ မတူတဲ့ ပြဿနာနှစ်ခုကို ရောထွေးမပစ်ပါနဲ့။ အင်း... ညီမရဲ့ ဇာတ်လမ်းကို ဆက်ပါ "

"စိတ်မဆိုးပါနဲ့ အစ်ကို၊ ညီမအနေနဲ့ နှိုင်းယှဉ်မှုကို ဆက်ပြီးနေရင် အစ်ကို့ရဲ့ အာဃာတတွေက ဆက်ပြီးရှိနေမှာပဲ။ နှိုင်းယှဉ်မှုပြတာကို အစ်ကိုက ဖရီဒါဘက်ကနေ ကာကွယ်နေမှာပဲ။ သူ့ကို ကာကွယ်နေစရာ မလိုပါဘူး။ ချီးကျူးရမှာပါ။ ဒီပြဿနာ နှစ်ခုကို နှိုင်းယှဉ်ရာမှာ သူတို့နှစ်ခုဟာ တစ်သဝေမတိမ်း တူညီတယ်လို့ မပြောပါဘူး။ အဖြူနဲ့ အနက် ပုံစံမျိုးပါ။ အဖြူက ဖရီဒါပါ။ ဖရီဒါကို အဆိုးဝါးဆုံးလုပ်နိုင်တာက သူ့ကို လှောင်ပြောင် ရယ်မောတာပဲ။ ယမကာခန်းမှာ ညီမ အမြဲတမ်းလုပ်ခဲ့တာပဲ။ အခုမှ ညီမ စိတ်မကောင်း ဖြစ်နေတယ်။”

“ဒါပေမဲ့ မနာလိုလို့ပဲဖြစ်ဖြစ်၊ မစ္ဆေရစိတ် ရှိလို့ပဲဖြစ်ဖြစ် ရယ်မောနိုင်ပါတယ်။ ဒါမှမဟုတ်လို့ သူနဲ့ ဆွေမျိုးမတော်စပ်ဘူးဆိုရင် သူ့ကို မုန်းတီး နိုင်ပါတယ်။ ဒါကြောင့်မို့လို့ ဒီပြဿနာနှစ်ခုဟာ အစ်ကိုပြောသလို မတူခြားနား ပါတယ်။ ဒါပေမဲ့ သူတို့ ဟာ အတူတူပဲ ဖြစ်ကြပါတယ်"

"သူတို့ဟာ မတူကြပါဘူး" ကေက ခေါင်းကို ယမ်းခါရင်း ပြောသည်။ "ဒီအထဲက ဖရီဒါကို ထုတ်ထားလိုက်ပါ။ ဖရီဒါက ဆော်တီနီရဲ့ စာမျိုး မရခဲ့ပါဘူး။ ဖရီဒါက ကလမ်နဲ့ တကယ်ချစ်နေတာပါ။ အဲဒါကို မယုံဘူးဆိုရင် ညီမ သူ့ကို မေးကြည့် နိုင်ပါတယ်။ သူက အခုထက်ထိ ကလမ်ကို ချစ်နေတုန်းပဲ"

"ဒါက တကယ်ပဲခြားနားသလား" အော်လဂါက မေးလိုက်သည်။ ကလမ် က ဖရီဒါဆီကို ဒီလိုလေသံမျိုးနဲ့ မရေးဘူးလို့ အစ်ကို ထင်သလား။ ကလမ် က ဖရီဒါကို ပြောတဲ့လေသံ အစ်ကို မကြားဖူးဘူးလား။ ကလမ်ဟာ အပြော ကြမ်းတယ်လို့ .အင်မတန် နာမည်ကြီးတယ်။ သူက အင်မတန်ကြမ်းကြမ်းတမ်းတမ်းပြောတတ်တယ်။ ဆော်တီနီဆီက ဒါမျိုး မကြားဖူးဘူး။ ဒါပေမဲ့ သူ့အကြောင်း နည်းနည်းပဲ သိကြတယ်။

"သူ့အကြောင်းသိရသမျှကတော့ သူ့နာမည်က ဆော်ဒီနီနဲ့ တူတယ်။ ဒီလို နာမည်နှစ်ခု ဆင်နေတာမျိုး မရှိရင် သူ့ကို ဘယ်သူမှ သိကြမှာမဟုတ်ဘူး။ မီးသတ် တပ်ဖွဲ့ အာဏာပိုင်တစ်ဦး အနေနဲ့ကိုပဲ သူဟာ ဆော်ဒီနီနဲ့ ရောထွေးနေတယ်။ ဆော်ဒီနီက တကယ့်အာဏာပိုင်ပဲ။ နာမည်ချင်းဆင်တူ တာကို ဘယ်သူက အသုံးချပြီး ပြဿနာတွေကို ဆော်တီနီရဲ့ ပခုံးပေါ်ကို ပုံ ချနေသလဲ။ အခုတော့ အသိုင်းအဝိုင်း နီးနီးစပ်စပ် မနေသူက ဆော်တီနီ ဟာ ဖြုန်းခနဲဆို သူဟာ ကျေးတောသူတစ်ယောက်နဲ့ ချစ်ကြိုက်နေတယ်လို့ ထင်မိတယ်။

"တစ်ခုသိထားရမှာကတော့ အရာရှိတစ်ယောက်နဲ့ ရွာထဲက ဖိနပ်ချုပ်သမား တစ်ဦးရဲ့ကြားမှာ ချောက်ကြီးတစ်ခု ခြားနေတယ်။ ဒါကို ပေါင်းကူး ပေးရမယ်။ ဆော်တီနီက ပေါင်းကူးပေးတာပဲ။ ဒါပေမဲ့ တခြားလူတစ် ယောက်ဆိုရင်တော့ တစ်မျိုး တစ်ဖုံ လုပ်ချင်လုပ်မှာပေါ့။ ဘာပဲဖြစ်ဖြစ် ဒီနေရာမှာ အချစ်ဆိုတာ ဝင်လာတယ်။ ဖရီဒါက ကလမ်ကို ချစ်တယ်။ သူ့ ကိုယ်ကို ပုံအပ်တယ်။ ဒါပဲ။ ဒီနေရာမှ ဘာမှ ချီးကျူးစရာမရှိဘူး။

"အမာလီယာက ဆော်တီနီကို မချစ်ဘူး။ မချစ်ဘူးဆိုတာ ဟုတ်ကောင်း ဟုတ်ပါလိမ့်မယ်။ ဒါပေမဲ့ အမာလီယာက သူ့ကို ချစ်တယ် မချစ်ဘူးဆိုတာ ဘယ်သူက ဆုံးဖြတ်မလဲ။ အမာလီယာကိုယ်တိုင် မဆုံးဖြတ်နိုင်ဘူး။ ဒါပေမဲ့ ဆော်တီနီနဲ့ကိစ္စ ပြီးသွားပြီ။ အမာလီယာ သိတာ ဒါပဲ။ ဆော်တီနီကို ချစ်တယ် မချစ်ဘူးဆိုတာ သူ မသိဘူး။

"ဒါပေမဲ့ အမျိုးသမီးတွေဟာ သူတို့ကို အရာရှိတွေက အားပေးအား မြှောက် လုပ်ခဲ့ရင် သူတို့ကို မချစ်ဘဲ မနေနိုင်ဘူး။ ဆော်တီနီဟာ အမာလီယာကို အားပေး အားမြှောက် လုပ်ရုံတင်မကဘူး၊ သူ့ကိုမြင်လိုက်တာနဲ့ တစ်ပြိုင်နက် မီးသတ်စက် လှည်းသန်ပေါ်ကို ခုန်တက်လိုက်တယ်။ ဒါပေမဲ့ အမာလီယာက ခြွင်းချက်လို့ အစ်ကိုက ပြောလိမ့်မယ်။ ဟုတ်တယ်။ သူက ဆော်တီနီဆီကို မသွားခဲ့ပါဘူး။ ဒါပေမဲ့သူ့မှာ လူသားတစ်ဦးရဲ့ ခံစားမှု မရှိဘူးဆိုရင်တော့ အထူးခြြင်းချက်ပဲ ဖြစ်လိမ့်မယ်။

"အဲဒီနေ့ညနေက ညီမတို့ဟာ စိတ်ရှုပ်ထွေးနေကြတာ မှန်ပေမဲ့ အမာလီယာမှာ ချစ်ရိပ်ချစ်ငွေ့တွေ ရှိနေတာ တွေ့ကြရတယ်။ ဒါပေမဲ့ အားလုံးကို ခြုံကြည့်လိုက်ရင် ဖရီဒါနဲ့ အမာလီယာမှာ ခြားနားတာ တွေ့ရမယ်။ အမာလီ ယာငြင်းဆန်တဲ့ဟာကို ဖရီဒါက လုပ်တယ်"

"ဟုတ်ပါတယ်။ ဒါပေမဲ့ အဓိကခြားနားမှုကတော့ ကိုယ်က ဖရီဒါနဲ့ စေ့စပ်ထားတယ်။ အမာလီယာကို စိတ်ဝင်စားရတာကတော့ သူက ရဲတိုက်ကြီးရဲ့ ဆက်သား ဗာနေဗက်ရဲ့ ညီမ ဖြစ်နေလို့ပဲ။ သူ့ရဲ့ကံကြမ္မာဟာ ဗာနေဗ က်ရဲ့ ကံကြမ္မာနဲ့ ဆက်စပ် နေလို့ပဲ။ အမာလီယာဟာ စောစောပိုင်းက ညီမ ပြောတဲ့အတိုင်းပဲ အရာရှိတစ်ယောက်ရဲ့ မတရားမှုကို ခံနေရတယ်ဆိုရင် ကိုယ် သူ့အတွက် အများကြီး စာနာထောက်ထား ပါတယ်။ ဒါပေမဲ့ ဒီလို စာနာထောက်ထားတာဟာ ပုဂ္ဂလိက သဘောမဟုတ်ဘဲ ပြည်သူ တစ်ယောက်အနေနဲ့ပဲ။ ဒါပေမဲ့ ညီမပြောတဲ့စကားတွေဟာ အခြေအနေရဲ့ အနေအထားကို ပြောင်းလဲသွားစေတယ်။ ဘာ့ကြောင့်လဲဆိုတာ ကိုယ် လုံးဝနားမလည်ပေမဲ့ လက်ခံပါတယ်။ ဒီအကြောင်းတွေကို ညီမ ပြောပြလို့ပဲ။ စောစောကဆိုရင် ဒီပြဿနာ တစ်ခုလုံးကို ကိုယ် ထည့်ပြီး မစဉ်းစားချင်ဘူး။ ကိုယ်ဟာ မီးသတ်တပ်ဖွဲ့ဝင်တစ်ဦး မဟုတ်တဲ့အတွက် ဆော်တီနီဟာ ကိုယ်နဲ့ ဘာမှမပတ်သက်ဘူး။ ဒါပေမဲ့ ဖရီဒါကတော့ ကိုယ်နဲ့ တစ်နည်း တစ်လမ်းအားဖြင့် ဆက်စပ်နေတယ်။ ကိုယ်က သူ့ကို ယုံကြည်တယ်။ ဆက်ပြီးတော့လည်း ယုံကြည်သွားမှာပဲ။ ဒါပေမဲ့ ညီမက အမာလီယာ အကြောင်း ဆွေးနွေးတဲ့နေရာမှာ ဖရီဒါကို တိုက်ခိုက်ပြီး သူ့အပေါ်မှာထား တဲ့ ကိုယ့် ယုံကြည်မှုကို လှုပ်ခါတဲ့အခါမှာ ကိုယ်အများကြီး အံ့သြရတယ်။

"ညီမက ဒီလို တမင်တကာ လုပ်တယ်လို့ ကိုယ် မယူဆပါဘူး။ မလို မုန်းတီးသူတွေနဲ့ လုပ်တယ်လို့ ကိုယ်မထင်ပါဘူး။ အဲဒီလိုလုပ်ရင်လည်း ကိုယ်ထွက်သွားတာ ကြာပြီ။ ညီမက ဒီလိုမျိုး တမင်တကာလုပ်တာ မဟုတ်ပါဘူး။ အခြေအနေအရ ဖြစ်သွားရတာပဲ။ ညီမက အမာလီယာကို ချစ်တဲ့အတွက် သူ့ကို တခြားအမျိုးသမီးတွေရဲ့ အထက်ကို တွန်းတင်တယ်။ အဲဒီနေရာမှာ အမာလီယာရဲ့ အရည်အချင်းကို လုံလုံ လောက်လောက် ရှာမတွေ့ တဲ့နေရာမှာ တခြားလူတွေကို သိမ်ငယ်သွားအောင် လုပ်တာပဲ။

"အမာလီယာရဲ့ လုပ်ဆောင်မှုဟာ ပြောပလောက်ပါတယ်။ ဒါပေမဲ့ ဒီအကြောင်းကို ညီမ များများပြောလေ စဉ်းစားစရာတွေ ဖြစ်လာလေပဲ။ သူ့ရဲ့လုပ်ဆောင်မှုဟာ ပြတ်ပြတ်သားသား ဒါမှမဟုတ် အသေးအဖွဲလား၊ လိမ္မာတာလား၊ ဒါမှမဟုတ် မိုက်မဲတာလား၊ သူရဲကောင်း ပီသတာလား၊ ဒါ မှမဟုတ် သူရဲဘောကြောင်တာလားပေါ့။ အမာလီယာက သူ့ရဲ့ ရည်ရွယ်ချက်ကို သူ့စိတ်ထဲမှာပဲ သိမ်းထားတယ်။ ဘယ်သူမှ မသိရဘူး။ တခြား တစ်ဖက်မှာတော့ ဖရီဒါရဲ့ လုပ်ဆောင်မှုဟာ ဘာမှမပြောပဘူး။ သူ့ အနေနဲ့ သူ့ရင်ထဲမှာ ရှိတဲ့အတိုင်း

လုပ်တာပဲ။ ဒါကို စိတ်ထား ကောင်းကောင်းနဲ့ကြည့်ရင် ရှင်းပါတယ်။ လုံလောက်ပါတယ်။ ဘာမှ လျော့နည်းသွားစရာ အကြောင်းမရှိဘူး။ ဒါပေမဲ့ ကိုယ်ဟာ အမာလီယာကိုလည်း သေးငယ်မသွားစေချင်ဘူး။ ဖရီဒါကိုလည်း မကာကွယ်ချင်ပါဘူး။ ကိုယ် သိစေချင်တာက ဖရီဒါနဲ့ ကိုယ်ရဲ့ဆက်ဆံရေးကို ညီမ သိစေချင်တာပဲ။ ဖရီဒါကို တိုက်ခိုက်သမျှဟာ ကိုယ့်ကို တိုက်ခိုက်တာပဲ။

"ကိုယ် ဒီကိုလာတာဟာ ကိုယ့်ကိစ္စနဲ့ ကိုယ်လာတာပဲ။ ကိုယ့်ကိစ္စနဲ့ ကိုယ် ဒီမှာအခြေချတယ်။ ဒါပေမဲ့ ကိုယ် ဒီကိုရောက်ပြီးတဲ့နောက် ကြံ့ရသမျှတွေ ဟာ၊ ရရှိမယ့် အခွင့်အလမ်းတွေဟာ အဲဒါတွေက အင်မတန် နည်းပါတယ်။ ဒါပေမဲ့ ရှိတော့ ရှိနေတယ်။ အဲဒါတွေဟာ ဖရီဒါကြောင့်ပဲ။ အဲဒါကို ညီမ မ ငြင်းနိုင်ဘူး။ ကိုယ် ဒီကို လာရတာ မြေတိုင်းစာရေးအဖြစ် ငှားလို့လာရတာ အမှန်ပဲ။ အဲဒါက ဟန်ဆောင်မှု တစ်ခုပဲ။ တကယ်တော့ သူတို့က ကိုယ့်ကို ကစားနေကြတယ်။ အိမ်တိုင်းကနေ ကိုယ့်ကို မောင်းထုတ်နေကြတယ်။ ကို ယ့်ကို ကစားနေကြတာ ဒီနေ့အထိပဲ။ ဒါပေမဲ့ ဒီပွဲဟာ ဘယ်လောက်ပဲ ရှုပ်ထွေးပါစေ၊ ကိုယ့်မှာ လောလောဆယ် နေစရာအိမ်တစ်လုံး ရှိနေပြီ။ အလုပ်တစ်ခု ရှိနေပြီ။ တကယ်လုပ်ရမယ့် အလုပ်တစ်ခုရှိနေပြီ။ ကိုယ်နဲ့ လက်ထပ်မယ့် ဇနီးတစ်ယောက် ရှိနေပြီ။ ကိုယ့်မှာ တခြားအလုပ်တွေ လုပ် စရာရှိရင် ကိုယ့်အလုပ်ကို ဝိုင်းကူလုပ်ပေးမယ်။ ကိုယ်ဟာ သူနဲ့လက်ထပ် ပြီး အသိုင်းအဝိုင်းထဲက လူတစ်ယောက် ဖြစ်လာပြီ။ ကိုယ်ဟာ ကလမ်နဲ့ အလုပ်သဘောအရ ဆက်စပ်မှု ရှိနေသလို ပုဂ္ဂိုလ်အရလည်း ဆက်စပ်မှုရှိ နေပြီ။ အဲဒါကို ကိုယ်အခုအထိတော့ အသုံးမပြုရသေးဘူး။

"အဲဒါတွေဟာ အတိုင်းအတာတစ်ခုပဲ မဟုတ်လား။ ညီမဆီကို အစ်ကို လာတဲ့အခါမှာ ညီမက ဘာဖြစ်လို့ကြိုဆိုသလဲ။ ညီမတို့မိသားစုအကြောင်း ကိုယ့်ကို ဘာဖြစ်လို့ပြောပြသလဲ။ ညီမကို အစ်ကိုက ကူညီလိမ့်မယ်လို့ ညီမ ဘာဖြစ်လို့ မျှော်လင့်သလဲ။ ကိုယ်ဟာ လွန်ခဲ့တဲ့ တစ်ပတ်လောက်တုန်းက လက်ဆီမန်းနဲ့ ဘရန့်ဝစ်တို့ရဲ့ အိမ်က မောင်းထုတ်ခံရတဲ့ မြေတိုင်းစာရေး တစ်ယောက် ဖြစ်လို့မဟုတ်ဘူး။ ကိုယ့်နောက် ပိုင်းမှာ အာဏာအနည်း အပါးရှိလို့ မဟုတ်ဘူး။ ဒါပေမဲ့ အဲဒါတွေအတွက် ကိုယ်က ဖရီဒါကို ကျေးဇူးတင်ရမယ်။ ဖရီဒါက သိပ်ရိုးတယ်။ အဲဒါတွေ ရှိနေတာကို သူ မသိဘူး။ အဲဒီတော့ အဲဒါတွေအားလုံးကို ခြုံပြီးကြည့်လိုက်ရင် ဖရီဒါဟာ အပြစ် ကင်းစင်ပြီး ရိုးသားတဲ့အတွက် အမာလီယာထက်ပိုပြီး အောင်မြင်မှုရတယ်။ အဲဒီတော့ ညီမဟာ အမာလီယာအတွက် အကူအညီ တောင်းခံနေတယ်လို့ ကိုယ် သဘောရတယ်။ ဘယ်သူ့ ဆီကလဲ ဖရီဒါဆီကပဲ"

"ညီမက သူ့အကြောင်း မကောင်းပြောမိတာ ရှိသလား" အော်လဂါက မေးလိုက်သည်။ "ညီမ အဲဒီလို မရည်ရွယ်ပါဘူး။ ဒါပေမဲ့ ဖြစ်နိုင်ပါတယ်။ ညီမတို့ရဲ့ အခြေအနေက ဆိုးနေတယ်။ ညီမတို့ရဲ့ကမ္ဘာက ပျက်စီးနေတယ်။ ညီမတို့ သဘော ပေါက်ထားတာထက် ပိုပြီးဆိုးဝါးနေတယ်။ အစ်ကိုပြော တာ မှန်ပါတယ်။ ညီမတို့နဲ့

ဖရီဒါကြားမှာ ခြားနားမှုကြီးတစ်ခု ရှိနေပါတယ်။ လွန်ခဲ့တဲ့ သုံးနှစ်လောက်ကဆိုရင်
ညီမတို့ဟာ လေးစားရတဲ့ မိန်းကလေးတွေဖြစ်တယ်။ ဖရီဒါက
တံတားတည်းခိုခန်းက အိမ်ဖော်တစ် ယောက် ဖြစ်တယ်။ ညီမတို့က
တစ်ချက်ကလေးမှ လှည့်မကြည့်ဘဲ သူ့ ရှေ့က ဖြတ်သွားကြတယ်။ ညီမတို့
မောက်မာတယ်ဆိုတာ ဝန်ခံပါတယ်။ ဒါပေမဲ့ အဲဒီညနေကတော့ ဟာရင်ဟော့မှာ
ဖရီဒါက လက်ထဲမှာ ကြာပွတ် ကိုင်ထားပြီး ညီမက အစေခံတွေကြားမှာ
ရောက်နေတယ်။ ဒါပေမဲ့ အခြေအနေက ဒါ့ထက်ပိုဆိုးတယ်။ ဖရီဒါကလည်း
ညီမတို့ကို မုန်းလိမ့်မယ်။ သူ့အနေအထားက ဒီအခြေအနေမှာ ရှိနေတာကိုး။
တကယ့်ဖြစ်ပေါ် နေတဲ့ အခြေအနေက ဖန်တီးတာကိုး။ ဒါပေမဲ့ ညီမတို့ကို
မမုန်းတဲ့သူ ဘယ် သူရှိနေသလဲ။ ဖရီဒါရဲ့နေရာကို ဆက်ခံတဲ့သူကို
အစ်ကိုသိသလား။

သူ့နာမည်က ပက်ပီလို့ ခေါ်တယ်။ ညီမ သူ့ကို ပထမဆုံးတွေ့ဖူးတာ“
ကတော့ ကနေ့ညနေကပဲ။ သူက အရင်တုန်းကတော့ အထွေထွေ သန့်ရှင်း
ရေးသမားပဲ။ သူက ညီမကို မလိုမုန်းတီးနေတော့ လုပ်ပုံကိုင်ပုံက
ဖရီဒါထက်သာတယ်။ ညီမ ဘီယာ သောက်ဖို့လာတာကို သူက ပြတင်းပေါက် ကနေ
တွေ့ရတော့ တံခါးဆီကို ပြေးသွားပြီး သော့ခတ်လိုက်တယ်။ အဲဒီတော့ ညီမက
သူ့ကို အတော်ကြီးကြာအောင် တောင်းပန် ရတယ်။ ညီမ ခေါင်းက ဖဲပွင့်ကို
ပေးပါမယ်လို့ ပြောရတယ်။ ဒါပေမဲ့ အဲဒီဖဲပွင့်ကို ပေးလိုက်တဲ့အခါမှာ သူက
အခန်းထောင့် တစ်နေရာကို လွှင့်ပစ်လိုက်တယ်။ သူ မုန်းနေတာ ညီမ
မတတ်နိုင်ဘူး။ ညီမက သူ စိတ်ကောင်းဝင်တဲ့ အပေါ်မှာ မှီခိုနေရတယ်။ သူက
ဟာရင်ဟော့မှာ စားပွဲထိုးဖြစ်နေပြီကိုး။ အမှန်ပဲ လောလောဆယ်အချိန် မှာတော့
အမြဲတမ်း အလုပ်သမားဖြစ်ဖို့တော့ သူ့မှာအရည်အချင်းမရှိဘူး။ ပိုင်ရှင်က
သူ့ကိုဆက်ဆံပုံနဲ့ ဖရီဒါကို ဆက်ဆံပုံ နှိုင်းယှဉ်ကြည့်ရင် သိနိုင်တယ်။ ဒါပေမဲ့
ဒါအတွက် အမာလီယာ ကို ပက်ပီ မုန်းတီးတာ နောက်မတွန့်ခဲ့ဘူး။ အမာလီယာ
မျက်စောင်း တစ် ချက် ထိုးလိုက်ရုံနဲ့ ပက်ပီဟာ အခန်းထဲက ခြေကုန်သုတ်
ပြေးရမယ်။ မနေ့ က အမာလီယာကို သူ မကောင်းပြောနေတာ ညီမ
ကြားရပြန်တယ်။ နောက်ဆုံးမှာ ဆိုင်ကို လာတဲ့ ဖောက်သည်တွေက ညီမကို
"ရယ်ပြတယ်။ ဒါပေမဲ့ အစ်ကို အခု ရပ်တည်တဲ့ ပုံစံမျိုးပဲပေါ့

ဤတွင် ကေက
"ညီမတို့က တကယ်အကဲဆတ်ကြတာပဲ။ အစ်ကိုက ဖရီဒါကို သူ့နေရာမှာ
ထားတယ်။ ညီမ ထင်နေသလို ညီမကို သေးသိမ်အောင်လုပ်လိုတဲ့ ရည်ရွယ်ချက်
မရှိဘူး။ ညီမတို့မိသားစုကို အစ်ကိုက အထူးစိတ်ဝင်စားတယ်။ ဒါကို အစ်ကို
ဘယ်တုန်းကမှ မငြင်းဘူး။ ဒါပေမဲ့ ဒီလိုစိတ်ဝင်စားတာက ညီမတို့ကို ဘာဖြစ်လို့
မုန်းတီးရာ ကျစေသလဲဆိုတာ အစ်ကို သဘောမပေါက်ဘူး"

"အို.. အစ်ကို သဘောပေါက်ပါတယ်။ ဆော်တီအပေါ် အမာလီယာရဲ့

အပြုအမူဟာ မုန်းတီးရခြင်းရဲ့ အဓိကအချက်ပဲ မဟုတ်လား"

"အဲဒါ အဆန်းပဲ။ အဲဒီအတွက် အမာလီယာကို ချီးကျူးဖို့ ဒါမှမဟုတ် ရှုတ်ချဖို့ပဲ ရှိတယ်။ ဘာဖြစ်လို့ မုန်းတီးရမှာလဲ။ တကယ်လို့ သူ့ကို အကြောင်းတစ်ခုခု ကြောင့် မုန်းတီးတယ်ဆိုရင် ဘာဖြစ်လို့ ညီမတို့အားလုံး ကို မုန်းတီးရမှာလဲ။ ဘာမှ အပြစ်မရှိတဲ့လူတွေကို မုန်းတီးရမှာလဲ။ ဥပမာ ပက်ပီက ညီမကို မုန်းနေတာဟာ အဓိပ္ပာယ်မရှိဘူး။ ကိုယ် ဒီတစ်ခါ ဟာရင် ဟော့ကို ရောက်ရင် သူ့ကို ပြောပြမယ်"

"ညီမတို့အပေါ် မုန်းတီးနေတဲ့လူတွေ အားလုံးကို သူတို့ အဖြစ်တွေ ပြောင်းလဲဖို့ အစ်ကို့အလုပ် ရပ်သွားလိမ့်မယ်။ ဘာဖြစ်လို့လဲဆိုတော့ ဒါတွေ အားလုံးကို ရဲတိုက်ကြီးက စီမံနေလို့ပဲ။ အဲဒီနေ့မနက် နောက်ပိုင်းမှာ ဖြစ် ပျက်တာတွေအားလုံး ညီမ အသေးစိတ် မှတ်မိနေတယ်။ ထုံးစံအတိုင်း ဘ ရန်ဝစ် ရောက်လာတယ်။ အဲဒီတုန်းက သူက ညီမတို့ရဲ့ လက်ထောက်ပဲ။ သူ လုပ်ရမယ့်အလုပ်ဝေစုတွေကို ယူပြီး အိမ်ပြန် သွားတယ်။ ညီမတို့အားလုံး နံ့နက်စာစားဖို့ စားပွဲမှာထိုင်ကြတယ်။ အမာလီယာရော၊ ညီမရောပေါ့။ ညီမတို့အားလုံး ပျော်နေတယ်။

"အဖေက အခမ်းအနားအကြောင်းနဲ့ မီးသတ်တပ်ဖွဲ့နဲ့ ပတ်သက်တဲ့ သူ့ရဲ့ စီမံကိန်းတွေကို ပြောပြတယ်။ ဩော်... အစ်ကိုသိထားဖို့က ရဲတိုက်ကြီးမှာလည်း သူတို့ရဲ့ ကိုယ်ပိုင်မီးသတ်တပ်ဖွဲ့ ရှိတယ်။ အဲဒီတပ်ဖွဲ့က ကိုယ်စားလှယ်တစ်ယောက် အသင်းအနားကို လွှတ်လိုက်တယ်။ ရဲတိုက်ကြီးကလာတဲ့ လူကြီးမင်းဟာ ညီမတို့ တပ်ဖွဲ့ရဲ့လုပ်ဆောင်မှုတွေကို တွေ့ မြင်သွားတယ်။ အင်မတန်သဘောကျကြောင်း ပြောတယ်။ ညီမတို့ တပ်ဖွဲ့နဲ့ ယှဉ်လိုက်ရင် ရဲတိုက်ကြီးတပ်ဖွဲ့ကို အားမရကြောင်း ပြောတယ်။ အဲဒါ ကြောင့် ရဲတိုက်ကြီး မီးသတ်တပ်ဖွဲ့ကို ရွာကနည်းပြတွေနဲ့ ပြင်ဆင် ဖွဲ့စည်း ဖို့ ပြောတယ်။ ရွာက နည်းပြအဖြစ် ရွေးနိုင်မယ့်လူတွေ အများကြီးရှိတယ်။

ဒါပေမဲ့ အဖေကတော့ သူ့ကို ရွေးလိမ့်မယ်လို့ပဲ ထင်တယ်။ သူက အဲဒီလို ပြောပြီး သိပ်ပြီးပျော်နေတာနဲ့ စားပွဲပေါ်ကို တွားပြီး တက်သွားတယ်။ ပြတင်းပေါက်ကနေပြီး မိုးကောင်းကင်ကြီးကို ကြည့်တယ်။ သူ့မျက်နှာက နုပျိုပြီး မျှော်လင့်ချက်တွေနဲ့ လန်း ဆန်းနေတယ်။ အဖေ့ကို ဒီလိုမျိုးတွေ့ရ တာ အဲဒါ နောက်ဆုံးအကြိမ်ပဲ။

"အဲဒီမှာ အမာလီယာက အင်မတန်တည်ငြိမ်လေးနက်တဲ့ မျက်နှာနဲ့ ပြောတဲ့ အဲဒီလူကြီးမင်း ပြောတာတွေကို သိပ်ပြီး အလေးမထားပါနဲ့တဲ့။ သူတို့ တွေက ဒီလို အခမ်းအနားတွေမှာ သကာရည်ဆမ်းထားတဲ့ စကားတွေကို ပြောတတ်ကြတယ်တဲ့။ ဒါပေမဲ့ ဒီစကားတွေဟာ ဘာမှ အဓိပ္ပာယ် မရှိ သလောက်ပဲတဲ့။ သူတို့ဟာ ပြောပြီးရင် မေ့သွားကြတာပဲတဲ့"

"အမေကတော့ သူ့ကို ဒီလိုမျိုးမပြောဖို့ တားတယ်။ အဖေကတော့ ရယ်နေတယ်။ ပြီးတော့မှ တစ်ခုခုပျောက်နေသလို သူ့ပတ်ပတ်လည်ကို

ကြည့်တယ်။ ဆက်သားနဲ့ တွန့်လိမ်နေတဲ့ မှန်အိမ်အကြောင်း ဘရန်ဝစ်က သူ့ကို ပြောတယ်တဲ့။ အဲဒီအကြောင်း ညီမတို့ ဘာသိသလဲလို့ မေးတယ်။ ညီမတို့ နှုတ်ဆိတ်နေကြတယ်။ အဲဒီမှာ သိုးကလေးတစ်ကောင်လို ငယ်ရွယ်တဲ့ ဗာနေဗက် ဘာမှမဆိုင်တာတစ်ခုကို ဝင်ပြောလို့ အကြောင်းအရာ ပြောင်းသွားတယ်။ နောက်တော့ အဲဒီ အကြောင်းအရာကြီး တစ်ခုလုံးကို မေ့သွားကြ တယ်"

"ဒါပေမဲ့ သိပ်မကြာခင်မှာပဲ စာအကြောင်းကို ဝိုင်းပြီး မေးလာကြတယ်။ မိတ်ဆွေတွေရော၊ ရန်သူတွေရော လာကြတယ်။ သိတဲ့လူတွေရော၊ မသိတဲ့ လူတွေရော လာကြတယ်။ ဒါပေမဲ့ ဘယ်သူမှ သိပ်အကြာကြီး မနေကြဘူး။ ညီမတို့ရဲ့ မိတ်ရင်းဆွေရင်း ဆိုတဲ့လူတွေက အမြန်ဆုံး ပြန်သွားကြတာပဲ။

အင်မတန်နှေးကွေးပြီး ဣန္ဒြေရတဲ့ လက်ဆီ မန်းတောင် အခန်းကို လာကြည့်သလိုမျိုး အခန်းကို မျက်လုံးဝင့်ကြည့်ပြီး ပြန်သွားတယ်။ သူ ထွက်ပြေး သွားတော့ လူတွေ ဝိုင်းဆွဲထားတာကို ရုန်းပြီး အဖေက တံခါးပေါက်အထိ ပြေးလိုက်သွားတယ်။ နောက်မှ လက်လျှော့လိုက်တယ်။ ဘရန်ဝစ် ရောက်လာပြီး နို့တစ် ပေးတယ်။ အလုပ် ခွဲထောင်တော့မယ်တဲ့။ အချိန်အခါကို တွေးတတ်တဲ့လူတစ်ယောက်ပဲ။

"ဖောက်သည်တွေ လာကြပြီး ပြင်ရအောင် အပ်ထားတဲ့ ဖိနပ်တွေကို ပြန်ယူတယ်။ ပထမတော့ အဖေက သူတို့စိတ်ပြောင်းအောင် ဖျောင်းဖျပါတယ်။ နောက်တော့ ဘာမှမပြောတော့ဘဲ သူတို့အပ်ထားတဲ့ ဖိနပ်တွေကို ရှာပေးလိုက်တယ်။ အော်ဒါပေးထားတာတွေကို တစ်ခုပြီးတစ်ခု ဖျက်ပစ်ရတယ်။ သားရေကုန်သည်တွေရဲ့ သားရေစတွေကို ပြန်ပေးရတယ်။ ပေးစရာ ရှိတဲ့ ကြွေးတွေကို ပေးရတယ်။ သူတို့က ညီမတို့နဲ့ မြန်မြန်ကြီး အဆက်ဖြတ်ကြဖို့ပဲ။ လုံးဝ အဆက်ဖြတ်ကြဖို့ပဲ။ သူတို့ဘက်က နည်းနည်း နာတဲ့ တိုင်အောင်ပဲ။ အဲဒါအတွက် ဘာမှ အရေးမကြီးဘူး။

"နောက်ဆုံးမှာတော့ ညီမတို့ တွက်ထားတဲ့အတိုင်း မီးသတ်တပ်ဖွဲ့ ကက်ပတိန် ဆီးမန်း ရောက်လာတယ်။ အဲဒီမြင်ကွင်းကို ညီမမျက်စိထဲမှာ ကနေ့အထိ မြင်ယောင်နေသေးတယ်။ သူက အရပ်ရှည်ရှည် တောင့်တောင့် ခိုင်ခိုင်ကြီးပဲ။ နည်းနည်းကလေးတော့ ခါးကုန်းတယ်။ ဘယ်တော့မှ အရက်မသောက်တတ်ဘူး။ အင်မတန်လေးနက်တဲ့ လူကြီးတစ်ယောက် ဖြစ်တယ်။ သူက အဖေ့ရှေ့မှာ ရပ်နေတယ်။ သူက တစ်ချိန်တုန်းက အဖေ့ ကို ဒုတိယ ကက်ပတိန်ခန့်မယ်လို့ ပြောထားတယ်။ အခုတော့ မီးသတ် တပ်ဖွဲ့က အဖေ့ကို မလိုတော့ဘူးတဲ့။ အဖေ့ရဲ့ ဒီပလိုမာအောင် လက်မှတ်ကို ပြန်အပ်ပါ။ ညီမတို့ အိမ်မှာ သူတို့ကိစ္စနဲ့ ရောက်နေကြတဲ့ လူတွေဟာ သူတို့ရဲ့အလုပ်တွေကို ပစ်ထားကြပြီး အဖေနဲ့ ဆီးမန်းအနားကို တိုးလာကြတယ်။ ဆီးမန်းလည်း ပါးစပ်က အပြောရခက်ပြီး အဖေ့ပခုံးကိုပဲ လက်နဲ့ ပုတ်နေတယ်။ ပြီးတော့ သူ ရယ်နေတယ်။ သူက ရယ်နေပေမဲ့ ရယ်လေ့ရယ်ထမရှိတော့ သူ ရယ်နေတယ်လို့ ဘယ်သူကမှ မထင်ကြဘူး။

"ဒါပေမဲ့ အဖေကတော့ အရမ်းကို ပင်ပန်းပြီး နွမ်းနေပြီ။ စိတ်ရော လူရော သေနေပြီ။ ဘာတွေဖြစ်နေတယ် ဆိုတာကို မသိနိုင်သလောက် ဖြစ်နေပြီး

ညီမတို့အားလုံးလည်း စိတ်ပျက်လက်ပျက် ဖြစ်နေကြပြီ။ ဒါပေမဲ့ ငယ်ကြ သေးတော့ ညီမတို့ရဲ့ ပျက်သုဉ်းမှုကို မယုံနိုင်ကြဘူး။ အိမ်ကိုလာတဲ့လူထဲက တစ်ယောက်ယောက်က ဒါတွေကို တားဆီးပြီး အခြေအနေကို ပြောင်းပြန် လှန်ပစ်လိမ့်မယ်လို့ ထင်နေကြတယ်။ ညီမတို့ဟာ ဘယ်လောက် တုံးတယ် ဆိုရင် အဲဒီလူဟာ ဆီးမန်းဖြစ်လိမ့်မယ်လို့ပဲ ထင်နေကြတယ်။

"သူရယ်တာ ရပ်သွားမှာကို ညီမတို့ စောင့်နေကြတယ်။ နောက်ဆုံးမှာ အဆုံးအဖြတ်ပေးမယ့် ကြေညာချက် ထွက်ပေါ်လာလိမ့်မယ်လို့ ထင်နေကြတယ်။ သူ ဘာကို ရယ်နေတာလဲ။ ညီမတို့အပေါ် ကျရောက်နေတဲ့၊ မတရား တဲ့ ဆုံးဖြတ်ချက် ကိုလား၊ အို ကက်ပတိန်ကြီးရယ်၊ ညီမတို့က အားကိုးတကြီးနဲ့ သူ့အနားကို ကပ်သွား ကြတယ်။ သူက နောက်ကို တွန့် သွားတယ်။ ဒါပေမဲ့ နောက်ဆုံးမှာ သူကပြောတယ်။ ညီမတို့ကို မဟုတ်ဘူး။ ဝိုင်းနေတဲ့ လူအုပ်ကြီးကိုပဲ။

"အဲဒီအထိတော့ ညီမတို့မှာ မျှော်လင့်ချက် ရှိနေတုန်းပဲ။ သူက အဖေ့ကို ချီးကျူးတယ်။ အဖေဟာ မီးသတ်တပ်ဖွဲ့ရဲ့ ရတနာပဲတဲ့။ စံပြပဲတဲ့။ သူမရှိရင် မီးသတ် တပ်ဖွဲ့ ပျက်စီး သွားလိမ့်မယ်တဲ့။ ဒီအထိတော့ အားလုံးကောင်းနေ တာပဲ။ ဒါပေမဲ့ သူ ဆက်ပြီးပြောတာက အခြေအနေအရ ဒီလိုရှိပေမဲ့ မီးသတ်တပ်ဖွဲ့က ဆုံးဖြတ်တာက၊ ယာယီအနေနဲ့ ဆုံးဖြတ်တာက သူ့ကိုရာထူးက နုတ်ထွက်ခိုင်းတယ်တဲ့။ မီးသတ် တပ်ဖွဲ့ဟာ အင်မတန်အရေးကြီး လို့ ဒီလိုလုပ်ရသတဲ့။ ဆီးမန်းက နံရံပေါ်မှာ ချိတ်ထားတဲ့ ဒီပလိုမာ အောင်လက်မှတ်ကို လက်ညှိုးထိုးပြတယ်။ အဖေက ခေါင်းညိတ်ပြီး အောင်လက်မှတ်ကို သွားယူတယ်။ သူ့လက်တွေက တုန်နေလို့ ဒီပလိုမာကို ချိတ်ကနေ မဖြုတ်နိုင်ဘူး။ ညီမက ကုလားထိုင်တစ်လုံးပေါ် တက်ပြီး ဖြုတ် ပေးရတယ်။ အဖေက အောင်လက်မှတ်ကို ဘောင်ထဲကနေ ဖြုတ်မနေတော့ဘဲ ဘောင်တစ်ခုလုံးကို ဆီးမန်းကို ပေးလိုက်တယ်။ ပြီးတော့ သူက အခန်းထောင့်မှာ ထိုင်ချလိုက်တယ်။ ဘယ်လိုမှလည်း မလှုပ်ရှားတော့ဘူး။ ဘယ်သူ့ကိုမှလည်း စကားမပြောတော့ ညီမတို့ကပဲ နောက်ဆုံး ကျန်တဲ့သူ အထိ ရှင်းပြရတယ်။ နောက်ဆုံး ညီမတို့ချည်း ကျန်တော့တဲ့အထိပဲ"

ဤတွင် ကေက

"ဒီနေရာမှာ ရဲတိုက်ကြီးရဲ့သြဇာလို့ ညီမ ဘယ်လိုလုပ်ပြီး ထင်နိုင်သလဲ။ အခုအထိတော့ ဘယ်ထိမှ ထင်စရာမရှိဘူး။ ညီမပြောပြသမျှ ဆိုရင်တော့ ဒါဟာ လူတွေရဲ့ အဓိပ္ပာယ်မရှိ ကြောက်လန့်မှုပဲ။ မလိုမုန်းတီးမှုတွေပဲ။ ဒါ မျိုးက ဘယ်နေရာမှာ မဆို ဖြစ်တတ်တာပဲ။ နောက်ပြီးတော့ ညီမအဖေနဲ့ ပတ်သက်ပြီး ပြောရရင်လည်း အသေး အဖွဲ့ကိစ္စလေးပဲ။ ဒီပလိုမာဆိုတာက ဘာလဲ။ သူ့ရဲ့အရည်အချင်းကို ဖော်ပြထားတာပဲ။ ဒီပလိုမာက သူ့ရဲ့ အရည်အချင်းတွေကို ယူမသွားနိုင်ဘူး။ ဒါပေမဲ့ အရေးကြီးတဲ့ အချက်က အ မာလီယာ အကြောင်း ညီမ ဘာမှမပြောဘူး။ ဒီပြဿနာတွေအားလုံးက သူ့ ကြောင့်ဖြစ်တာပဲ။ တစ်အိမ်လုံး ပြိုလဲသွားတာကို သူက နောက်ပိုင်းမှာ ငြိမ် ငြိမ် ကလေး ရပ်ကြည့်နေတယ်"

"မဟုတ်ဘူး" အော်လဂါက ပြောသည်။ "ဘယ်သူ့ကိုမှ အပြစ်တင်စရာ မရှိဘူး။ ဒီကိစ္စကို ဘယ်သူမှ မတတ်နိုင်ဘူး။ ဒါတွေအားလုံးဟာ ရဲတိုက်ကြီးရဲ့ သြဇာကြောင့် ဖြစ်ရတာပဲ"

"ရဲတိုက်ကြီးရဲ့ သြဇာပဲ"

အမာလီယာက ထပ်ပြောသည်။ သူက ခြံဝင်းထဲမှနေ၍ အခန်းတွင်းသို့ အမှတ်မထင် ဝင်ရောက်လာခြင်း ဖြစ်သည်။ လူကြီးနှစ်ယောက် အိပ်သွား ကြပြီ ဖြစ်သည်။ "ရဲတိုက်ကြီးက ကောလာဟလသတင်းတွေကို အစ်ကို ပြောနေတာပဲ မဟုတ်လား။ အစ်ကိုတို့ အခုအထိ ပြောနေကြတုန်းပဲလား။ အစ်ကို ရောက်လာတုန်းက ချက်ချင်းပဲ ပြန်တော့မလို့ပဲ။ ဒါပေမဲ့ အခု ဆယ် နာရီထိုးသွားပြီ။ အစ်ကိုက ဒီလိုသတင်းတွေ ပြောရတာ တကယ်ပဲ ဝါသနာပါသလား။ ရွာထဲမှာလည်း ဒီလိုလူတွေ အများကြီးပဲ။ အစ်ကို အခု နှစ်ယောက်တိုးပြီး တစ်ယောက်ကိုတစ်ယောက် စကားတွေပြောပြီး ပျော် နေကြတယ်။ ဒါပေမဲ့ အစ်ကိုဟာ အဲဒီလို လူမျိုးတစ်ယောက် မဟုတ်ဘူးလို့ ထင်ပါတယ်"

"ဆန့်ကျင်ဘက်ပဲ။ နောက်ပြီးတော့ အဲဒီလို ကောလာဟလစကားတွေ မ ပြောချင်တဲ့ လူတွေကလည်း အစ်ကို့ကို စိတ်မဝင်စားကြပါဘူး"

အမာလီယာက

"အဲဒါ အမှန်ပဲ။ ဒါပေမဲ့ စိတ်ဝင်စားမှုတွေ အမျိုးမျိုးရှိတယ် အစ်ကို။ ညီမ ပြောဖူးတယ်။ တစ်ခါတုန်းက လူရွယ်တစ်ယောက်ဟာ ရဲတိုက်ကြီး အကြောင်းပဲ နေ့ရော ညရော တွေးနေတယ်။ တခြား ဘာကိုမှ မတွေးဘူး။ သူက တခြား ဘာကိုမှ ဂရုမစိုက်တဲ့အတွက် လူတွေက သူ့အတွက် စိုးရိမ် လာကြတယ်။ သူ့ရဲ့စိတ်အာရုံက ရဲတိုက်ကြီး ဆီကိုပဲ ရောက်နေတယ်။ ဒါပေမဲ့ နောက်ဆုံးကျတော့ အဖြေပေါ်လာတာက သူ စိတ်ဝင်စားတာဟာ ရဲတိုက်ကြီး မဟုတ်ဘူး။ သန့်ရှင်းရေး အလုပ်သမကြီးရဲ့ သမီးပဲ။ အဲဒီ မိန်းကလေးကို ရတဲ့အခါမှာ သူဟာ ပုံမှန်ပြန်ဖြစ်သွားတယ်"

"အဲဒီလူကို ကိုယ် သဘောကျတယ်"

ကေက ပြောလိုက်သည်။

အမာလီယာက

"အဲဒီလူကို အစ်ကို သဘောကျတယ်ဆိုတာ ညီမ မယုံဘူး။ အစ်ကို သဘော ကျတာက သူ့မိန်းမပဲ ဖြစ်လိမ့်မယ်။ ဟင်း... အစ်ကို့ကို ညီမ မနှောင့်ယှက်တော့ပါဘူး။ ညီမ အိပ်တော့မယ်။ လူကြီးတွေအတွက် ညီမ မီးပိတ် လိုက်တော့မယ်။ သူတို့ဟာ အခုဆိုရင် အိပ်မောကျနေကြပါပြီ။ ဒါပေမဲ့ သူ တို့ဟာ တစ်နာရီထက်ပိုပြီး အိပ်ကြမှာ မဟုတ်ဘူး။ အဲဒီနောက်ပိုင်းမှာ အလင်းရောင် လဲ့လဲ့ကလေးဆိုရင်ပဲ သူတို့ကို အနှောင့်အယှက် ပေးလိမ့်မယ်။ ကောင်းသော ညပါ"

အမှန်တကယ် ချက်ချင်းပင် မီးငြိမ်းသွားသည်။ လူကြီးတွေအနီး ကြမ်းပြင် တစ်နေရာတွင် အမာလီယာ ဝင်အိပ်သွားသည်။

"သူပြောတဲ့ လူရှုယ်ဆိုတာ ဘယ်သူလဲ"

ကေ မေးလိုက်သည်။

အော်လဂါက

"ညီမ သေသေချာချာမသိဘူး။ ဘရန်ဝစ် ဖြစ်ကောင်းဖြစ်လိမ့်မယ်။ သူနဲ့တော့ တစ်ပုံစံတည်း မကျဘူး။ တခြားတစ်ယောက် ဖြစ်နိုင်တယ်။ သူပြောတာတွေကို လိုက်ဖို့ မလွယ်ဘူး။ သူတကယ် ပြောတာလား၊ နောက်ပြီး ပြောနေတာလားဆိုတာ မသိနိုင်ဘူး။ များသောအားဖြင့်တော့ သူက အတည်ပြောတာပဲ။ ဒါပေမဲ့ နောက်ပြောနေပုံမျိုးရတယ်"

"ဒါတွေကို ရှင်းပြမနေပါနဲ့တော့။ ညီမက ဘာဖြစ်လို့ သူ့အပေါ်မှာ ဒါလောက် မှီခိုနေရတာလဲ။ ဒီကိစ္စကြီးမတိုင်ခင် အရင်ပြဿနာ ပေါ်ခဲ့ဖူးတာရှိသလား။ ဒီကိစ္စကြီး အပြီးမှာ ပြဿနာပေါ်ခဲ့တာ ရှိသလား။ ညီမက သူ့အပေါ်မှာ မှီခိုအားထားနေရာကနေ မကင်းလွတ်ချင်ဘူးလား။ သူ့အပေါ်မှာ မှီခိုနေရတာ ဘယ်လိုအဓိပ္ပာယ်ရှိသလဲ။ သူက အငယ်ဆုံး မဟုတ်လား။ သူက ညီမကို အသားပေးရမှာပဲ။ မသိလို့ပဲဖြစ်စေ သိလို့ပဲ ဖြစ်စေ ဒီမိသားစုကြီး ဒုက္ခရောက် ပျက်စီးအောင် သူလုပ်တာပဲ မဟုတ်လား။ သူက ဒီကိစ္စကို တောင်းပန်ရမယ့်အစား ခေါင်းပိုပြီး မော့လာတယ်။ မိဘတွေကို ပြုစုတာက လွဲလို့ သူ ဘာမှမလုပ်တော့ဘူး။ ညီမတို့ပြဿနာတွေကို သူဘာမှ အရေးမထားတော့ဘူး။ သူက ညီမတို့နဲ့ စကားပြောတဲ့အခါမှာ အတည်ပေါက်ကို ပြောပြီး ဒါပေမဲ့ နောက်သလိုမျိုးပဲ ဖြစ်နေတယ်။ သူက ညီမတို့အပေါ်မှာ ဆိုးနေတာက သူ့ရဲ့အလှကြောင့်လား။ ညီမက သူ့ရဲ့အလှ အကြောင်းကို တစ်ကြိမ်မက ပြောခဲ့တယ်။ ညီမတို့ မောင်နှမ သုံးယောက်ဟာ တစ်ယောက်နဲ့တစ်ယောက် တူကြပါတယ်။ ဒါပေမဲ့ အမာလီယာရဲ့ ထူးခြားတဲ့အချက်က သူ့ရဲ့ အေးစက်မာကြောတဲ့ မျက်လုံးပဲ။ အဲဒါကို အစ်ကို သူ့ကို ပထမအကြိမ် တွေ့ကတည်းက သတိပြုမိခဲ့တယ်။ သူဟာ အငယ်ဆုံး ဖြစ်ပေမဲ့ သူ့ကိုကြည့်ရတာ အဲဒီပုံစံမျိုးမဟုတ်ဘူး။ သူဟာ ဘယ်တော့မှလည်း ကြီးမသွား၊ ဘယ်တော့မှလည်း ငယ်မလာတဲ့ မိန်းမ တစ်ယောက် ပုံစံမျိုးပဲ"

"ညီမဟာ သူ့ကို နေ့တိုင်း တွေ့မြင်နေရပေမဲ့ သူ့ရဲ့ တင်းမာတဲ့မျက်နှာကို သတိမပြုမိဘူး။ အဲဒီအတွက် ပြန်စဉ်းစားလိုက်တဲ့အခါမှာ ဆော်တီနီက သူ့ကို စွဲမက်တယ်ဆိုတာကို အစ်ကို သိပ်အလေးမထားချင်ဘူး။ အဲဒီစာမျိုး ပို့လိုက်တာဟာ သူ့ကို ပစ်ဒဏ်ပေးတာပဲ။ လာခဲ့ပါလို့ ခေါ်တာမဟုတ်ဘူး"

အော်လဂါက

"ဆော်တီနီနဲ့ပတ်သက်ပြီး ညီမ မငြင်းချင်ဘူး။ ရဲတိုက်ကြီးက လူကြီးတွေအဖို့ ဘာမဆို ဖြစ်နိုင်တာပဲ။ မိန်းကလေးတစ်ယောက်ဟာ အရုပ်ဆိုးဆိုး လှလှပေါ့။ ဒါပေမဲ့ အစ်ကိုဟာ အမာလီယာနဲ့ ပတ်သက်ပြီး အမြင်မှားနေတယ်။ ညီမပြောနေတာတွေက အမာလီယာအတွက် မဟုတ်ဘူး။ အစ်ကို့ အတွက်ပဲ။

အမာလီယာဟာ တစ်နည်း မဟုတ် တစ်နည်းနဲ့ ညီမတို့အားလုံး ကို ဒုက္ခရောက်စေတဲ့လူပဲ။ ဒါပေမဲ့ ဒါကို ဘယ်သူမှ မပြောပြဘူး။ ပြောစရာ ရှိရင် ပြောတတ်တဲ့ အဖေကတောင် မပြောဘူး။ အင်မတန် ဆိုးဝါးတဲ့ အခြေအနေမျိုးမှာတောင် မပြောဘူး။ အမာလီယာလုပ်ပုံကို သဘောတူလို့ မဟုတ်ဘူး။ သူက ဆော်တီနီကို ကြည်ညိုလေးစားတဲ့ လူတစ်ယောက်ပဲ။ သူက ဘယ်လိုလုပ်ပြီး အမာလီယာရဲ့လုပ်ပုံကို လက်ခံနိုင်သလဲ။ သူ နည်း နည်းကလေးမှတောင် သဘောမပေါက်နိုင်ဘူး။ ဆော်တီနီ အတွက်ဆိုရင် သူဟာ ဘယ်လိုမဆို အနစ်နာခံမှာပဲ။ အမြင်အားဖြင့်တော့ ဒီအခြေအနေ တွေ ဖြစ်လာတာဟာ ဆော်တီနီရဲ့ ဒေါသကြောင့်ပဲ။

"အမြင်အားဖြင့်လို့ ညီမ ပြောတယ်။ ဘာဖြစ်လို့လဲဆိုတော့ ဆော်တီနီ အကြောင်း ညီမတို့ နောက်ထပ် ဘာမှမကြားရလို့ပဲ။ သူ အနားယူသွားပြီ လား၊ သူ သေသွားပြီလား မသိဘူး။ အဲဒီအချိန်တုန်းက အမာလီယာကို အစ်ကို ကြည့်စေ ချင်တယ်။ ညီမတို့ဆီကို အပြစ်ကြီးတစ်ခု သေသေချာချာ ရောက်မလာတာတော့ အမှန်ပဲ။ ဒါပေမဲ့ ဝိုင်းပယ်ထားတာကို ခံကြရတယ်။ ရွာထဲကလည်း ဝိုင်းပယ်တယ်။ ရဲတိုက်ကြီးကလည်း ဝိုင်းပယ်တယ်။ ရွာထဲ က ဝိုင်းပယ်တာကို ညီမတို့ ဘယ်လိုမှ မသိလိုက်မသိဘာသာ နေလို့မရဘူး။ ရဲတိုက်ကြီးကလည်း ဘာအရိပ်လက္ခဏာမှ မပြဘူး။ ရဲတိုက်ကြီးရဲ့ အခွင့် အရေး အရေးပေးမှုကို အရင်ကလည်း မရခဲ့ပါဘူး။ အဲဒီတော့ အခုလည်း ရ လိမ့်မယ်လို့ ဘယ်လိုမျှော်လင့်မလဲ။ ရွာထဲကလူတွေ ညီမတို့ကို ရှောင်ရှားနေကြတာက ညီမတို့ကို မုန်းလို့မဟုတ်ဘူး။ သူတို့ ကြောက်နေကြလို့ပဲ။

နောက်ထပ် ဘာဖြစ်ဦးမလဲဆိုပြီး စောင့်ကြည့်နေကြတာပဲ။

"ညီမတို့ဟာ ဒီအတိုင်း သောင်တင်နေမှာကိုတော့ မကြောက်ရပါဘူး။ ဘာဖြစ်လို့လဲ ဆိုတော့ ညီမတို့ကို ပေးစရာရှိတဲ့ လူတွေက အားလုံးပေးကြတယ်။ ပြဿနာတွေ ဖြေရှင်းရာမှာ ညီမတို့ဘက်ကို အခွင့်အရေးတွေပေး ပြီး ရှင်းပြတာပဲ။ ညီမတို့မှာ မရှိတဲ့ စားနပ် ရိက္ခာတွေကိုလည်း တိတ်တိတ် ကလေး ပေးကြတယ်။ အခုအချိန်က ကောက်ရိတ်သိမ်းချိန်ကိုး။ ဒါပေမဲ့ ညီမတို့မှာ ကိုယ်ပိုင်လယ်ယာကလည်း မရှိဘူး။ ဘယ်သူကမှလည်း အလုပ် မငှားကြဘူး။ အဲဒီတော့ ညီမတို့အားလုံး ပျင်းနေကြတာကိုး။ အဲဒီတော့ ညီမတို့ဟာ နေ့တိုင်း သြဂုတ်လို ပူတဲ့အချိန်တွေမှာ တံခါးပိတ်ပြီး နေကြရတယ်။ ဘာမှမဖြစ်ဘူး။ ဘယ်သူကမှ မဖိတ်ဘူး။ ဘာသတင်းမှ မကြားရဘူး။ ဘယ်သူမှ လာမလည်ဘူး"

"အဲဒီလိုဆိုရင် ဘာမှလည်းမဖြစ်ဘူး။ ဘာပြစ်ဒဏ်မှလည်း အသေအချာ မချမှတ်ဘူး။ ဒါဆိုရင် ဘာကြောက်စရာ ရှိသလဲ။ ညီမတို့ဟာ ဘယ်လိုလူ တွေလဲ"

အော်လဂါက

"ညီမ ဘယ်လိုရှင်းပြရမလဲ။"

"ညီမတို့ဟာ အနာဂတ်အတွက် ဘာမှ မကြောက်ပါဘူး။

လောလောလတ်လတ်မှာ ခံစားနေကြရပြီပဲ။ ပြစ်ဒဏ် ခံစားနေကြရပြီပဲ။ ရွာထဲက လူတွေက သူတို့ဆီကို ညီမတို့လာမှာကို စောင့်နေကြတယ်။ အဖေက သူ့ရဲ့အလုပ်ရုံကို ပြန်ဖွင့်ပြီကိုး။ အမာလီယာကလည်း အဝတ်အစား ကောင်းကောင်း လှလှ ကလေးတွေ ချုပ်နိုင်တာကို သူတို့ဆီမှာ အော်ဒါ လာတောင်းရမယ် မဟုတ်လား။ အခုလို လုပ်ကြရတာကို သူတို့ စိတ်မကောင်းကြဘူး။ လေးစားရတဲ့ မိသားစုတစ်စုဟာ ဖြုန်းခနဲဆို ရွာရဲ့ဘဝထဲက ပျောက်ကွယ်သွားတာဟာ အားလုံးအတွက် ဆုံးရှုံးမှုပဲ။ အခုလို သူတို့လုပ်ရတာဟာ သူတို့တာဝန်ကို သူတို့ ထမ်းဆောင်ကြတာပဲ။ ညီမ တို့လည်း သူတို့နေရာမှာဆိုရင် ဒီအတိုင်းလုပ်မှာပဲ။

"ပြဿနာက ဘာဖြစ်တယ်ဆိုတာ ဘယ်သူမှ သဲသဲကွဲကွဲ မသိကြဘူး။ ဆက်သားဟာ ဟာရင်ဟော့ကို လက်ထဲမှာ စက္ကူစုတ်တွေနဲ့ ပြန်လာတယ် ဆိုတာလောက်ပဲ သိကြတယ်။ ဆက်သား ထွက်သွားတာနဲ့ ပြန်လာတာကို ဖရီဒါတွေ့တယ်။ ဆက်သားနဲ့ ဖရီဒါ စကားနည်းနည်းပါးပါး ပြောရတယ်။ ဖရီဒါသိတာတွေအားလုံး အပြင်ကို ပြန့်သွားတာပဲ။ ညီမတို့ကို သူ မလိုမုန်းထားလို့ လျှောက်ပြောတာ မဟုတ်ဘူး။ ဒီလိုအခြေအနေမျိုးမှာ လူ တိုင်းလူတိုင်းဟာ ကိုယ်သိတာကို ပြန်ပြောကြမှာပဲ။ ညီမ ပြောခဲ့သလိုပဲ ပျော်ရွှင်စွာ ဇာတ်သိမ်းခြင်းဆိုရင် လူတိုင်းက သဘောကျမှာပဲ။ ညီမတို့က ဒီကိစ္စတွေအားလုံး ပြီးသွားပြီ၊ နားလည်မှု လွဲသွားလို့ပါဆိုရင် လူတိုင်း ကျေနပ်သွားမှာပဲ။ ဒါဆိုရင် လူတွေက ညီမတို့ကို ကြိုဆိုကြမယ်။ ချီးကျူး ဂုဏ်ပြုကြလိမ့်မယ်။

"ဒီကိစ္စ ဘာမှအများကြီး ရှင်းပြနေစရာ မလိုဘူး။ ညီမတို့အနေနဲ့ အပြင် ကို ထွက်ပြီး လူလုံးပြလိုက်ရုံနဲ့ လူတွေဟာ ဘာမှပြောကြတော့မှာ မဟုတ်ဘူး။ ဒီသတင်းကို ဖရီဒါပြောလိုက်တဲ့အချိန်မှာ မလိုမုန်းတီးလို့ မဟုတ်ဘူး။ တစ်ခုခုတော့ ဖြစ်တယ် ဆိုတာကို တစ်ရွာလုံးကို သတိပေးလိုက်တာပဲ။ ဒီကိစ္စကနေ လူတိုင်း ကင်းကင်း လွတ်လွတ်နေကြဖို့ပဲ။ ဒီကိစ္စမှာ ညီမ တို့မိသားစုဟာ ပြဿနာမဟုတ်ဘူး။ နည်းနည်း ကလေး ရောထွေးသွား တာပဲ။ အဲဒီတော့ ညီမတို့က အားလုံး ပြီးပါပြီလို့ ပြောလိုက်ရင် အားလုံး ပြီး သွားမှာပဲ။

"အဲဒီအစား ညီမတို့ဟာ အိမ်ထဲမှာ ထိုင်နေကြတယ်။ ညီမတို့ဟာ ဘာကို မျှော်လင့်နေကြသလဲ မသိဘူး။ အမာလီယာရဲ့ ဆုံးဖြတ်ချက်တစ်ခုခုကို စောင့်နေကြတာလည်း ဖြစ်နိုင်တယ်။ အဲဒီနေ့မနက်က မိသားစုကို သူ ခေါင်းဆောင်ခဲ့တာပဲ။ ကနေ့အထိပဲ။ တစ်ခုခု သတ်သတ်မှတ်မှတ် လုပ်ဆောင်ခြင်း၊ ဒါမှမဟုတ် အမိန့် ပေးခြင်း၊ ဒါမှမဟုတ် တောင်းပန်ခြင်း မျိုး မလုပ်ဘဲ တစ်ယောက်တည်း တိတ်တိတ် ဆိတ်ဆိတ်ကလေးပဲ နေတယ်။ ညီမတို့ တခြားလူတွေမှာတော့ တိုင်ပင် ဆွေးနွေးစရာတွေ အများကြီးရှိနေတယ်။ မိုးလင်းကနေ မိုးချုပ်အထိ တိုးတိုးတိုးတိုး ပြောနေ ကြရတယ်။ တစ်ခါတလေမှာ အဖေက ညီမကိုခေါ်တယ်။ အဖေ့ရဲ့ ခုတင်စွန်းမှာ ထိုင်ပြီး ညဝက်လောက်ထိ စကားပြောကြရတယ်။ တစ်ခါတလေမှာ ညီမနဲ့ ဗာနေဗက်တို့ဟာ တစ်နေရာမှာ

သွားပြီး တိုင်ပင်ကြရတယ်။ အခု အစ်ကိုနဲ့ ညီမ ခေါင်းချင်းရိုက်သလို ခေါင်းချင်း ရိုက်ကြရတာပဲ။ တစ်ညလုံးကုန်သွား တာကို မသိလိုက်ကြဘူး။ နောက်တစ်နေ့ မိုးသောက်လာတာကို တွေ့ကြရတယ်။

"ညီမတို့အထဲမှာ အဖေက အခံစားရဆုံးပဲ။ သူက ညီမတို့အားလုံး ခံစား နေရတာကိုလည်း ခံစားရတယ်။ ညီမတို့ တစ်ယောက်ချင်း ခံစားနေရတာ ကိုလည်း မျှဝေ ခံစားရတယ်။ အဲဒီအတွက် ညီမတို့ဟာ သူ့အတွက် စိုးရိမ် ကြရတယ်။ သူ အကြိုက်ဆုံး နေရာကတော့ ဆိုဖာကြီးရဲ့အစွန်းပဲ။ အဲဒီ ဆိုဖာက အခု ညီမတို့ဆီမှာ မရှိတော့ဘူး။ ဘရန့်ဝစ်ရဲ့ ဧည့်ခန်းကြီးထဲမှာ ရောက်နေပြီ။ အင်း အဖေက အဲဒီမှာ ထိုင်တယ်။ မေးချင် မေးနေတယ်။ တစ်ယောက်တည်း စကားပြောချင် ပြောနေတတ်တယ်။ သူ့နှုတ်ခမ်းတွေ လှုပ်နေတဲ့အပေါ်မှာကြည့်ပြီး ညီမတို့ ခန့်မှန်းကြရတယ်။

"ညီမတို့ဟာ ဘဝအကြောင်းဆွေးနွေးကြတာဟာ သဘာဝလိုဖြစ်နေပြီ။ စာထဲမှာ ပေါ်လွင်နေတဲ့ အချက်တွေကို ဆွေးနွေးကြတယ်။ မြုပ်နေတဲ့ အချက်တွေကို စဉ်းစားကြတယ်။ ညီမတို့ရဲ့ ကံကြမ္မာကို ပြန်ပြီးကောင်းအောင် လုပ်နိုင်ဖို့ နည်းလမ်းတွေကို စဉ်းစားကြတယ်။ ဒါပေမဲ့ ညီမတို့ လွတ်မြောက်ချင်တဲ့ အခြေအနေကနေ ပိုပြီးနက်ရှိုင်းတဲ့ နေရာကို ရောက် သွားကြတယ်။

"ဒါပေမဲ့ ဒီစိတ်ကူးတွေကို အမာလီယာ မပါဘဲနဲ့ အကောင်အထည် မဖော် နိုင်ဘူး။ ဒီအကြံဉာဏ်တွေကို အမာလီယာကို ပြောပြရင်လည်း နှုတ်ဆိတ် နေတာနဲ့ပဲ ကြုံရတယ်။ ဒါပေမဲ့ ညီမဟာ အခုဆိုရင် အမာလီယာကို ဟို တုန်းကထက် ပိုပြီး နားလည်တာပဲ။ သူက ညီမတို့ အားလုံးထက်ပိုပြီး ခံစားနေရတာပဲ။ ဒါတွေကို သူ ဘယ်လိုလုပ်ခံစားနိုင်ပြီး အခုထက်ထိ ရှင်သန်နေသေးတယ်ဆိုတာကို နားမလည်နိုင်အောင်ပဲ။

"အဖေဟာ ညီမတို့ရဲ့ ဝေဒနာတွေ အားလုံးကို ခံစားနေရတယ်။ ဒါပေမဲ့ အမာလီယာက ခံစားနေရရုံတင် မကဘူး၊ သူခံစားနေရတာကို သေသေချာချာ သိနေတယ်။ ညီမတို့က အကျိုးတရားတွေကိုပဲ သိတယ်။ သူက အကြောင်းတရားတွေကို သိတယ်။ သူက အမှန်ကိုသိပြီး ခံစားနေရ တာပဲ။ ညီမတို့အားလုံး ဒုက္ခအသီးသီး ခံစားနေကြရတဲ့ အထဲမှာ ညီမတို့က သူနဲ့စာရင် အများကြီး တော်သေးတယ်။

"ဟုတ်တယ်၊ ညီမတို့ အိမ်ပြောင်းကြရတယ်။ အရင်အိမ်ကို ဘရန့်ဝစ်က ယူလိုက်တယ်။ ညီမတို့ကို ဒီအိမ်လေးပေးတယ်။ ညီမတို့ရဲ့ ပစ္စည်းတွေကို လက်တွန်း လှည်းတစ်စီးနဲ့ အခေါက်ခေါက် ပြောင်းရတယ်။ ဗာနေဗက်နဲ့ ညီမဟာ လှည်းကို ရှေ့ကနေ ဆွဲတယ်။ အဖေနဲ့အမာလီယာက နောက်ကနေ တွန်းကြတယ်။ အမေ ကတော့ ဒီအိမ်မှာရောက်နေပြီး သေတ္တာတစ်လုံး ပေါ်မှာ ထိုင်နေတယ်။ ညီမတို့က သူ့ကို အရင်ဆုံး ပို့ပေးထားလို့ပဲ။ ညီမ မှတ်မိသေးတယ်။ အဲဒီလို ပင်ပင်ပန်းပန်း ပြောင်းရွှေ့ကြရာမှာလည်း အင်မတန် နာကြည်းရတယ်။

ကောက်ရိတ်သိမ်းပြီး ပြန်လာတဲ့ လှည်းတွေနဲ့ ညီမတို့ တွေ့ရတယ်။ လူတွေက ညီမတို့ကိုမြင်တဲ့အခါမှာ နှုတ်ဆိတ်သွား ကြတယ်။ မျက်နှာတွေကို တစ်ဖက်လှည့်သွားကြတယ်။ ဗာနေဗက်နဲ့ ညီမ တို့ဟာ အဲဒီကို ပြောင်းရွှေ့နေရတဲ့ကာလမှာလည်း ညီမတို့ရဲ့ ဒုက္ခသုက္ခ တွေနဲ့ စီမံကိန်းတွေကို မဆွေးနွေးဘဲ မနေနိုင်ကြဘူး။ အဲဒီအတွက် ညီမတို့ လှည်းဟာ လမ်းတစ်ဝက်ကြီးမှာ ရပ်နေတတ်တယ်။ အဖေရဲ့ {ဟယ်လို} ဆို တဲ့ အသံကြောင့် ညီမတို့ ပြန်ပြီး သတိဝင်ရတယ်။ ဒါပေမဲ့ ညီမတို့ အိမ် ပြောင်းပြီးတဲ့ တိုင်အောင်လည်း ညီမတို့ရဲ့ ဆွေးနွေးမှုတွေဟာ အကောင်အထည် ပေါ်မလာကြဘူး။ ညီမတို့ဟာ ဆင်းရဲမွဲတေမှုဒဏ်ကိုပဲ ပိုပြီး ခံစားလာကြရတယ်။

"ဆွေမျိုးတွေက ညီမတို့ကို မထောက်ပံ့ မကူညီကြတော့ဘူး။ ညီမတို့မှာ ရှိတဲ့ ပိုက်ဆံတွေလည်း ကုန်သလောက်ဖြစ်သွားပြီ။ အဲဒီအချိန်ကစပြီး လူတွေက ညီမတို့ကို မလိုမုန်းတီး လာကြတော့တာပဲ။ အခုမြင်တွေ့နေရတဲ့ ပုံစံမျိုးပဲပေါ့။ ညီမတို့ဟာ အရက်တကွဲ အကျိုးနည်း ဖြစ်နေရာကနေ ရုန်းမ ထွက်နိုင်ဘူးလို့ သူတို့ ထင်လာကြတယ်။ ညီမတို့ရဲ့ ဒုက္ခသုက္ခတွေဟာ ဘာလဲဆိုတာ သူတို့ သေသေချာချာ မသိကြပေမဲ့ လျှော့ပြီးမှတော့ မတွက် ကြဘူး။ ညီမတို့ ရုန်းထွက်နိုင်ရင်တော့ သူတို့ ချီးကျူးကြလိမ့်မယ်။ ညီမတို့ ရုန်းမထွက်နိုင်တဲ့အတွက် သူတို့က ညီမတို့ကို ဝိုင်းပယ်လာ ကြတယ်။

"ညီမတို့ကို အများသူငါတွေလို မဆက်ဆံကြတော့ဘူး။"

"ညီမတို့ရဲ့ နာမည်တွေကိုတောင် ထည့်မပြောကြတော့ဘူး။"

"ညီမတို့အကြောင်း ပြောချင် ရင်တောင် ဗာနေဗက်ရဲ့ မိသားစုလို့ ပြောကြတယ်။"

"ဘာဖြစ်လို့လဲဆိုတော့ ဗာနေဗက်က အပြစ်အနည်းဆုံး ဖြစ်လို့ပဲ။"

"ညီမတို့ရဲ့ အိမ်ကလေးဟာ မ ကောင်းသတင်းနဲ့ ကျော်ကြား လာတယ်။ လူတွေဟာ တစ်ခါတလေမှာ ညီမတို့အိမ်ကို လာရင်တောင် အပြစ်ပဲ ပြောကြတယ်။ အသေးအဖွဲ ကလေးတွေကအစ နှာခေါင်းရှုံ့ကြတယ်။ ဥပမာပြောရရင် ရေနံဆီမှန်အိမ်ကို စားပွဲပေါ်မှာ ထွန်းထားရင်လည်း အပြစ်ပြောကြတာပဲ။ မှန်အိမ်ကို စားပွဲပေါ်မှာ မထွန်းလို့ ဘယ်မှာထွန်းရမှာလဲ။ တကယ်လို့ ညီမတို့က မှန်အိမ်ကို တခြား တစ်နေရာမှာ ထွန်းထားရင်လည်း အပြစ်ပြောကြမှာပဲ။ ညီမတို့ လုပ်သမျှ တွေဟာ၊ ညီမတို့မှာ ရှိသမျှတွေဟာ သဘောမကျစရာတွေချည်းပဲ"

## အသနားခံခြင်းများ

"ဒီအချိန်မှာ ညီမတို့ ဘာလုပ်ကြတယ်ထင်သလဲ။ အဆိုးဝါးဆုံးအလုပ် တစ်ခုကို ညီမတို့ လုပ်ကြတယ်။ မူရင်းပြစ်မှုထက် ကြီးမားတဲ့ ပြစ်မှုတစ်ခု ကို ကျူးလွန်ကြတယ်။ အမာလီယာကို သစ္စာဖောက်ကြခြင်းပဲ။ သူ့ရဲ့ နှုတ် ဆိတ်နေတဲ့ ချုပ်တည်းမှု ကို ဖျက်ပစ်ကြတယ်။ ညီမတို့ဟာ ဒီအတိုင်းချည့်ပဲ ဆက်ပြီးမနေနိုင်ကြတော့ဘူး။ ဘယ်လို မျှော်လင့်ချက်မှ မရှိတဲ့ဘဝမျိုးမှာ ဆက်ပြီး မနေနိုင်ကြတော့ဘူး။ ညီမတို့ဟာ ကိုယ့်နည်းကိုယ့်ဟန်နဲ့ကိုယ် ရဲတိုက်ကြီးရဲ့ခွင့်လွှတ်မှုကို တောင်းခံကြတယ်။ ဘုရား သခင်ထံမှာ ဆုတောင်းလို့ဖြစ်စေ၊ ဒေါသအိုး ပေါက်ကွဲလို့ ဖြစ်စေပေါ့။ ညီမတို့ဟာ ကောင်းမွန်အောင်လုပ်နိုင်တဲ့ အနေအထားမှာ မရှိဘူးဆိုတာ သိပါတယ်။ နောက်ပြီးတော့ ညီမတို့ဟာ ရဲတိုက်ကြီးနဲ့ တစ်ခုတည်း ဆက်သွယ်မှုဖြစ် တဲ့၊ အဖေ့ရဲ့ အထက်လူကြီးလည်း ဖြစ်၊ အဖေ့ကို ထောက်ခံတဲ့ ဆော်တီနီ ကတစ်ဆင့် ရဲတိုက်ကြီးနဲ့ . ဆက်သွယ်မှု ရှိတာကို ဖြစ်ပျက်လာတဲ့ အခြေအနေနဲ့ ဖျက်ဆီး ပစ်လိုက်ကြတယ်။ ဒါတောင် ညီမတို့ဟာ ဒါကို ဆက်ပြီး လုပ်နေကြသေးတယ်။

"အဖေက စလုပ်တာပဲ။ သူက အလိမ္မာမရှိတဲ့ အသနားခံမှုတွေကို ကျေးရွာ ဥက္ကဋ္ဌဆီကို တင်သွင်းတယ်။ အတွင်းရေးမှူးတွေဆီကို တင်သွင်းတယ်။ ရှေ့နေတွေ ဆီကို တင်သွင်းတယ်။ စာရေးတွေဆီကို တင်တယ်။

အများအားဖြင့်တော့ သူ့ရဲ့ အသနားခံမှုတွေကို လက်မခံကြဘူး။ ဒါပေမဲ့ လုပ်တာကိုင်တာ ဟုတ်၍ပဲလား၊ ကံကောင်းထောက်မ၍ပဲလား မသိဘူး၊ စုံစမ်းစစ်ဆေးမှုတစ်ခုကို ရတယ်။ အဲဒီ သတင်းကို ကြားရတော့ ညီမတို့ အရမ်းဝမ်းသာကြပြီး လက်ခမောင်း ခတ်ကြတယ်။ ဒါပေမဲ့ သူဟာ အမြဲတမ်းပဲ မောင်းထုတ်ခံရတယ်။ နောက်ထပ် တင်သွင်းခွင့် မရတော့ဘူး။ နောက်ပြီးတော့ သူ့ကိုပေးစရာ အဖြေကောင်းကောင်း ရှိတယ်။ ရဲတိုက်ကြီး မှာ အမြဲတမ်းဆိုသလို အခွင့်အလမ်းရှိနေတယ်။ သူလိုချင်တာက ဘာလဲ။ သူ့ကို ဘာတွေ လုပ်ထားကြလို့လဲ။ ဘာအတွက် သူက ခွင့်လွှတ်စေချင်တာ လဲ။ ရဲတိုက်ကြီးထဲမှာ ဘယ်သူက သူ့ကို လက်ညှိုးထိုးခဲ့လို့လဲ။

"သူဟာ ဖောက်သည်တွေ ဆုံးရှုံးပြီး ဆင်းရဲသွားတယ်ဆိုတာ အမှန်ပဲလို့ ထားလိုက်ပါတော့။ ဒါဟာ နေ့စဉ်ဘဝမှာ ကြုံတွေ့နေရတာတွေပဲ။ အလုပ်ရုံ တိုင်းဟာ ဈေးကွက်တိုင်းမှာ ဖြစ်ပျက်နေတာပဲ။ ရဲတိုက်ကြီးက ဒီလိုကိစ္စ မျိုးတွေမှာ ဝင်ပါရ မှာလား။ ဒါဟာ လူတစ်ယောက်ရဲ့ ပုဂ္ဂလိက ကိစ္စပဲ။ အရာရှိတွေက ဖောက်သည်တွေ နောက်ကို ပြေးလိုက်ပြီး ပြန်လာကြဖို့ ပြောရမှာပဲ။ ဒါပေမဲ့ ဒါကို အဖေကလည်း ကန့်ကွက်တယ်။ အဖေက သူဆင်းရဲသွားတဲ့အတွက် တိုင်တန်းနေတာ မဟုတ်ဘူး။"

"သူဆုံးရှုံးသွားရတာတွေကို သူပြန်ပြီးရအောင် လုပ်နိုင်တယ်။

အရေးကြီးတာက သူ့ကို ခွင့်လွှတ် ကြဖို့ပဲ။

"ဒါပေမဲ့ ဘာလို့ ခွင့်လွှတ်ကြရမှာလဲဆိုတဲ့ မေးခွန်းက ထွက်လာတယ်။ သူ့ကို ဘာတစ်ခုမှ စွပ်စွဲတာမရှိဘူး။ ဒါဆိုရင် သူက ဘာအတွက် ခွင့်လွှတ် စေချင်တာလဲ။ ဒီတော့ အဖေဟာ ရုံးချိန်တွေကို အလကားဖြုန်းတီးနေတာပဲ။ အဲဒါဟာ ခွင့်မလွှတ်နိုင်တဲ့ အပြစ်ပဲ။ ဒါပေမဲ့ အဖေက အလျှော့မပေးဘူး။ "အမာလီယာရဲ့ ဂုဏ်သိက္ခာကို ငါ ပြန်ပြီး အဖတ်ဆယ်ရမယ်" လို့ ဗာနေဗက်နဲ့ ညီမကို တစ်နေ့ တစ်နေ့မှာ အကြိမ်ပေါင်းများစွာ ပြောတယ်။ ဒါပေမဲ့ အမာလီယာ ကြားသွားမှာစိုးလို့ တိုးတိုးကလေးပဲ ပြောတယ်။ သူက အမာလီယာရဲ့ အကျိုးအတွက်လို့ ပြောပေမဲ့ တကယ်တမ်းမှာတော့ သူက အမာလီယာရဲ့ ဂုဏ်သိက္ခာကို ပြန်ပြီး ဆယ်ဖို့မဟုတ်ဘူး။ သူ့ကို ခွင့်လွှတ်ဖို့ပဲ ဖြစ်တယ်။

"သူ့ကို ခွင့်မလွှတ်ခင်မှာ သူ အပြစ်ရှိကြောင်း သက်သေပြရမယ်။ သူ့မှာ အပြစ်ရှိကြောင်း ပြောဖို့ကိုလည်း ဌာနတွေအားလုံးက ငြင်းကြတယ်။ ဒီမှာ သူသဘော တစ်ခုပေါက်သွားတယ်။ ဒီမှာ သူ့ခေါင်းက လုံးဝချောင်သွားပြီ ပဲ။ သူ ပိုက်ဆံ လုံလုံ လောက်လောက် မပေးလို့ သူ့အပြစ်ကို ဖုံးကွယ်ထား ကြတယ်လို့ သူ ယူဆတယ်။ အဲဒီအချိန်အထိ သူက သတ်မှတ်ထားတဲ့ အခွန်တွေကိုပဲ ပေးခဲ့တယ်။ အဲဒါကိုက ညီမတို့အဖို့ များလှပြီ။ သူ အခု သဘောပေါက်တာက ပိုပြီးမှ ပေးရမယ်။ အဲဒါကိုက သူ အထင်အမြင်မှား တာပဲ။ အရာရှိကြီးတွေအနေနဲ့ လာဘ်လာဘ လက်ခံကြတာက အလုပ်ရှုပ် မှာနဲ့ တွေ့ဆုံဆွေးနွေး ရတာတွေကို ရှောင်ရှားဖို့ပဲ။ အဲဒီနည်းနဲ့ ဘာမှ အောင်မြင်မှု မရကြဘူး။ ဒါပေမဲ့ အဖေ့မှာ အဲဒီ စိတ်ကူးရှိနေတယ်ဆိုရင် ညီမတို့အနေနဲ့ အဲဒီစိတ်ကူးကို ကမောက်ကမ မဖြစ်စေချင်ဘူး။ အဖေ လိုချင်တဲ့ပိုက်ဆံကို ပေးနိုင်အောင် ညီမတို့မှာ ကျန်နေတဲ့ ပစ္စည်းတွေကို ရောင်းကြတယ်။ မရှိမဖြစ်တာက လွဲလို့ပေါ့။ အဖေ့အိတ်ထဲမှာ အကြွေတွေ တချွင်ချွင်နဲ့ ထွက်သွားတဲ့အခါမှ ညီမတို့မှာ စိတ်ချမ်းသာ ကြရတယ်။

"အင်း… ဟုတ်တယ်၊ ညီမတို့ဟာ တစ်နေ့လုံး ငတ်ငတ်ပြတ်ပြတ် ဖြစ်နေ ကြ ရတယ်။ ပိုက်ဆံတွေက ဆောင်ကြဉ်းပေးနိုင်တာကတော့ အဖေဟာ မျှော်လင့်ချက်ကလေး ရှိနေပြီး ပျော်နေတာပဲ။ ဒါပေမဲ့ ဒါကို အကျိုးထူးလို့တော့ မပြောနိုင်ဘူး။ အဖေ့အနေနဲ့ လုံးဝကြီး ရပ်မသွားသေးဘဲနဲ့ တအိအိသွားနေနိုင်တာပဲ။ တကယ်တမ်း မှာတော့ အဲဒီလို အပိုကြေးပေးတဲ့အတွက် သူ့မှာ ဘာတစ်ခုမှ အပိုရလာတာမရှိဘူး။ စာရေးတွေက တစ်ခုခု ပြန်ပေး ကြဟန် ဆောင်ကြတယ်။ ပြဿနာကို ကြည့်ပေးပါ မယ်လို့ ကတိပေးကြတယ်။ သူတို့ တစ်ခုခုကို တွေ့နေပြီလို့ ပြောကြတယ်။ အဖေ ကတော့ မ သင်္ကာတာ လုံးဝမဖြစ်ဘဲ ပိုပြီးတော့ စိတ်အားထက်သန်လာတယ်။

"အဖေကတော့ အဲဒီအသုံးမကျတဲ့ ကတိတွေကို တကယ့်အောင်မြင်မှုကြီး အဖြစ် အိမ်ကို သယ်ဆောင်လာတယ်။ အမာလီယာ၏ နောက်ဘက်ကနေ ပြီး သူ ပြုံးလိုက်တယ်။ အမာလီယာကို လက်ညှိုးထိုးပြီး သူကယ်တင်လိုက် ပြီလို့

ပြောတာတွေကို ကြည့်ပြီး ညီမတို့ စိတ်ဒုက္ခ ရောက်ကြရတယ်။ အခြေအနေက အတော်ကြီး ကြာအောင် ဒီအတိုင်းပဲ ဆက်ပြီးသွားနေတယ်။ ညီမတို့မှာ သူ့ကို ပေးစရာပိုက်ဆံ မရှိတော့တဲ့အထိ ဖြစ်တယ်။

"အဲဒီအချိန်က ဘရန်ဝစ်ဆီမှာ လက်ထောက်အဖြစ်လုပ်နေတဲ့ ဗာနေဗက်ဟာ အလုပ်တွေကို မိုးလင်းကနေ မိုးချုပ်အထိ လုပ်ပေးနေတယ်။ ဒါပေမဲ့ ဘရန်ဝစ်က ဘာမှပိုမပေးနိုင်ဘူး။ ဗာနေဗက်ရတဲ့ လုပ်ခက ညီမတို့ လုံးလုံး ကြီး ငတ်မသွားရုံပဲ ရှိတယ်။ နောက်ဆုံးမှာ ညီမတို့က အဖေ့ကို ပြောရတယ်။ နောက်ထပ် ပိုက်ဆံမရနိုင် တော့တဲ့အကြောင်း ဖြည်းဖြည်းဆေးဆေး ပြောကြရတယ်။ အဲဒီတော့ အဖေက နောက်ထပ်ခြေ လမ်းသစ်တစ်ခု လှမ်းလာတယ်။ အယူခံတဲ့ကိစ္စကို ရုံးသဘောအရ လုပ်လို့ မရရင် ပုဂ္ဂိုလ်ရေးအရ လုပ်မယ်တဲ့။ အရာရှိတွေထဲမှာ စာနာထောက်ထား တဲ့သူ `အချို့ ရှိရမယ်တဲ့။ သူတို့ကို အလုပ်ချိန်အတွင်းမှာ မတွေ့ဘဲ သူတို့ အားလပ်တဲ့အချိန်မှာ တွေ့ပြီးပြောမယ်တဲ့။ သူ့စကားကို သူတို့ နားထောင် မှာ အမှန်ပဲတဲ့။

ထိုအချိန်အထိ စိတ်ဝင်စားစွာနားထောင်နေခဲ့သော ကေက ကြားဖြတ်ပြီးမေးလိုက်သည်။

အော်လဂါက

"ဟင့်အင်း၊ မမှန်ဘူး အစ်ကို။ စာနာထောက်ထားတတ်တာ ထောက်ထား တတ်တာက ပြဿနာမဟုတ်ဘူး။ အသက်အရွယ်ငယ်ပြီး အတွေ့အကြုံ မရှိသေးတဲ့ ညီမတို့တောင် သိတယ်။ အဖေလည်း သိတယ်။ ဒါပေမဲ့ သူက တခြားဟာတွေ အားလုံး လောက်ကို မေ့သွားသလို ဒါကိုလည်း မေ့သွားပြီး သူ့အကြံအစည်က ရဲတိုက်ကြီး အနားက လမ်းမကြီးပေါ်ကနေ သူ စောင့်နေမယ်၊ မြင်းရထားတွေ ဖြတ်သွားတတ်တဲ့ နေရာကပေါ့။ သူ့ကို ခွင့်လွှတ်ဖို့ ပြောနိုင်တဲ့ အခွင့်အလမ်းကို စောင့်နေမယ်။ ရိုးရိုး သား သားပြောရရင်တော့ ဒါဟာ အဓိပ္ပာယ်မရှိတဲ့ အကြံအစည်ပဲ။ ဘယ်လိုမှ မဖြစ်နိုင် တာဟာ တကယ်ဖြစ်ခဲ့ပြီ။ သူ့ရဲ့တောင်းပန်မှု အရာရှိတစ်ယောက်ရဲ့ နားကို ရောက်သွားတယ်ထားဦး၊ အရာရှိတစ်ယောက်တည်းကနေ ဘယ်လိုလုပ်ပြီး ခွင့်လွှတ်နိုင်မှာလဲ။ ဒါက အာဏာပိုင် အဖွဲ့တစ်ခုလုံးကနေ ဆုံးဖြတ်ရမယ့်ကိစ္စပဲ။ အာဏာပိုင်အဖွဲ့ကသာ ပြစ်ဒဏ် ချမှတ်နိုင်တာ၊ အပြစ်ကနေ ကင်းလွတ်ခွင့် ပေးနိုင်တယ်ဆိုတာ ရှင်းပါတယ်။

"တကယ်လို့ အရာရှိတစ်ယောက်ဟာ သူ့ရထားပေါ်ကနေဆင်းပြီး ပြဿနာကို ဖြေရှင်းပေးချင်တယ် ဆိုတောင် အမှုအကြောင်းကို အဘိုးကြီး တစ်ယောက် ပြောပြနေတာ ကနေ ဘယ်လိုလုပ်ပြီး ရှင်းရှင်းလင်းလင်းသိ နိုင်မှာလဲ။ အရာရှိတွေ ပညာကောင်းကောင်း တတ်ကြတယ်။ ဒါပေမဲ့ တစ်ဖက်တည်းကပဲ လုပ်နိုင်ကြတယ်။ သူ့ဌာနမှာဆိုရင် အရာရှိတစ် ယောက်ဟာ စကားတစ်ခွန်းတည်းပြောရုံနဲ့ အားလုံး ရှင်းရှင်းလင်းလင်း နားလည်နိုင်တယ်။

ဒါပေမဲ့ တခြားဌာနတစ်ခုက တစ်နာရီလောက် ရှင်းပြတာကို သူက ယဉ်ကျေးစွာနဲ့ ခေါင်းညိတ်ပြပေမဲ့ သူ ဘာတစ်လုံးမှနားလည်မှာ မဟုတ်ဘူး။ ဒါက သဘာဝပဲ။

"အဲဒီအတိုင်းပဲ အဖေဟာ တာဝန်ရှိတဲ့ အရာရှိတစ်ယောက်ကို ပြောခွင့်ရတယ် ထားဦး၊ ဘယ်အရာရှိကမှ လိုအပ်တဲ့စာရွက်စာတမ်း အထောက်အထားတွေ မရှိဘဲနဲ့ ဆုံးဖြတ်နိုင်မှာ မဟုတ်ဘူး။ လမ်းမကြီးပေါ် မှာလည်း ဘယ်အထောက်အထားမှ မရနိုင်ဘူး။ ဘာတစ်ခုကိုမှ လွတ်ငြိမ်း ချမ်းသာခွင့်မပေးနိုင်ဘူး။ သူက ရုံးသဘောအရသာ ဖြေရှင်းနိုင်မယ်။ သူက ရုံးလုပ်ထုံးလုပ်နည်းတွေ အရသာ လုပ်ရမယ်။ အဖေက ဘယ်လိုလုပ်ပြီး အဲဒီစိတ်ကူးမျိုး ရသလဲ မသိဘူး။

"ဒီလိုမျိုး ဖြစ်နိုင်တဲ့အခြေအနေ ရှေးရှေးကလေး ရှိတယ်ဆိုရင်ပဲ လမ်းပေါ်မှာ အသနားခံတဲ့ လူတွေနဲ့ ပြည့်နေမယ်။ ဒါပေမဲ့ ဘယ်လိုမှမဖြစ်နိုင်တဲ့ အတွက် လမ်းပေါ်မှာ ရှင်းနေတာပဲ။ နောက်ပြီးတော့ အရာရှိတွေဟာ ရွာထဲကိုသွားတာပဲဖြစ်ဖြစ်၊ ရဲတိုက်ကြီးကို သွားတာပဲဖြစ်ဖြစ် အပျော်ခရီးသွား ကြတာ မဟုတ်ဘူး။ သူတို့အတွက် အလုပ်တွေက ရွာထဲမှာရော ရဲတိုက်ကြီး မှာရော စောင့်နေကြတယ်။ အဲဒီအတွက် သူတို့ဟာ မြန်မြန်ကြီး သွားကြရတယ်။ နောက်ပြီးတော့ သူတို့ဟာ ရထားပြတင်းပေါက်ကနေ အပြင်ကိုကြည့်လို့ မရဘူး။ လမ်းမှာ သူတို့လေ့လာဖို့ ရထားပေါ်မှာ စာရွက်ကလေးတွေ အပြည့်ပါလို့ပဲ"

"ဒါပေမဲ့ ကိုယ်တွေ့ဖူးတာကတော့ အရာရှိတစ်ယောက်ရဲ့ နှင်းလျှော မြင်းရထားပေါ်မှာ ဘာစာရွက်စာတမ်းတွေမှ မပါဘူး"

ကေက သူ၏အတွေ့အကြုံကို ပြောပြလိုက်သည်။

အော်လဂါက

"အဲဒါ ဖြစ်နိုင်ပါတယ်။ အဲဒါဆိုရင် ပိုတောင်ဆိုးသေးတယ်။ အဲဒီ အခိုက်မှာယ်က အရာရှိရဲ့ကိစ္စဟာ သိပ်ပြီး အရေးကြီးတဲ့အတွက်စာရွက်စာတမ်းတွေ သယ်သွားရမှာ များလွန်းလို့၊ ဒါမှမဟုတ် စာရွက်စာတမ်းတွေ အဖိုးတန်လွန်းလို့ သူနဲ့အတူ ယူမသွား တာပဲ။ အဲဒီလိုမျိုး အရာရှိတွေဟာ ဒုန်းစိုင်းပြီး သွားကြမှာပဲ။ နောက်ပြီးတော့ ရဲတိုက်ကြီး ကိုသွားတဲ့ လမ်းတွေ အများကြီး ရှိတယ်။ ဒီတစ်ကြိမ်မှာ ဒီလမ်းက တာစား ပြီး တခြားတစ်ချိန်မှာ နောက်တစ်လမ်းက တာစားနေပြန်တယ်။ ရထား တိုင်းဟာ ဒရောသောပါး သွားနေကြတယ်။ ဒီလိုလမ်းတွေ ဘာ့ကြောင့် ပြောင်းနေသလဲဆိုတာတော့ မသိဘူး။ မနက် ရှစ်နာရီမှာ သူတို့ဟာ လမ်း တစ်လမ်းကနေ သွားမယ်။ ဆယ်မိနစ်လောက် ကြာတဲ့အခါမှာ တတိယလမ်းက သွားမယ်။ နာရီဝက်ကြာတဲ့အခါမှာ ပထမလမ်းကနေ ပြန်သွားမယ်။ သူတို့ဟာ တစ်နေ့လုံး သွားနေကြမယ်။ ဒါပေမဲ့ မိနစ်တိုင်းမှာပဲ လမ်း ပြောင်းသွားနိုင်တယ်။

"ဟုတ်တယ်။ လမ်းတွေအားလုံးဟာ ရွာနားကျရင် ပေါင်းသွားကြတယ်။ ဒါပေမဲ့ အဲဒီအချိန်မှာ ရထားတွေဟာ အရမ်းမောင်းနေကြပြီ။ ရဲတိုက်ကြီး နားမှာ

ဆိုရင်တော့ ဒါလောက် မြန်မြန်ကြီး မမောင်းကြဘူး။ ရထားတွေရဲ့ အရေအတွက်ဟာ လမ်းတွေပြောင်းနေသလို မတူညီကြဘူး။ ရထားတစ်စီးမှ မမြင်ရတဲ့ နေ့တွေလည်း ရှိတယ်။ ရထားတွေ ပြည့်ကျပ်နေတဲ့ နေ့တွေလည်း ရှိတယ်။

"ကဲ အဲဒီလိုအခြေအနေမျိုးမှာ အဖေ့ရဲ့လှုပ်ရှားမှုကို ဆက်စပ်ကြည့်ပြီး အဖေဟာ သူ့ရဲ့ အကောင်းဆုံး ဝတ်စုံကိုဝတ်ပြီး မကြာခင်မှာ အဲဒီဝတ်စုံဟာ သူ့ရဲ့ တစ်ခုတည်းသော ဝတ်စုံဖြစ်တော့မယ်။ မနက်တိုင်းမှာ သူဟာ အိမ်က နေ ထွက်သွားတယ်။ ညီမတို့ရဲ့ ဆုမွန်ကောင်းတွေနဲ့ပေါ့။

"သူနဲ့အတူ မီးသတ်တပ်ဖွဲ့ရင်ထိုးကလေး ပါသွားတယ်။ တကယ်တော့ ဒီ ရင်ထိုးကလေးကို သိမ်းထားစရာ ဘာအကြောင်းမှ မရှိဘူး။ ရွာအပြင်ကိုရောက်တဲ့ အခါမှာ အဲဒီရင်ထိုးကို သူ့ကုတ်အင်္ကျီမှာ တပ်လိုက်တယ်။ ရွာထဲ မှာတော့ သူများတွေ မြင်သွားမှာကို သူ စိုးရိမ်တယ်။ ရင်ထိုးကလေးဟာ နှစ်လှမ်းကွာလောက်ကနေဆိုရင် မမြင်သာအောင် သေးငယ်ပေမဲ့ ဖြတ် သွားတဲ့ အရာရှိတစ်ယောက်ကို ဂရုပြုမိနေနိုင် တယ်လို့ ဆိုတယ်။

"ရဲတိုက်ကြီး အဝင်ဝနဲ့ သိပ်မဝေးတဲ့ တစ်နေရာမှာ ဘာတပ်ဆိုတဲ့ လူကြီး ပိုင်တဲ့ ဟင်းသီးဟင်းရွက်ဈေး တစ်ခုရှိတယ်။ သူက ရဲတိုက်ကြီးကို ဟင်းသီးဟင်းရွက်တွေ ရောင်းရတယ်။ အဲဒီဈေးဝင်း တံတိုင်းခြေရင်းမှာ ခပ်ကျဉ်းကျဉ်း ကျောက်ခုံတန်းကလေး တစ်ခုရှိတယ်။ အဖေက အဲဒီ ကျောက်ခုံကလေးပေါ်မှာ ရပ်ပြီးနေတယ်။

"အဲဒါကို ဘာတပ်က မကန့်ကွက်ဘူး။ ဘာဖြစ်လို့လဲဆိုတော့ သူက အဖေ နဲ့ သိပ်ရင်းနှီးပြီး အဖေ့ရဲ့ ဖောက်သည်တစ်ယောက် ဖြစ်တယ်။ သူက ခြေတစ်ဖက် မသန်ဘူး။ အဖေက သူ့ခြေထောက်နဲ့လိုက်မယ့် ဖိနပ်တစ်ရန်ကို ချုပ်ပေးခဲ့တယ်။

"အင်း အဖေဟာ အဲဒီနေရာမှာ တစ်နေ့ပြီး တစ်နေ့ ထိုင်နေတယ်။ ရာသီဥတု စွတ်စိုပြီး မုန်တိုင်းထန်တဲ့ ဆောင်းဦးကာလပဲ။ ဒါပေမဲ့ အဖေက ရာသီဥတုကို မမှုဘူး။ မနက် မိုးလင်းလို့ သွားနေကျအချိန်ရောက်ရင် အဖေ က တံခါးပေါက် မင်းတုပ်ပေါ်မှာ လက်တင်ပြီး ညီမတို့ကို လက်ပြ နှုတ်ဆက်တယ်။ ညနေကျရင် တစ်ကိုယ်လုံး စိုရွှဲပြီး ပြန်လာတယ်။ ခါး နည်းနည်း ပိုကုန်းသွားပြီး အခန်းထောင့်မှာ ပစ်လှဲချလိုက်တယ်။ နေ့တိုင်းပဲ။ ပထမပိုင်းမှာတော့ သူ့အတွေ့အကြုံတွေကို ညီမတို့ကို ရှင်းပြတယ်။ ဘာ တပ်က သူ့အပေါ် ဘယ်လောက်ကောင်းသလဲဆို သူ့အတွက် ခြံစည်းရိုးပေါ် မှာ စောင်တစ်ထည် တင်ပေးထားတယ်။ ဖြတ်သွားတဲ့ မြင်းရထားတစ်စီး ပေါ်က အရာရှိကို သူ မှတ်မိတယ်။ ရထားမောင်းတဲ့ လူတစ်ယောက်က သူ့ကို မှတ်မိပြီး ကြာပွတ်ကို ရိုက်ပြသွားတယ်။ စသဖြင့်ပေါ့။ ဒါပေမဲ့ နောက်ပိုင်းမှာတော့ သူ ဒါတွေ မပြောတော့ဘူး။ အဲဒီမှာ တစ်ခုခု အောင်မြင်မှုရလိမ့်မယ် ဆိုတာကို စိတ်လျှော့လိုက်ပြီနဲ့ တူတယ်။ အဲဒီကို သွားပြီး တစ်နေကုန် နေရတဲ့အဖြစ်ကို

လုပ်ငန်းတစ်ခုလို သဘောထား လိုက်ပုံရတယ်။

"အဲဒီမှာ သူ့ရဲ့အဆစ်အမြစ်တွေ ကိုက်ခဲတဲ့ဝေဒနာ စတော့တာပဲ။ ဆောင်းဝင်လာပြီ။ နှင်းတွေက အစောကြီး ကျလာတယ်။ ဒီမှာက ဆောင်းဥတု အစောကြီးဝင်တယ်။ အဲဒီတော့ သူဟာ စိုရွှဲနေတဲ့ ကျောက်တုံးပေါ်မှာ ထိုင် ရတယ်။ တစ်ခါတလေ ဆိုရင် နှင်းတွေပေါ်မှာ ထိုင်ရတယ်။ ညညကျရင် သူ ဟာ ကိုက်ခဲလွန်းလို့ ညည်းနေရတယ်။ မနက်ကျရင် သူဟာ ကနေ့ သွားသင့် မသွားသင့် စဉ်းစားလာရတယ်။ နောက်ဆုံးမှာတော့ သူဟာ ချီတုံချတုံ ဖြစ်နေတဲ့ကြားက ထွက်သွားတယ်။ အမေက သူ့ကို ဆွဲထားတယ်။ မသွား စေချင်တော့ဘူး။ နောက်ဆုံးမှာ အမေ့ကို သူနဲ့အတူ လိုက်စေတယ်။ ညီမတို့ဟာ သူတို့ဆီကို မကြာခဏ သွားကြတယ်။ ထမင်းသွားပို့ကြတယ်။ ဒါမှ မဟုတ် တွေ့ရုံသက်သက် သွားကြတယ်။ ဒါမှမဟုတ် သူတို့နှစ်ယောက်ကို အိမ်ပြန် လာဖို့ ပြောကြရတယ်။ သူတို့နှစ်ယောက် တစ်ယောက်ကိုတစ် ယောက် မှီပြီး ထိုင်နေ ကြတာကို တွေ့ရတယ်။ ဘယ်လိုမှ အချမ်းမလုံတဲ့ စောင်ပါးပါးကလေးအောက်မှာ ကွေးနေကြတာကို တွေ့ရတယ်။ သူတို့ ပတ်ပတ်လည်မှာ နှင်းတွေ မြူတွေကလွဲလို့ ဘာမှမရှိဘူး။ တချို့နေ့တွေ တချို့အချိန်တွေမှာဆိုရင် လူတစ်ယောက်မှ မမြင်ရဘူး။ ရထားတစ်စီးမှ မ မြင်ရဘူး။ ကေရယ်… အဲဒါတွေ မြင်နေရတဲ့ မြင်ကွင်းပဲ။

"တစ်မနက်မှာတော့ အဖေဟာ အိပ်ရာထဲမှာ တောင့်နေတဲ့ ခြေထောက်ကြီးကို မလှုပ်နိုင်တော့ဘူး။ ဒါပေမဲ့ သူ့ကို နှစ်သိမ့်နေစရာ မလိုဘူး။ သူကကယောင်ကတမ်း ဖြစ်နေပြီ။ သူ့စိတ်ထဲမှာ အရာရှိတစ်ယောက်ဟာ ဘာ တပ်ရဲ့ဘေးမှာ မြင်းရထားကို ရပ်ပြီး သူ့ကို ရှာနေတယ်။ သူ့ကို မတွေ့တဲ့ အဆုံးမှာ အရာရှိဟာ စိတ်ဆိုးမာန်ဆိုးနဲ့ ခေါင်းကို ယမ်းခါပြီး မြင်းရထားပေါ် ပြန်တက်သွားတယ်။ အဲဒီအချိန်မှာ အဖေက တအားကုန်းအော် လိုက်တယ်။ အဲဒီလောက် အကွာအဝေးမှာရှိတဲ့ အရာရှိကြားအောင် အော်လိုက်တာပဲ။ သူ မလာနိုင်တာဟာ သူ့အပြစ် မဟုတ်ပါဘူးလို့ ရှင်းပြတာပဲ။ ဒါပေမဲ့ မလာရောက်နိုင်တာက အကြာကြီး ဖြစ်သွားတယ်။ နောက် ဘယ်တော့မှ သူ မသွားနိုင်တော့ဘူး။ ရက်သတ္တပတ်ပေါင်းများစွာ အိပ်ရာ ပေါ်က သူ မထနိုင်တော့ဘူး။

"အမာလီယာ ပြုစုစောင့်ရှောက်တယ်။ သူ့အနားမှာ စောင့်နေတယ်။ ကုသ ပေးတယ်။ လိုအပ်တာတွေ အကုန်လုံး လုပ်ပေးတယ်။ အဖေ့ဝေဒနာ ကို သက်သာစေမယ့် ဆေးပင်ဆေးမြစ်တွေ အားလုံး သူ သိတယ်။ အမာလီ ယာဟာ မအိပ်တော့သလောက်ပဲ။ သူက နည်းနည်းကလေးမှ မတုန်လှုပ်ဘူး။ နည်းနည်းကလေးမှ မကြောက်လန့်ဘူး။ သူက စိတ်မရှည်တာ မရှိဘူး။ လူကြီးတွေအတွက် အားလုံးလုပ်ပေးတယ်။ ညီမတို့က သူ့ကိုသာ မ ကူနိုင်ဘဲ ပျာယာခတ်နေတဲ့ အချိန်မှာ သူက ဘာပဲဖြစ်ဖြစ် ခေါင်းအေးအေးပဲ။ နောက်ဆုံးမှာ အဆိုးဆုံးအချိန်တွေ ကျော်လွန်သွားပြီး အဖေ ဒီအိပ်ရာ ထဲကနေ သတိထားပြီး

ပြန်ထနိုင်တယ်။ ညီမတို့က ဘေးတစ်ဖက် တစ် ချက်စီကနေ တွဲပေးရတယ်။ အမာလီယာ အနားယူသွားပြီး အဖေ့ကို ညီမ တို့နဲ့ လွှဲထားတယ်"

## အော်လဂါ၏ စီမံကိန်း

"အခုတစ်ခါ အဖေနဲ့သင့်တော်မယ့် အလုပ်တစ်ခု ရှာပေးဖို့ လိုလာပြန်ပြီ။ ညီမတို့မိသားစု အပေါ်မှာ ကျရောက်နေတဲ့ အပြစ်ဒဏ်ကြီးကို သူဖြေရှင်းဖယ်ရှားပေးနေတယ်လို့ အထင်ရောက်စေဖို့ပဲပေါ့။ ဒီအလုပ်မျိုး ရှာဖို့က မခက်ပါဘူး။ ဒါပေမဲ့ ညီမတို့ကို မျှော်လင့်ချက်ပေးနိုင်တဲ့ စိတ်ကူးတစ်ခုကို ညီမ စဉ်းစားမိတယ်။ ညီမတို့နဲ့ ပတ်သက်တဲ့ ပြစ်မှုအကြောင်း အရာရှိတွေ ကြားမှာ၊ စာရေးတွေကြားမှာ၊ ဒါမှမဟုတ် လူတွေကြားမှာ ပြောလာကြတဲ့ အခါ ဆော်တီနီရဲ့ဆက်သားကို စော်ကားလိုက်တဲ့ အကြောင်းပဲ ပြောကြတယ်။ ဒါ့ထက်မပိုဘူး။

"အဲဒီတော့ ညီမ စဉ်းစားမိတယ်။ လူတွေက ဆက်သားကို စော်ကားတာကိုပဲ ပြဿနာလုပ်နေကြတယ်။ အဲဒါဆိုရင် ဆက်သားကို ကျေနပ်အောင် လုပ်လိုက်ရင် ပြဿနာ ကြီးမသွားနိုင်ဘူးလား။ ညီမတို့ကို ဘယ်ဌာနကမှ စွဲချက်တင်ထားတာ မရှိဘူး။ အဲဒီတော့ ဆက်သားဟာ သူ့သဘောနဲ့သူ ရှိ နေတယ်။ သူနဲ့ ပတ်သက်တာက လွဲလို့ ဘာမှပြဿနာမရှိဘူး။ ဒါကို ရှင်း လိုက်နိုင်ရင် ပြီးသွားပြီပဲ။

"ပထမဆုံးအချက်က ဆက်သားကို ရှာဖို့ပဲ။ အဖေ့ကို ညီမရဲ့စီမံကိန်း ပြောပြတော့ ပထမတော့ သူ မကျေမနပ် ဖြစ်သွားတယ်။ အဖေက တကယ့်ကို တစ်ယူသန်ကြီးပဲ။ သူလုပ်ချင်တာ သူလုပ်ဖို့ပဲ။ သူများပြောတာ လက်မခံ ချင်ဘူး။ သူနားလည်ထား တာက သူ့လုပ်ငန်းအောင်မြင်ရေးမှာ ညီမတို့ ဆွဲထားကြတယ်လို့ပဲ။ ပထမဆုံး သူ့ကို ပိုက်ဆံမပေးကြတော့ဘူး။ နောက်ပြီးတော့ သူ့ကို ခုတင်ပေါ်မှာ သိပ်ထားကြတယ်။ နောက်ပြီးတော့ သူဟာ ဘယ်လိုစိတ်ကူးသစ်မျိုးကိုမှ သဘော မပေါက်နိုင်ဘူး။ ညီမ စကားမဆုံးခင်မှာပဲ ညီမ စီမံကိန်းကို သူ ပယ်ချလိုက်တယ်။ သူ့အလုပ်က ဘာတပ်ရဲ့ နေရာကနေ သွားစောင့်နေဖို့ပဲ။ အဲဒီကို သူ့ဘာသာသွားနိုင်တဲ့ အနေအထား မရှိတော့ ညီမတို့ သူ့ကို လက်တွန်းလှည်းနဲ့ တွန်းပို့ပေးရမယ်။

"ညီမ လက်မလျှော့ဘူး။ တဖြည်းဖြည်းနဲ့ ညီမရဲ့စီမံကိန်းကို အဖေက လက်ခံလာတယ်။ တစ်ခုပဲ သူ ကသိကအောက် ဖြစ်နေတယ်။ ဒီစီမံကိန်းမှာ သူဟာ ညီမအပေါ်မှာ လုံးဝမှီခို အားထားနေရတယ်။ ဘာဖြစ်လို့လဲဆိုတော့ ဆက်သားကို မြင်လိုက်တဲ့လူက ညီမ တစ်ယောက်တည်းပဲ ရှိတာကိုး။ သူက ဆက်သားကို မသိဘူး။ တကယ်တမ်းမှာတော့ ဆက်သားတွေဟာ တစ်ယောက်နဲ့တစ်ယောက် အတူတူလိုပဲ။ ညီမတောင် ဒီဆက်သားကို မှတ်မိပါ့မလားဆိုတာ မသေချာဘူး။ လောလောဆယ်မှာတော့ ညီမတို့ဟာ ဟာ ရင်ဟော့ကိုသွားပြီး အလုပ်သမားတွေထဲမှာ ရှာကြရတယ်။ ဆက်သားဟာ ဆော်တီနီဆီမှာလည်း အမှုထမ်းဖြစ်တယ်။ ဒါပေမဲ့ ဆော်တီနီက ရွာထဲကို မလာတော့ဘူး။ ဒါပေမဲ့

အရာရှိတွေဟာ သူတို့ရဲ့ အလုပ်သမားတွေကို ပြောင်းနေ တတ်တော့ ညီမတို့ရဲ့ဆက်သားကို အခြားအရာရှိတစ်ယောက်ရဲ့ လက်အောက်မှာ တွေ့နိုင်တယ်။ တကယ်လို့ သူ့ကို မတွေ့တဲ့တိုင်အောင် တခြားဆက်သားတွေဆီက နေပြီး သူ့သတင်းကို သိနိုင်တယ်။

"ဒီကိစ္စအတွက် ညီမတို့ဟာ ဟာရင်ဟော့မှာ ညနေတိုင်း ရှိနေဖို့လိုတယ်။ လူတွေက ညီမတို့ကို အဲဒီလိုနေရာမျိုးကိုမဆိုနဲ့၊ ဘယ်နေရာမှာမှ ရှိနေတာ မကြိုက်ဘူး။ နောက်ပြီးတော့ ညီမတို့ဟာ ပိုက်ဆံပေးပြီး စားသောက်သူ အနေနဲ့လည်း ဝင်နိုင်ကြတာ မဟုတ်ဘူး။ ဒါပေမဲ့ သူတို့အနေနဲ့ ညီမတို့ကို အသုံးတည့်တဲ့နေရာ ရှိတယ်။

"အစ်ကိုသိတဲ့အတိုင်းပဲ။ အခိုင်းအစေတွေဟာ ဖရီဒါအတွက် ပြဿနာကြီး တစ်ခုပဲ။ တကယ်တမ်းမှာတော့ သူတို့ဟာ လူအေးတွေပဲ။ ဒါပေမဲ့ သူတို့ဟာ အလုပ်ကလည်း သိပ်မရှိ၊ အခွင့်အရေးလည်း အထူးရကြတယ်။ ]အခိုင်းအစေတစ်ယောက်ကို စည်းစိမ်ရှိပေစေသား} ဆိုတာ အရာရှိတွေ ကြားမှာ အရက်သောက်တဲ့အခါမှာ တိုင်တည်တဲ့ လက်စွဲစကားပဲ။ တကယ်လည်း အမှန်ပဲ။ သူတို့ရဲ့ဘဝက သက်သောင့် သက်သာ နိုင်လွန်းတော့ ရဲတိုက်ကြီးမှာ သူတို့ဟာ တကယ့်ဆရာကြီးတွေပဲ။ အဲဒီမှာက သူတို့က စည်းနဲ့ကမ်းနဲ့ နေကြရတော့ သူတို့သိက္ခာနဲ့ သူတို့ ရှိကြတော့တယ်။ ရွာထဲ မှာတောင် ဒီသဘောကို အရိပ်အငွေ့ တွေ့ကြရတယ်။ ဒါပေမဲ့ အရိပ်အငွေ့ ကလေးပဲ တွေ့ကြရတယ်။ ဘာဖြစ်လို့လဲဆိုတော့ ရွာထဲမှာက ရဲတိုက်ကြီးရဲ့ စည်းမျဉ်း စည်းကမ်းတွေက အပြည့်အဝကြီး ချုပ်ကိုင်မထားလို့ပဲ။ သူတို့ပုံစံက အများကြီး ပြောင်းလဲသွားတယ်။ ထိန်းမနိုင် သိမ်းမရတဲ့လူတွေ ဖြစ် သွားကြတယ်။ စည်းနဲ့ကမ်းနဲ့အစား သူတို့ သဘောနဲ့သူတို့ ဖြစ်သွားကြတယ်။

"သူတို့ရဲ့ ပရမ်းပတာအပြုအမူတွေက အကန့်အသတ် မရှိဘူး။ သူတို့ဟာ အခွင့်အမိန့်မရဘဲနဲ့ ဟာရင်ဟော့ကနေ သွားခွင့်မရလို့သာ ရွာအတွက် သက်သာတော့တယ်။ ဒါပေမဲ့ ဟာရင်ဟော့မှာ ဆိုရင်တော့ လူတစ်ယောက် ဟာ သူတို့နဲ့ အဆင်ချောအောင် အများကြီး ကြိုးစားကြရတယ်။ ဒါကြောင့် မို့လို့ ဖရီဒါဟာ သူတို့ကိုထိန်းဖို့ ညီမကို လွှဲထားတယ်။ နှစ်နှစ်ကျော်ကျော် လောက်မှာ အနည်းဆုံး တစ်ပတ်ကို နှစ်ကြိမ်လောက် ညီမဟာ သူတို့နဲ့ မြင်းဇောင်းထဲမှာ နေရတယ်။ အဲဒီတုန်းက အဖေက ဟာရင်ဟော့ကို သွား နိုင်သေးတယ်။ သူက ယမကာဆောင် တစ်နေရာရာမှာ အိပ်တယ်။ မနက် ပိုင်းမှာ ညီမဆီကရမယ့် သတင်းကို စောင့်တာပဲ။ ဒါပေမဲ့ ညီမက ဘာ သတင်းမှ ဟုတ်တိပတ်တိ မပေးနိုင်ပါဘူး။ အဲဒီအချိန်မှာ ညီမတို့ဟာ ဆက် သားကို ရှာမတွေ့ကြဘူး။ သူက ဆော်တီနီနဲ့အတူ ရှိသေးပုံပဲရတယ်။ ဆော် တီနီက သူ့ကို အများကြီး တင်းထားလို့ပဲ။ ခပ်လှမ်းလှမ်းက ဌာနတစ်ခုကို ဆော်တီနီ ပြောင်းသွား တဲ့နောက်ကို လိုက်ပါသွားပုံ ရတယ်။

"ညီမတို့ကိုယ်တိုင် သူ့ကို နောက်ဆုံး မြင်တွေ့လိုက်ရတဲ့ နောက်ပိုင်းမှာတခြား အခိုင်းအစေ တော်တော်များများဟာ သူ့ကို မတွေ့ကြတော့ဘူး။ တစ်ယောက် နှစ်ယောက်က သူ့ကို တွေ့လိုက်တယ် ဆိုတာလည်း လူချင်း မှားတာပဲ။

"အဲဒီတော့ ညီမရဲ့ စီမံကိန်းဟာ တကယ့်ကို ပျက်စီးသွားပြီ။ ဒါပေမဲ့ လုံးဝ ပျက်စီးသွားတာ မဟုတ်ဘူး။ ဆက်သားကို မတွေ့ဘူးဆိုတာ အမှန်ပဲ။ နောက်ပြီးတော့ ဒီနှစ်အတွင်း ညီမတို့ဟာ ဟာရင်ဟော့ကိုသွားခဲ့တဲ့ အဖေရဲ့ ကျန်းမာရေးဟာ ဆိုးရွားသွားတယ်။ နောက်နှစ်နှစ်ကြာတဲ့ အခါမှာ သူ့ရဲ့ အခြေအနေဟာ အစ်ကို အခုတွေ့မြင်နေရတဲ့ အတိုင်းပါ။ ဒါပေမဲ့ အမေရဲ့ အခြေအနေက သူ့ထက်ကောင်းတယ်။ ဘာဖြစ်လို့လဲဆိုတော့ ညီမတို့ဟာ ဘယ်နေ့ သေမလဲဆိုပြီး နေ့တိုင်း စောင့်ကြည့်နေကြလို့ပဲ။ ဒါပေမဲ့ ဒါကို ကျော်လွှားနိုင်တာက အမာလီယာရဲ့ အရမ်းအရမ်း အစွမ်းကုန် ကြိုးပမ်းကု သမှုကြောင့်ပဲ။

"ဒါပေမဲ့ ညီမအနေနဲ့ ဟာရင်ဟော့မှာ အောင်မြင်မှုရတာကတော့ တစ်နည်း တစ်လမ်းအားဖြင့် ရဲတိုက်ကြီးနဲ့ ဆက်သွယ်မှုရတာပဲ။ အဲဒီလိုပြောလို့ ညီမကို အထင် မသေးပါနဲ့။ ညီမလုပ်ခဲ့တာတွေအတွက် နောင်တမရပါဘူး။ ဘယ်လိုအဆက်အသွယ် မျိုးလဲဆိုတာ အစ်ကို စဉ်းစားလိမ့်မယ်။ အင်း... မှန်ပါတယ်။ တကယ့်အဆက်အသွယ် ကြီးတော့ မဟုတ်ပါဘူး။ ဒီနှစ်နှစ် အတွင်း ရွာထဲကိုလာကြတဲ့ အရာရှိတွေရဲ့ အခိုင်း အစေတွေအားလုံးကို ညီမသိတယ်။ တကယ်လို့ ရဲတိုက်ကြီးကို ညီမသွားခဲ့ရင် ညီမဟာ အဲဒီမှာ လူစိမ်းတစ်ယောက် မဟုတ်တော့ဘူး။

"ဟုတ်ပါတယ်။ သူတို့ဟာ ရွာထဲမှာဆိုရင်တော့ အခိုင်းအစေတွေပဲ။ ရဲတိုက်ကြီး ရောက်တော့ တစ်မျိုး ဖြစ်သွားကြတယ်။ ညီမကိုလည်း မသိတော့ဘူး။ ရွာထဲက တခြား လူတစ်ယောက်ကိုလည်း မသိကြတော့ဘူး။ ရဲတိုက်ကြီးမှာ ပြန်တွေ့ ချင်ပါတယ်လို့ မြင်းဇောင်းမှာ အကြိမ်တစ်ရာ လောက် ကျိန်တွယ်ပြီး ပြောခဲ့စေဦးပေါ့။ နောက်ပြီးတော့ သူတို့ပေးတဲ့ ကတိတွေက တန်ဖိုးမရှိသလောက်ပဲဆိုတာ ညီမမှာ အတွေ့အကြုံရှိပါတယ်။ ဒါပေမဲ့ ဒါဟာ အရေးမကြီးပါဘူး။ ညီမဟာ အခိုင်းအစေတွေက တစ်ဆင့်သာ ရဲတိုက်ကြီးနဲ့ အဆက်အသွယ်ရနိုင်တာ မဟုတ်ပါဘူး။

"ဒါ့အပြင် ညီမ မျှော်လင့်ထားတာက ညီမလုပ်နေတာကို အထက်က တစ်ယောက်က သတိပြုမိ သွားနိုင်တယ်။ အခိုင်းအစေတွေကို အုပ်ချုပ်ရတဲ့ ဌာနက အထူးအရေးကြီးပြီး တကယ် အလုပ်လုပ်တဲ့ ဌာနတစ်ခုပဲ။ ညီမတို့ သတိပြုမိတဲ့လူဟာ ညီမကို တခြားလူတွေထက် ပိုပြီး အရေးပေးနိုင်တယ်။ ညီမဟာ မိသားစုအတွက် တိုက်ပွဲဝင်နေတယ်။ အဖေ့ရဲ့ ကြိုးပမ်းမှုတွေကို ဆက်ပြီး အကောင်အထည် ဖော်နေတယ်လို့ အသိအမှတ်ပြုနိုင်တယ်။

"နောက်ပြီးတော့ ညီမအနေနဲ့ ပိုပြီးအောင်မြင်မှုရတာကတော့

နှစ်ပေါင်းများစွာကြာအောင် စောင့်ဆိုင်းရတဲ့ နည်းနဲ့ မဟုတ်ဘဲနဲ့ ရဲတိုက်ကြီး ဝန်ထမ်းတစ်ယောက် ဖြစ်နိုင်တယ်ဆိုတာပဲ။ အခိုင်းအစေတွေက တစ်ဆင့် အများကြီး သိရတာပဲ။ အဲဒါက အမှန်ပဲ။ အဲဒါကတော့ ဝန်ထမ်းတစ်ပိုင်း ဖြစ်နိုင်တာပဲ။ သူ့မှာ ဘာတာဝန်မှမရှိနိုင်တာပဲ။ သူဟာ အခွင့်အလမ်းတစ် ခုကို မျှော်လင့်နေနိုင်တာပဲ။ တကယ့်ဝန်ထမ်းတစ်ယောက် မရှိတဲ့အချိန်မှာ သူဟာ လုပ်ငန်းတာဝန် တစ်ခုကို ရနိုင်တာပဲ။

"ညီမရဲ့စီမံကိန်းမှာ အဓိကမဏ္ဍိုင်ကတော့ ဗာနေဗက်ပဲ။ အခိုင်းအစေတွေ ရဲ့ ပြောစကားအရဆိုရင် ရဲတိုက်ကြီးမှာ အလုပ်လုပ်တဲ့ လူတစ်ယောက်ဟာ သူ့မိသားစုအတွက် အများကြီး လုပ်ပေးနိုင်တယ်။ အခိုင်းအစေတစ် ယောက်က ကတိပေးတာဟာ ဗာနေဗက် ရဲတိုက်ကြီးကို တခြားကိစ္စ တစ်ခုခုနဲ့ လာခဲ့ရင် သူတို့ ရဲတိုက်ကြီးမှာ အလုပ် ရအောင် ထောက်ခံပေးမယ်လို့ ပြောတယ်။

ဗာနေဗက်ကလည်း ရဲတိုက်ကြီး ဝန်ထမ်းတစ်ယောက် ဖြစ်လာဖို့ စိတ်အား“ ထက်သန်လာတယ်။ ပထမဆုံးတစ်ခေါက် သူ ရဲတိုက်ကြီးကိုသွားပြီး ပြန်လာတော့ အတော်ကလေး ပျော်လာပုံရတယ်။ ဗာနေဗက် ရဲတိုက်ကြီး ကို ပထမဆုံးသွားတဲ့ အခေါက်မှာ အခက်အခဲ နည်းနည်းကလေးပဲ ရှိတယ်။ ပိုပြီး တိတိကျကျပြောရရင် ဌာနဆိုင်ရာ ရုံးခန်းဟာ သူ့ရဲ့ အလုပ် ခန်းဖြစ်တယ်။ ဒီအောင်မြင်မှုအတွက် ညီမဟာ ရူးမတတ် ဝမ်းသာရတယ်။ ဗာနေဗက် အိမ်ပြန်ရောက်လာတဲ့အချိန်မှာ ဒီသတင်းကို ညီမကို တိုးတိုး ကလေး ပြန်ပြောပြတယ်။

"ဒါပေမဲ့ နောက်ရက်တွေမှာတော့ ဘာမှအထူးအထွေ ပြောစရာမရှိဘဲ မမျှော်လင့်တဲ့ ပထမအကြိမ် အောင်မြင်မှုနောက် ဘာမှထပ်ပြီး ဖြစ်မလာတော့ဘူး။ ဒီလိုနဲ့ပဲ ဗာနေဗက်ဟာ ရဲတိုက်ကြီးမှာ သံသရာလည်နေ ရတော့တယ်။

အဲဒီလိုနဲ့ နောက်ဆုံးမှာ အစ်ကို ရွာကိုရောက်ပြီး နောက်တစ်ပတ်ကြာတဲ့“ အချိန်ကို ရောက်လာတယ်။ အစ်ကိုရောက်လာတဲ့ သတင်းကို ဟာရင်ဟော့ မှာ တစ်ယောက်က ပြောတယ်။ မြေတိုင်းစာရေးတစ်ယောက် ရောက်လာ တယ်တဲ့။ ဒီသတင်းကို ညီမ သိပ်ပြီးအရေးမထားဘူး။ မြေတိုင်းစာရေးဆို တာ ဘာလဲဆိုတာလည်း ညီမ မသိဘူး။

ဒါပေမဲ့ နောက်တစ်နေ့ညနေကျတော့ သတ်မှတ်ထားတဲ့အချိန်မှာ ညီမဟာ“ သူနဲ့ တွေ့ရအောင် လမ်းတစ်ဝက်လောက်ကို လမ်းလျှောက်ပြီး ထွက်သွားတယ်။ ဗာနေဗက်ဟာ အခါတိုင်းထက် စောပြီးပြန်လာတယ်။ ဧည့်ခန်းထဲမှာ အမာလီယာ ထိုင်နေတာမြင်တော့ သူက ညီမကို လမ်းအပြင်ကို ဆွဲ ခေါ်သွားတယ်။ ပြီးတော့ ညီမ ပခုံးပေါ်မှာ သူ့ပခုံးကို တင်ပြီး အတော်ကြီးကြာအောင် ငိုတော့တာပဲ။

"သူက ကလေးလေးတစ်ယောက် ပြန်ဖြစ်သွားတယ်။ သူ ဘယ်လိုမှ မျှော် လင့်မထားတာတစ်ခုကို ကြုံတွေ့ရတယ်။ သူ့အတွက် ကမ္ဘာသစ်ကြီးတစ်ခု ပွင့်သွားတဲ့ အတိုင်းပဲ။ ပျော်ရွှင်မှုကို သူ မခံနိုင်ဘူးဖြစ်သွားတယ်။ ဖြစ်ပုံ ကတော့ စာတစ်စောင် သူ သွားပို့ပေးရတယ်။ သူ့အတွက် ပထမဆုံးရတဲ့ စာပဲ။ သူ

ပထမဆုံးရတဲ့ တာဝန်ပဲ"

အော်လင်ဂါက စကားကို ရပ်လိုက်သည်။ ရုံဖန်ရံခါ ထွက်ပေါ်လာတဲ့ လူကြီးနှစ်ယောက်ရဲ့ အသက်ရှူသံက လွဲပြီး အားလုံး တိတ်ဆိတ်နေသည်။ အော်လင်ဂါ၏ဇာတ်လမ်းကို ခြုံငုံသုံးသပ်လိုက်တဲ့ အနေနဲ့ ကေက ပြော လိုက်သည်။

"ညီမတို့အားလုံးက အစ်ကို့ကို တလေးတစား လုပ်နေကြတာပဲ။ ဗာနေဗ က်က တကယ့်ဆက်သားကြီး တစ်ယောက်ပမာ စာကို ယူလာပေးတယ်။ ညီမတို့ကလည်း တကယ်သတင်းကို ပေးပို့တဲ့အတိုင်းပဲ"

"အစ်ကို ညီမတို့ကို ခွဲခြားပြီး ကြည့်ရမယ်။ ဗာနေဗက်ဟာ စာအပေါ်မှာ သံသယရှိပေမဲ့ စာအတွက် ဝမ်းသာနေတယ်။ သူ့ရဲ့သံသယကို ညီမကိုသာ ထုတ်ပြောတယ်။ ဒါပေမဲ့ သူဟာ တကယ့်ဆက်သားကြီး တစ်ယောက်လို ခံစားနေရတယ်။ သူ့ရဲ့ ဘောင်းဘီကို ဆက်သား တစ်ယောက်ရဲ့ ယူနီဖောင်း လိုပြင်ပြီး ချုပ်ပေးလိုက်တဲ့အတွက် သူ စိတ်ခတ်တက်ကြွနေတယ်။ ဒီ ယူနီဖောင်းနဲ့ သူ အစ်ကို့ဆီကို ရောက်လာတာပဲ။

"ဒါ ဗာနေဗက်ရဲ့ အဖြစ်ပဲ။ ဒါပေမဲ့ အမာလီယာကတော့ သူ့ရဲ့ဆက်သား တစ်ယောက်ဘဝကို အထင်သေးတယ်။ အမာလီယာပြောတာ အမှန်ပဲ။ ဒါပေမဲ့ တကယ်လို့ ညီမဟာ ဗာနေဗက်ရဲ့ အလုပ်ကို အထင်သေးခဲ့ရင် ဒါ ဟာ အစ်ကို့ကို လှည့်ဖြားချင်လို့ မဟုတ်ပါဘူး။ စိုးရိမ်ကြောင့်ကြလို့ပါ။ အစ်ကို့ဆီကို ဗာနေဗက် ယူလာတဲ့ စာနှစ်စောင်ဟာ ညီမတို့အဖို့ သုံးနှစ်အတွင်း ရတဲ့ မင်္ဂလာအရိပ်နိမိတ် တစ်ခုပဲ။ ဒီပြောင်းလဲမှုဟာ အစ်ကိုရောက်လာတဲ့ အပေါ်မှာ တည်နေပါတယ်။ ညီမတို့ရဲ့ ကံကြမ္မာ ဟာ အစ်ကို့အပေါ်မှာ တည်နေပါတယ်။ ဒီစာနှစ်စောင်ဟာ အစပဲ ဖြစ်တန်ကောင်းပါတယ်။ လောလောဆယ်မှာ အားလုံးဟာ အစ်ကို့အပေါ်မှာ ဗဟိုပြုနေပါတယ်။

"အခုဆိုရင် ညီမတို့ရဲ့အခြေအနေဟာ အတော်ကလေး ကောင်းမွန်နေပါတယ်။ ဒါပေမဲ့ ရွာထဲမှာတော့ ညီမတို့အခြေအနေ ကောင်းမွန်အောင် အများကြီး လုပ်ရဦးမယ်။ အစ်ကို မကျေနပ်တာမဖြစ်ဖို့ အများကြီး အရေးကြီးတယ်။ ညီမတို့အနေနဲ့ အစ်ကိုနဲ့ ရဲတိုက်ကြီးရဲ့ အဆက်အသွယ် ပြတ်မသွားအောင် ကာကွယ်ပေးရမယ်။ အဲဒီလိုဖြစ်အောင် ညီမတို့အနေနဲ့ အကောင်းဆုံး ဘယ်လိုလုပ်နိုင်သလဲ။ ညီမတို့အပေါ်မှာ သံသယမရှိအောင် လုပ်ရမယ်။ ဘာဖြစ်လို့လဲဆိုတော့ အစ်ကိုဟာ ဒီမှာ သူစိမ်း တစ်ယောက် ဖြစ်တဲ့အတွက် သံသယတွေ အများကြီးရှိနိုင်တယ်။

"နောက်ပြီးတော့ ညီမတို့ကို လူတိုင်းက အထင်သေးနေတယ်။ အဲဒီ သဘောထားတွေက အစ်ကို့ကို လွှမ်းမိုးသွားနိုင်တယ်။ အထူးသဖြင့် အစ်ကို ရဲ့ ရည်းစား ဆီကနေ တစ်ဆင့်ပေါ့။ အဲဒီတော့ ညီမတို့ဟာ မရည်ရွယ်ဘဲနဲ့ အစ်ကို့ရည်းစားကို ဆန့်ကျင်ကြရတယ်။ အဲဒီတော့ အစ်ကို့ကို ဆန့်ကျင်ကြ ရတယ်။

"အကြောင်းကြားစာနှစ်စောင်ကို အစ်ကို မဖတ်ခင် ညီမ ဖတ်ရတယ်။ ဗာ

နေဗက် မဖတ်ရဘူး။ သူက ဆက်သားဆိုတော့ ဖတ်ခွင့်မရှိဘူး။ ဖြုန်းခနဲကြည့်ရင်တော့ သိပ်ပြီး အရေးမကြီးလှဘူး။ ဒါပေမဲ့ သေသေချာချာ ကြည့်ရင်တော့ အစ်ကို့ကို ကျေးရွာဥက္ကဋ္ဌကြီးဆီကို ရည်ညွှန်းထားတယ်"

ထိုအချိန်တွင် တံခါးခေါက်သံ ထွက်ပေါ်လာသည်။

အော်လဂါ တံခါးဆီသို့ ပြေးသွားပြီး ဖွင့်လိုက်သည်။ တံခါးကြားမှ မှန်အိမ် မီးရောင်ဝင်လာသည်။ အချိန်မတော်ကြီး ရောက်ရှိလာသူက ခပ် တိုးတိုးမေးသည်။ ဒီဘက်က ခပ်တိုးတိုးပင် ပြန်ဖြေသည်။ သို့သော် ဧည့်သည်က အဖြေကို ကျေနပ်ဟန် မရှိဘဲ တံခါးကို တွန်းဖွင့်သည်။ အော်လဂါသည် တံခါးကို ကြာကြာတွန်းမထားနိုင် သဖြင့် အမာလီယာကို အကူအညီ တောင်းရသည်။

အမာလီယာသည် ချက်ချင်းပင် ပြေးသွားပြီး အော်လဂါကို ဘေးသို့ တွန်းဖယ်ကာ အပြင်ဘက်သို့ ထွက်သွားသည်။ သူမက အပြင်ဘက်တွင် ခေတ္တမျှ သာ နေပြီးနောက် ပြန်ဝင်လာသည်။

ဧည့်သည်သည် သူ၏ဧည့်သည်ဖြစ်ကြောင်း ကေသည် အော်လဂါမှတစ်ဆင့် သိရသည်။ သူ၏လက်ထောက် တစ်ယောက်ဖြစ်သည်။ ဖရီဒါက အရှာခိုင်းလိုက်ခြင်း ဖြစ်သည်။ အော်လဂါက လက်ထောက်မတွေ့အောင် ကေကို ဝှက်ထားချင်သည်။ ကေသည် နောက်ပိုင်းတွင် ဒီအိမ်သို့သွားကြောင်း ဖရီဒါ ကို ပြောနိုင်သည်။ သို့သော် လက်ထောက်တွေ့သွား၍ မဖြစ်စေချင်။ ယင်း ကို ကေ သဘောတူနိုင်သည်။

သို့သော် ကေသည် ဒီမှာ တစ်ညအိပ်ပြီး ဗာနေဗက် ပြန်လာသည်အထိ စောင့်ရန်ကိုမူ သဘောမတူ။ ဖရီဒါသည် လက်ထောက်တစ်ယောက်ကိုသာ လွှတ်လိုက်သည်။ တစ်ယောက် သူမနှင့် အဖော်အဖြစ် ကျန်နေခဲ့ဟန် တူသည်။

အော်လဂါမှာ ကြာပွတ်တစ်ချောင်းရှိသလားဟု မေးသည်။ သူမမှာ မရှိပါ။ သို့သော် သူမတွင် သစ်အယ်သားတုတ်ကောင်းကောင်းတစ်ချောင်း ရှိသည်။ ယင်းကို သူယူခဲ့သည်။ ထို့နောက် တစ်ဖန် ဤအိမ်မှထွက်နိုင်ရန် အခြား လမ်းကောင်းတစ်ခု ရှိသလားဟု မေးသည်။ ရှိသည်။ တစ်ဖက်ခြံက ဖြတ်ပြီး သွားရသည်။ တစ်ခုပဲ ရှိသည်။ တစ်ဖက်ခြံစည်းရိုးကိုကျော်ပြီး တက်ရ မှာ။ ထို့နောက် လမ်းမသို့ ရောက်သည် အထိ လျှောက်သွားရသည်။

ကေက ထိုလမ်းအတိုင်း သွားရန် ဆုံးဖြတ်လိုက်သည်။ အော်လဂါက ခြံ ဝင်း ထဲသို့ လိုက်ပို့သည်။ သူက သူမ ပြောဆိုသည်များကို စိတ်မဆိုး ကြောင်း၊ သူ့အား ယုံကြည်စိတ်ချစွာ ပြောသည့်အတွက် ကျေးဇူးတင် ကြောင်း၊ ဗာနေဗက် ပြန်ရောက် ရောက်ချင်း ကျောင်းသို့ လွှတ်လိုက်ရန် ပြောသည်။ ဘယ်လောက်ပင် မိုးချုပ်ချုပ် စေလွှတ်လိုက်ရန် ပြောသည်။

ဗာနေဗက်ယူလာသည့် သတင်းများက သူ့အတွက် တစ်ခုတည်းသော မျှော်လင့်ချက် ဖြစ်သည်။ သို့မဟုတ်ပါက သူ့အခြေအနေ ဆိုးရွားသွားပေလိ မ့်မည်။ သည်သတင်းတွေကို သူ ထည့်မတွက်၍ မဖြစ်ပါ။ သည်သတင်းတွေ ကို သူ ထည့်တွက် ရပေမည်။

ထို့နောက် သူသည် အော်လဂါကို မေ့ထား၍ မဖြစ်ပါ။ သတင်းတွေထက် အရေးကြီးသည်က အော်လဂါပင် ဖြစ်သည်။ သူမ၏ရဲရင့်မှု၊ သူမ၏ အသိအမြင်ရှိမှုတို့က အရေးကြီးလှပေသည်။ အကယ်၍ အော်လဂါနှင့် အ မာလီယာကို တွေ့ရမည်ဆိုလျှင် အထူးစဉ်းစားနေစရာပင် မလို။

သို့ဖြင့် သူသည် အော်လဂါ၏လက်ကို ဆုပ်ကိုင်လိုက်ပြီးနောက် တစ်ဖက်ခြံဝင်းပေါ်သို့ လွှဲတင်လိုက်သည်။

လမ်းပေါ်သို့ ရောက်ရှိလာသောအခါ ခပ်လှမ်းလှမ်းတွင် လက်ထောက်သည် ဗာနေဗက်၏ အိမ်ရှေ့တွင် ခေါက်တုံ့ခေါက်ပြန် လျှောက်လျက်ရှိသည်။ ရုံဖန်ရုံခါတွင် သူ ရပ်လိုက်ပြီး အိမ်ထဲသို့ ချောင်းကြည့်နေသည်။

ကေက သူ့ကို လှမ်းခေါ်လိုက်သည်။ သူ လန့်သွားပြီး အိမ်ထဲသို့ ချောင်းကြည့်သည့် အလုပ်ကို စွန့်လွှတ်ကာ ကေထံသို့ လျှောက်လာသည်။

”မင်း ဘယ်သူ့ကို ကြည့်နေတာလဲ“

ကေ ရုတ်တရက် မေးလိုက်သည်။

အကြောင်းမှာ သူ၏လက်ထောက်နှင့် မတူသောကြောင့် ဖြစ်သည်။ သူက အသက်နည်းနည်း ကြီးသည်။ အသားအရေတွေ တွန့်နေသည်။ သူ လမ်းလျှောက်ပုံကလည်း တစ်မျိုးဖြစ်သည်။ လမ်းလျှောက်ပုံက နှေး ကွေးသည်။

ဆရာ ကျွန်တော့်ကို မမှတ်မိဘူးလား။ ဆရာ့လက်ထောက်“

”ဂျာရီမီယာလေ

"အော်... ဟုတ်ပြီ"

ကျောဘက်တွင် ဝှက်ထားသော သစ်အယ်သားတုတ်ကို ထုတ်ရင်း ပြောလိုက်သည်။

"ဒါပေမဲ့ မင်း ပုံစံပြောင်းသွားတယ်”

"ကျွန်တော် တစ်ယောက်တည်း နေတာကိုး။ ကျွန်တော်တစ်ယောက်တည်း နေတဲ့အခါကျတော့ ငယ်ရွယ်စိတ်တွေက ကုန်ကုန်သွား တော့တာပေါ့"

"ဒါနဲ့ အာသာကော" ကေက မေးလိုက်သည်။

"အာသာလား၊ သူ အလုပ်က ထွက်သွားပြီ။ ဆရာက ကျွန်တော်တို့ အပေါ် ကြမ်းတာ ရမ်းတာကိုး။ နူးညံ့တဲ့လူတွေ မခံနိုင်ဘူးပေါ့။ သူ ရဲတိုက်ကြီးကို တိုင်ရအောင် သွားတယ်"

"မင်းကကော"

ကေ မေးလိုက်သည်။

"ကျွန်တော်ကတော့ ဒီမှာနေနိုင်ပါတယ်။ ဒါပေမဲ့ အာသာကတော့ ကျွန်တော့် အတွက်လည်း တိုင်လိမ့်မယ်"

"မင်းတို့က ဘာကို တိုင်ကြမှာလဲ"

ကေ မေးလိုက်သည်။

"ဆရာက နောက်ပြောင်တာကို သည်းမခံနိုင်ဘူး။ ကျွန်တော်တို့ ဘာလုပ်သလဲ။ နည်းနည်းပါးပါး နောက်တယ် ပြောင်တယ်။ ဆရာ့ရည်းစားကို နည်းနည်း ပါးပါး ကျီစားတယ်။ ညွှန်ကြားထားတဲ့ အတိုင်းပဲပေါ့။ ဂါလက် တာက ဆရာ့ဆီကို လွှတ်လိုက်တယ်"

"ဂါလက်တာ၊ ဟုတ်လား"

"ဟုတ်တယ်၊ ဂါလက်တာပဲ။ သူက တစ်ချိန်မှာ ကလမ်ရဲ့လက်ထောက် လုပ်နေတယ်။ သူက ဆရာ့ဆီကို လွှတ်လိုက်တာပဲ။ မြေတိုင်းစာရေးရဲ့ လက်ထောက်တွေအဖြစ် လုပ်နေကြတဲ့ ကျွန်တော်တို့က ပြန်ဖြေတယ်။ အလုပ်အကြောင်း ကျွန်တော်တို့ ဘာမှမသိဘူး။ ဒီတော့ သူက ပြန်ပြောတယ်။ ဒါက အကြောင်းမဟုတ်ဘူးတဲ့။ လိုအပ်ရင် မင်းတို့ကို သူသင်ပေးလိ မ့်မယ်တဲ့။ သူ့ကို အားပေးဖို့ပဲတဲ့။ အစီရင်ခံစာတွေ အရ သိရတာကတော့ သူက ဘာမဆို လေးလေးနက်နက် လုပ်တယ်။ သူ ရွာထဲကို လာတယ်။ သူက အတွေ့အကြုံရှာတယ်။ တကယ်တော့ ဘာမှမဟုတ်ဘူး"

ကေက

"အင်း ဂါလက်တာလုပ်တာ မှန်တယ်။ မင်းတို့အလုပ်တွေကို လုပ်ကြ သလား"

"အဲဒါ ကျွန်တော်မသိဘူး" ဂျာရီမီယာက ပြန်ပြောသည်။ "အချိန်တို ကလေး အတွင်းမှာ မဖြစ်နိုင်ဘူး။ ဆရာက ကျွန်တော်တို့အပေါ်မှာ ကြမ်းတမ်းတယ်။ အဲဒါ အတွက် ကျွန်တော်တို့ တိုင်တန်းကြရတာပဲ။ ဆရာ ဟာ ဘာဖြစ်လို့ အလုပ်ရှင် တစ်ယောက်အနေနဲ့ ဒါတောင် ရဲတိုက်ကြီး အလုပ်ရှင်တစ်ယောက် မဟုတ်ဘူးနော်၊ ဘယ်လောက်ပင်ပန်းတဲ့ အလုပ်ဆို တာ ဘာဖြစ်လို့ မသိရတာလဲ။ အလုပ်သမားတွေကို အင်မတန် ဆင်းရဲ ပင်ပန်းစေတာပဲ။ ကျွန်တော်တို့ကို သံတန်းမှာ သွေးခဲအောင် အေးစေတယ်။ အာသာကို ကောက်ရိုးအိတ်ပေါ်မှာ လဲကျစေတယ်။ ကျွန်တော့်ကို တစ်ညနေလုံး နှင်းတောထဲမှာ ပြေးစေတယ်။ တစ်နာရီလောက်ကြာမှ သက်သာရာ ရတယ်။ ကျွန်တော့်အသက် မငယ်တော့ဘူး"

"အို… ဂျာရီမီယာရယ်" ကေက ပြောလိုက်သည်။ "မင်းပြောတာတွေ မှန် ပါတယ်။ ဒါပေမဲ့ ဂါလက်တာကို တိုင်တန်းသင့်တယ်။ မင်းတို့ကို ဒီကို သူ ပို့ လိုက် တာပဲ။ မင်းတို့ကို ပို့လိုက်ပါလို့ ငါ မပြောဘူး။ ငါ မင်းတို့ကို ပြန်ပို့ပေး တာပေါ့။ ငါ မင်းတို့ကို အကြမ်းပတမ်းနည်းထက် အေးအေးချမ်းချမ်း ဆက်ဆံတာပေါ့။ နောက်ပြီးတော့ မင်းတို့ ငါ့ကို စောစောကတည်းက ဘာ လို့ ပွင့်ပွင့်လင်းလင်း မပြောကြသလဲ"

"ဘာဖြစ်လို့လဲဆိုတော့ ကျွန်တော်တို့ဟာ ဝန်ထမ်းဖြစ်နေလို့ပဲ"

"အခုကော မင်းတို့ဟာ ဝန်ထမ်းဘဝမှာ မဟုတ်ကြဘူးလား"

"ဟုတ်ပါတယ်၊ ဒါပေမဲ့ အာသာက ကျွန်တော်တို့ အလုပ်ထွက်လိုက်ပြီလို့ ပြောပါတယ်။ ဒါမှမဟုတ် လုပ်ထုံးလုပ်နည်းအရ နောက်ဆုံးမှာ ကျွန်တော် တို့ဟာ တာဝန်က ကင်းလွတ် ကြပါလိမ့်မယ်"

"ဒါပေမဲ့ မင်းတို့ဟာ တာဝန်ထမ်းဆောင်နေဆဲ အဖြစ်နဲ့ ငါ့ကို ရှာနေကြ တယ် မဟုတ်လား"

ကေက ပြောလိုက်သည်။

ဂျာရီမီယာက

"မဟုတ်ပါဘူး။ ဖရီဒါ စိတ်ပူမှာစိုးလို့ ဆရာ့ကို ကျွန်တော် လိုက်ရှာနေတာပါ။ ဗာနေဗက်ရဲ့ ညီမဆီကို ဆရာသွားနေတဲ့အခါမှာ သူ အတော် စိတ်မ ကောင်းဖြစ်နေရှာတယ်။ ဆရာ့ကို ဆုံးရှုံးရမှာကြောင့် မဟုတ်ဘူး။ ဆရာက သစ္စာဖောက်တဲ့အတွက်ပါ။ ဒီလိုဖြစ်လာလိမ့်မယ်ဆိုတာ သူ အစောကြီး ကတည်းက မျှော်လင့်ထားတယ်။ အဲဒါ အတွက်လည်း သူ အများကြီး ခံစား နေရတယ်။ ကျွန်တော် ကျောင်းပြတင်းပေါက်ကို တစ်ခေါက် သွားကြည့် သေးတယ်။ ဆရာ မရှိဘူး။ ဖရီဒါတစ်ယောက်တည်း ခုံတန်း လျှားပေါ်ထိုင် ပြီး ငိုနေတယ်။

"ဒါနဲ့ ကျွန်တော် သူ့ဆီကိုသွားပြီး သဘောတူညီမှုတစ်ခု ယူတယ်။ ဟာရင်ဟော့မှာ ကျွန်တော် စားပွဲထိုးလုပ်မယ်။ ကျွန်တော့်ကိစ္စကို ရဲတိုက်ကြီးက ဆုံးဖြတ်တဲ့ အထိပေါ့။ ဖရီဒါက ယမကာဆောင်ကို ပြန်သွားမယ်။ ဒါဟာ ဖရီဒါအတွက် ပိုကောင်းတယ်။ သူဟာ ဆရာ့ဇနီးဖြစ်လာဖို့ အကြောင်းမရှိဘူး။ ဆရာ့အတွက် ဘယ်လိုအနစ်နာခံရမလဲလို့ ပြင်ဆင်ထားတာကို ဆရာနားမလည်ဘူး။ သူဟာ ဆရာ့ အပေါ်မှာ မတရားတာမလုပ်ဘူး။ ဆရာဟာ ဗာနေဗက်မိန်းကလေးနဲ့ အတူရှိမနေဘူးလို့ သူထင်တယ်။ ဒါပေမဲ့ ဆရာ ဘယ်လိုမှ သံသယဖြစ်စရာ မရှိဘူး။ ဒါကြောင့်မို့လို့ သေချာသွားအောင် ကျွန်တော် လိုက်ကြည့်တာပဲ။

ဒါကြောင့် ကျွန်တော်လိုက်ကြည့်တော့ ဆရာ့ကို တွေ့တာပဲ။ တွေ့ရုံတင်“ မကဘူး၊ ဆရာဟာ မိန်းကလေးတွေနဲ့ ချိတ်တွဲနေတယ်။ အထူးသဖြင့် အနက်မ နဲ့ပေါ့။ ဆရာဟာ ခြံချင်းကပ် ဥယျာဉ်လမ်းက ဘယ်ကိုမှ လှည့် ပြီးလာစရာ "အကြောင်း မရှိဘူး

ယင်းသို့ဖြင့် ယခုအခါ ထင်ထားသည့်အတိုင်း အားလုံးဖြစ်လာပေပြီ။ ဘယ်လိုမှ မတားဆီးနိုင်တော့ပါ။ ဖရီဒါက သူ့ကို စွန့်လွှတ်သွားချေပြီ။ သို့သော် အပြီးအပိုင်တော့ မဟုတ်သေးပါ။ သူမအပေါ်တွင် သူစိမ်းတစ် ယောက်က လွှမ်းမိုးလျက် ရှိစေပြီး လက်ထောက် နှစ်ယောက်က လွှမ်းမိုး ထားချေပြီ။ ဗာနေဗက်ညီမတွေထံ သွားရသည့် အကြောင်းရင်းကို ရှင်းပြ နိုင်လျှင် ပြေလည်နိုင်လေသည်။

"မြေတိုင်းစာရေးကြီး၊ မြေတိုင်းစာရေးကြီး"

တစ်စုံတစ်ယောက်က လမ်းမဘက်ဆီမှ အော်ခေါ်နေသည်။

ဗာနေဗက် ဖြစ်သည်။ မောကြီးပန်းကြီး ပြေးလာနေသည်။ သို့သော် ကေ့အား တွေ့မြင်သောအခါ ဦးညွှတ်ပြီး ဂါရဝပြုရန် မမေ့လျော့ပါချေ။

"လုပ်ပြီးသွားပြီ"

"ဘာပြီးသွားတာလဲ။ ကျုပ်ရဲ့မေတ္တာရပ်ခံချက်ကို ကလမ်ဆီကို တင်ပြလိုက်ပြီလား"

ကေက မေးလိုက်သည်။

အဲဒါက မဖြစ်ပါဘူး။ ကျွန်တော် အတတ်နိုင်ဆုံး ကြိုးစားပါတယ်။ ဒါပေမဲ့“

အဲဒီကိစ္စက မဖြစ်နိုင်ပါဘူး။ ကျွန်တော် ဦးစားပေးပြီး လုပ်ပါတယ်။ ကျွန်တော် အဲဒီမှာ တစ်နေ့လုံး ရပ်နေပါတယ်။ ဘာမှ အမေးအမြန်း မခံရပါဘူး။ စားပွဲအနားမှာ ကပ်ပြီး ရပ်နေပါတယ်။ သူ့ရှေ့မှာ ကွယ်ပြီး ရပ်နေလို့ စာရေးတစ်ယောက်က တွန်းထုတ် တာတောင် ခံရပါတယ်။ ကလမ်မော့ကြည့်လို့ ကျွန်တော့်လက်ကို မြှောက်ပြပြီး သတင်းပို့ပါတယ်။ အမှန်အားဖြင့်တော့ အဲဒီလို မလုပ်ရပါဘူး။ တားမြစ်ထားပါတယ်။ ဌာနထဲမှာ ကျွန်တော် တစ်ယောက်တည်း အခိုင်းအစေတွေနဲ့အတူ ကျန်ရစ်ပါတယ်။ ဒါပေမဲ့ ကံကောင်းချင်တော့ ကလမ် တစ်ခေါက် ပြန်ဝင်လာပါတယ်။ ဒါပေမဲ့ ကျွန်တော့် ကိစ္စ လာတာမဟုတ်ပါဘူး။ သူ စာအုပ်ကြီးထဲမှာ ကမန်းကတန်းကြည့်ပြီး ချက်ချင်းပဲ ပြန်ထွက်သွားပါတယ်။ နောက်ဆုံးမှာ ကျွန်တော် မလှုပ်မ ယှက်ကြီး ရပ်နေတော့ အခိုင်းအစေတွေက တံမြက်စည်းနဲ့ကို လှည်းထုတ် ပါတယ်။ ကျွန်တော် ဒါတွေကို ရှင်းပြနေတာဟာ ကျွန်တော့်ရဲ့ ကြိုးပမ်း အားထုတ်မှုနဲ့ ပတ်သက်ပြီး ဘာမှအပြစ်မပြော "နိုင်အောင်ပါပဲ

"ခင်ဗျားရဲ့ကြိုးပမ်းအားထုတ်မှုဟာ ဘာအဓိပ္ပာယ်ရှိသလဲ။ ဘာတစ်ခု ကလေးမှ မအောင်မြင်ပဲ"

"ဒါပေမဲ့ ကျွန်တော် အောင်မြင်တယ်။ ကျွန်တော် ဌာနက ထွက်တော့မယ် အလုပ်... ကျွန်တော် ဌာနလို့ပဲခေါ်တယ်။ စင်္ကြံလမ်းအတိုင်း ကျွန်တော့်ဆီကို ဖြည်းဖြည်းချင်း လျှောက်လာခဲ့တဲ့ လူကြီးမင်းတစ်ယောက်ကို တွေ့ရတယ်။ သူတစ်ယောက်က လွဲလို့ စင်္ကြံလမ်းပေါ်မှာ ရှင်းနေတယ်။ တကယ်တော့ အဲဒီအချိန်က အတော်ကြီးကို နောက်ကျနေပြီ။ ကျွန်တော်က သူ့ကို စောင့်နေဖို့ ဆုံးဖြတ်လိုက်တယ်။ ကျွန်တော် အကြာကြီးစောင့်နေဟန် ဆောင်နေတယ်။ ကျွန်တော်က ဘာပဲဖြစ်ဖြစ် စောင့်ကို စောင့်ရမယ်။ ဒါမှဆရာ့ဆီကို မအောင်မြင်တဲ့သတင်း မသယ်လာရမှာ။ စောင့်ရကျိုး နပ်ပါတယ်။ ဘာဖြစ်လို့လဲဆိုတော့ သူက အာလင်ဂါပဲ။ ဆရာ သူ့ကို မသိဘူးလား။ သူက ကလမ်ရဲ့ အတွင်းရေးမှူးချုပ်တစ်ယောက်ပဲ။ သူက နည်းနည်း ကလေး ထော့နဲ့ ထော့နဲ့ဖြစ်နေတယ်။ သူက ကျွန်တော့်ကို ချက်ချင်းပဲ မှတ်မိတယ်။ သူက လူတွေကို မှတ်မိတဲ့နေရာမှာ မှတ်ဉာဏ် အင်မတန် ကောင်းတယ်။ သူက မျက်ခုံးကို ပင့်ကြည့် လိုက်ရင် လူတွေကို အားလုံး မှတ်မိတယ်။ သူက လူတစ်ယောက်ကို မတွေ့ဖူးပေမဲ့ ကြားဖူးရုံနဲ့ စာထဲမှာ ဖတ်ရရုံကလေးနဲ့တင် မှတ်မိတယ်။ ဥပမာပြောရရင် သူ ကျွန်တော့်ကို တစ်ခါမှ မတွေ့ဖူးဘူး။ ဒါပေမဲ့ သူဟာ လူတိုင်းကို ချက်ချင်းမှတ်မိတယ်။ သူ့ အနေနဲ့ မသေချာတဲ့အနေနဲ့ အရင်ဆုံး သေချာအောင် မေးတယ်။

"မင်း ဗာနေဗက်မဟုတ်လားလို့ ကျွန်တော့်ကို မေးတယ်။ ပြီးတော့ သူ ဆက်ပြီးမှ ပြောတယ်။ မြေတိုင်းစာရေးကြီးကို မင်းသိတယ်မဟုတ်လား။ အဲဒီနောက် သူက ဆက်ပြောတယ်။ အဲဒါ သိပ်ကံကောင်းတယ်။ ငါ အခု ဟာရင်ဟော့ကို

သွားမယ်။ မြေတိုင်းစာရေးကြီးက အဲဒီမှာ ငါ့ဆီကို သတင်းပို့ရမယ်။ အခန်းနံပါတ် ၁၅ မှာ ငါရှိမယ်။ ဒါပေမဲ့ ငါ့ဆီကို သူ အခု ချက်ချင်းလာရမယ်။ ငါ အဲဒီမှာ လုပ်စရာ နည်းနည်းပါးပါးပဲရှိတယ်။ အဲဒါ ကြောင့်မို့လို့ ရဲတိုက်ကြီးကို ငါ မနက် ငါးနာရီ ပြန်သွားမယ်။ ငါ သူ့ကို ပြော စရာကိစ္စ သိပ်အရေးကြီးတယ်လို့ သူ့ကို ပြောလိုက်ပါ"

ချက်ချင်းဆိုသလို ဂျာရီမီယာ အပြေးအလွှား ထွက်သွားသည်။ ဗာနေဗက်သည် စိတ်လှုပ်ရှားနေသဖြင့် သူ့ကို ယခုမှပင် သတိပြုမိသဖြင့် မေးလိုက်သည်။

"ဂျာရီမီယာ ဘယ်ကိုသွားတာလဲ"

"ကိုယ်နဲ့ အာလင်ဂါ မတွေ့အောင် တားမလို့ပဲ"

ကေက ယင်းသို့ပြောလိုက်ပြီး ဂျာရီမီယာနောက် ပြေးလိုက်သွားသည်။ သူ့ ကိုဖမ်းမိပြီး လက်မောင်းကို ချိတ်ထားလိုက်သည်။

"ဖရီဒါအတွက် ဖြုန်းခနဲ စိတ်ကူးပေါက်လို့ မဟုတ်လား။ ငါလည်း အတူတူပဲ။ ဒီတော့ ငါတို့နှစ်ယောက် အတူသွားကြမယ်"

ည မမှောင်မီတွင် ဟာရင်ဟော့ရှေ့တွင် လူတစ်စု ရှိနေသည်။ သူတို့တွင် မှန်အိမ် နှစ်လုံး သုံးလုံး ပါရှိသည်။ သို့ဖြင့် သူတို့မျက်နှာများကို ဟိုနားဒီနားတွင် မြင်သာသည်။အသိတစ်ယောက်ကိုပဲ ကေ မှတ်မိသည်။ စွတ်ဖား သမား ဂါစတက်ကာ ဖြစ်သည်။

ဂါစတက်ကာက သူ့ကို မေးခွန်းတစ်ခုဖြင့် နှုတ်ဆက်သည်။

"ခင်ဗျား ရွာထဲမှာ ရှိနေတုန်းပဲလား"

"ဟုတ်တယ်၊ ကျုပ် ဒီကို အပြီးပြောင်းလာတာပဲ"

"ဒါ ကျွန်တော့်အတွက် အရေးမကြီးပါဘူး"

ထို့နောက် ဂါစတက်ကာ ချောင်းတဟွတ်ဟွတ်ဆိုးကာ တခြားလူတွေဘက်သို့ လှည့်သွားသည်။ သူတို့အားလုံးပင် အာလင်ဂါကို စောင့်နေကြ ခြင်း ဖြစ်သည်။ အာလင်ဂါသည် ရောက်နေပြီဖြစ်သည်။ သို့သော် သူက အခြားသူများနှင့် လက်ခံ မတွေ့ဆုံခင် မိုမက်နှင့် အရင်ဆွေးနွေးနေခြင်း ဖြစ်သည်။ သူတို့က အထဲမှာ မစောင့်ရဘဲ နှင်းတောထဲတွင် စောင့်နေရသည့် အတွက် မကျေမနပ် ဖြစ်နေကြသည်။ ရာသီဥတုက အအေးကြီး မဟုတ်သော်လည်း တည်းခိုခန်းအပြင်ဘက် အမှောင်ထဲတွင် ရပ်နေရသည့် အတွက် ပြောဆိုနေကြခြင်း ဖြစ်သည်။ နာရီပေါင်းများစွာပင် ရပ်နေကြရသည်။ အမှန်တော့ ဒီကိစ္စသည် အာလင်ဂါ၏ အပြစ်မဟုတ်ပါ။ ဒီလိုစီစဉ် ထားခြင်းကို လုံးဝ မသိရှိပါ။ ဒီအကြောင်းကို သူသိခဲ့လျှင် အတော်ကြီးပင်စိတ်မကောင်းဖြစ်ပေလိမ့်မည်။

ဟာရင်ဟော့ တည်းခိုခန်းပိုင်ရှင် အမျိုးသမီးကြီး၏ အပြစ်သာဖြစ်သည်။ သူမက သန့်ရှင်းရေးကို လိုလားသည်။ ဟာရင်ဟော့ကို လူတွေလာလျှင် တစ်ကြိမ်လျှင် တစ်ယောက်သာ လာစေချင်သည်။

"သူတို့လာရင် တစ်ခေါက်သာ လာကြပါလား"

သူမက လာရောက်သူများကို စင်္ကြံလမ်းတစ်ခုတွင်သာ စောင့်စေသည်။ နောက်တော့ လှေကားပေါ်တွင် စောင့်စေသည်။ အဲဒီနောက်မှာတော့ ခန်းမဆောင်ထဲက စောင့်စေသည်။ နောက်ဆုံးကျတော့ ယမကာဆောင်ထဲက စောင့်စေရတော့သည်။ နောက်ဆုံးမှာ လမ်းမပေါ်အထိ ရောက်ကုန်ကြသည်။ ယင်းကို သူမက မကျေနပ်ပါ။ သူမကို လူတွေ အဝိုင်းခံရသည်ဟု ယူဆသည်။ သူမ သဘောမပေါက်နိုင်သည် ကတော့ လာရောက်တွေ့ဆုံ သူများအနေနှင့် ဘာကို စောင့်ဆိုင်း နေကြရသနည်း။

"ရှေ့ခန်းလှေကားထစ်တွေ ညစ်ပတ်ကုန်ပြီ"

အရာရှိတစ်ယောက်က တစ်ခါက သူမကို ပြောဖူးသည်။ သည်စကားကို သူမက အကြိမ်ကြိမ် ကိုးကားပြီး ပြောဆိုသည်။

ဤကိစ္စကို သူမက အတတ်နိုင်ဆုံး ပြေလည်အောင် လုပ်ပါသည်။

ဟာရင်ဟော့ တည်းခိုခန်းနှင့် မျက်နှာချင်းဆိုင်တွင် လာရောက်စောင့်ဆိုင်း သူများ အတွက် နားနေ ဆောင် တစ်ဆောင် ဆောက်ပေးရန်ဖြစ်သည်။ တွေ့ဆုံ မေးမြန်းခြင်းနှင့် စုံစမ်းမေးမြန်းခြင်းတို့ကို ဟာရင်ဟော့၏ အပြင်ဘက်တွင်သာ သူမက ပြုလုပ်စေလိုသည်။ သို့သော် သည်အချက်ကို အရာရှိတွေ က ဆန့်ကျင်ကြသည်။

တည်းခိုခန်း ပိုင်ရှင်အမျိုးသမီးသည် တွေ့ဆုံဆွေးနွေးခြင်းနှင့် စုံစမ်းမေးမြန်းခြင်းတို့ကို ဟာရင်ဟော့ အတွင်းမှာသာ ပြုလုပ်ရမည်။ ရဲတိုက်ကြီးမှ အရာရှိများသည် ရွာထဲတွင် အလုပ်ကိစ္စရှိ၍ လာရောက်ကြ လျှင် သူတို့၏နေရာများကို မပြောင်းလဲလို ကြပါ။ သူတို့က လိုအပ်လျှင် ကမန်းကတန်းကြီးပင် ဖြစ်သည်။ သူတို့က ရွာထဲကို လာချင်လျှင် လာကြသည် မဟုတ်လား။ သူတို့က လိုအပ်တဲ့အချိန်ထက် ပိုပြီး ကြာကြာ မနေချင်ပါ။ ယင်းကြောင့် သူတို့သည် ဟာရင်ဟော့မှနေပြီး အခြားတစ်နေရာသို့ မ ပြောင်းရွှေ့ချင်ပါ။

အရာရှိများသည် သူတို့၏အလုပ်များကို ယမကာဆောင်၊ သူတို့၏ အခန်း များထဲတွင်သာ လုပ်လိုကြသည်။ ဖြစ်နိုင်လျှင် သူတို့သည် စားရင်းသောက် ရင်းနှင့် လုပ်ကိုင်လိုကြသည်။ သို့မဟုတ် ညဘက် အနားမယူခင် အိပ်ရာထဲတွင် လုပ်လို ကြသည်။ သို့မဟုတ် မနက်ဘက် အတော်ကြီး ပင်ပန်း နွမ်းနယ်နေသော အခါကျမှသာ လုပ်လိုကြသည်။ သို့သော် တည်းခိုခန်းပိုင်ရှင် အမျိုးသမီးကြီး၏ နားနေဆောင်တစ်ခု ဆောက်လုပ်ရေးသည် သူ့လူတွေအတွက် ရယ်စရာတစ်ခုပင် ဖြစ်နေတော့သည်။ သို့သော် ဟာရင်ဟော့ ခန်းမဆောင်သည် မည်သည့်အခါတွင်မှ အားလပ်သည် မရှိတော့ချေ။

စောင့်နေသော လူအုပ်ကြီးသည် စကားကို တိုးတိုးသာ ပြောကြသည်။ ညအချိန်တွင် တွေ့ဆုံရန် အာလင်ဂါက ဆင့်ခေါ်သည်ကို မကျေနပ်ကြသော်လည်း မည်သူကမျှ မဆန့်ကျင်ကြပါ။ သူက သည်လို လိုချင်သည်ဆို လျှင် သူတို့က ကျေးဇူးပင် တင်နေကြသည်။ အမှန်အားဖြင့်တော့ သူက သည်အလုပ်ကို လက်ထောက်အတွင်းရေးမှူး တစ်ယောက်နှင့် လွှဲထားလျှင် ဖြစ်နိုင်သည်။ သို့သော် သူက ယင်းသို့ မပြုလုပ် ပါချေ။ သူက အားလုံးကို ကိုယ်တိုင်တွေ့ချင် ကြားချင်သည်။ သူက သည်ကိစ္စအတွက် ညဘက်တွင်အချိန်ပေးထားသည်။

ထိုစဉ် အိမ်ရှေ့တံခါး ပွင့်လာပြီး မှန်အိမ်ကိုင်ထားသော အခြွေအရံနှစ် ယောက် ကြားတွင် မိုမက် ပေါ်လာသည်။

"အာလင်ဂါဆီကို ပထမဆုံးဝင်ရမယ့်သူ နှစ်ယောက်။ ဂါစတက်ကာနှင့် ကေတို့ပဲ ဖြစ်တယ်။ သူတို့နှစ်ယောက် ဒီမှာရှိကြသလား"

သူတို့က ရှိကြောင်း သတင်းပို့ကြသည်။ သို့သော် သူတို့ မဝင်ရမီမှာပင် ဂျာရီမီယာက...

ကျွန်တော်က ဒီမှာ စားပွဲထိုးတစ်ယောက်ပဲ" ဟု ဆိုကာ“

ရှေ့သို့တက်သွားသည်။ မိုမက်က အပြုံးဖြင့် ပခုံးကို ပုတ်ကာ နှုတ်ဆက်လိုက်သည်။

{ဂျာရီမီယာကို အထူးသတိထားပြီး ကြည့်နေမှ}

ကေ စိတ်ထဲမှ ပြောလိုက်သည်။ သို့သော် တစ်ချိန်တည်းမှာပင် ကေ တွေး လိုက်မိသည်က ဂျာရီမီယာက အာသာလောက် ကြောက်စရာ မကောင်း ချေ။ အာသာက သူ့အား ရဲတိုက်ကြီးတွင် ဆန့်ကျင်လျက်ရှိသည်။

မိုမက်ကို ကေ ဖြတ်ကျော်သွားသောအခါ မိုမက် ယခုမှပင် ကေ့အား တွေ့ မြင်သည့် အလား

"ဪ... မြေတိုင်းစာရေးကြီးပါလား။ အရင်က အစစ်ဆေးမခံချင်တဲ့လူ က အခုမှ အရေးတကြီး အစစ်ဆေးခံနေပြီ။ ကျုပ် မေးတဲ့အချိန်တုန်းကသာ ဖြေခဲ့ရင် အများကြီးလွယ်ကူမယ်။ အင်း အခုတော့ ကြားနာမှုကို ခံယူဖို့ အများကြီး ခက်ခဲ သွားပြီ"

ဒီစကားများကြောင့် ကေ ရပ်တန့်လိုက်သည်။

မိုမက်က...

"ဝင်သွားပါ ဝင်သွားပါ၊ ခင်ဗျားဆီက အဖြေကို ကျွန်တော် နောက်ပိုင်းမှလိုအပ်လိမ့်မယ်နဲ့ တူတယ်"

သို့သော် ကေက ပြန်ပြောလိုက်သည်။

"ခင်ဗျားက ခင်ဗျားကိစ္စပဲ တွေးနေတာပဲ။ တစ်ယောက်ယောက်ရဲ့ ရုံးခန်း မှာ ကျုပ် ဘယ်တော့မှ၊ ဘာမှဖြေမှာမဟုတ်ဘူး"

မိုမက်က

"ဒါဆိုရင် ဘယ်သူ့ဆီမှာလို့ ခင်ဗျားထင်သလဲ။ အခု ဒီမှာ ဘယ်သူလဲပဲ ဆို တာသိသလား။ ခင်ဗျား သတိထားပါ"

ခန်းမဆောင်ထဲသို့ ရောက်သောအခါ အစောင့်တစ်ယောက်က သူတို့ကို လမ်းဟောင်းအတိုင်း ခေါ်ဆောင်သွားသည်။ ယခင် ကေ သွားခဲ့ဖူးသော လမ်းပင် ဖြစ်သည်။ ခြံဝင်းကိုဖြတ်ပြီး အောက်ကို နိမ့်ဆင်းသွားသော လမ်းကြောင်းကလေး အတိုင်း ဖြစ်သည်။ အထက်ထပ် အခန်းများသည် အထက်တန်း အရာရှိကြီးများ၊ အတွင်းရေးမှူးများအတွက် ထားဟန်ရှိသည်။ အာလင်ဂါသည် အထက်တန်းအရာရှိ တစ်ဦးဖြစ်သည့်တိုင် စကြံ လမ်းပေါ်က အခန်းများသည် အခြားသူများအတွက် ဖြစ်ဟန် ရှိသည်။

အစောင့်က မှန်အိမ်ကို ငြိမ်းလိုက်သည်။ ဤနေရာတွင် လျှပ်စစ်မီးရောင် လင်းနေပြီ ဖြစ်သည်။ အနည်းငယ် သေးငယ်သော်လည်း အားလုံးပင် အကျအန ဖြစ်သည်။ အကောင်းစား ဖြစ်သည်။ စင်္ကြံလမ်းသည်ပင် အတော်ပင် မြင့်မားနေသဖြင့် ခေါင်းငုံ့ပြီး လျှောက်စရာမလိုပေ။ နှစ်ဖက် စလုံးပင် တံခါးတွေသည် တစ်ခုနှင့် တစ်ခု ထိမတတ်ဖြစ်သည်။ နံရံတွေသည် မျက်နှာကြက်နှင့် ထိမနေပါ။ လေဝင်ပေါက် ထားရှိဟန် တူသည်။ အခန်းများသည် မြေအောက်ခန်းသဖွယ် နိမ့်နေသဖြင့် ပြတင်းပေါက်များ မရှိပါ။ တစ်ခုပဲရှိနေသည်။

အခန်းတွေ ဆူညံနေသည်။

အခန်းတွေ အားလုံးလောက်ပင် လူတွေရှိနေကြသည်။ လူတွေအားလုံး လောက်ပင် နိုးနေကြသည်။ အသံတွေ ကြားနေရသည်။ တူထုသံတွေ၊ ဖန်ခွက်ချင်း ထိခတ်သံတွေ ဖြစ်သည်။ သို့သော် စကားသံတွေက အော်ကြီးဟစ်ကျယ်မဟုတ်။ တိုးတိုးညင်ညင်သာဖြစ်သည်။ ဟိုနေရာက စကားတစ်ခွန်း၊ ဒီနေရာက စကား တစ်ခွန်း ကြားနေရသည်။ စကားပြော နေကြသံမျိုး မဟုတ်ပါ။ တစ်စုံတစ်ယောက်က နှုတ်မှ ပြောနေပုံမျိုး၊ တစ် ယောက်တစ်ယောက်က ခပ်ကျယ်ကျယ်ကလေး စာဖတ်နေပုံမျိုး ဖြစ်သည်။

အတိအကျပြောရလျှင် အခန်းတွေဆီမှ ဗွန်းသံ၊ ပန်းကန်သံများမှတစ်ပါး ဘာစကားတစ်ခွန်းမှ မကြားရပါ။ ဆူညံသံများသည် အရာရှိတစ်ယောက် အနေနှင့် လက်သမားအလုပ်ကို လုပ်နေဟန်ရှိသည်။ နမူနာအင်ဂျင် သို့မဟုတ် တစ်ခုခု လုပ်နေ ပုံမျိုးဖြစ်သည်။

စင်္ကြံလမ်းထဲတွင်ကား သိုးမွေးအင်္ကျီဝတ်ထားသော အသားဖြူ ရော်ရော် အရပ်မြင့်မြင့် ပိန်ပိန်ပါးပါး လူကြီးတစ်ယောက်မှတစ်ပါး မည်သူမျှမရှိချေ။ သိုးမွေး အင်္ကျီကြီးအောက်တွင် ညဝတ်အင်္ကျီများကို မြင်တွေ့ရသည်။ ၎င်းသည် တံခါးပေါက် တစ်ခု အပြင်ဘက်တွင် ထိုင်နေသည်။ အခန်းထဲတွင် သူ ဝတ်ထားသော အဝတ်တွေနှင့် မွန်းကျပ်နေပုံရသည်။ သို့ဖြင့် သူသည် အခန်းအပြင်ဘက်တွင် ထွက်ထိုင်ပြီး သတင်းစာ တစ်စောင်ကို ဖတ် နေသည်။ သို့သော် စိတ်ပါလက်ပါ ဖတ်သည်မဟုတ်ဘဲ ဟိုလှန် သည်လှန် လုပ်နေသည်။ ရံခါရံခါတွင် သူ သမ်းဝေလိုက်ပြီး သတင်းစာဖတ်သည်ကို ရပ်နားပြီး စင်္ကြံလမ်းအတိုင်း လှမ်းမျှော်ကြည့်နေသည်။ သူသည် တွေ့ဆုံရ မည့် သူတစ်ယောက်ကို စောင့်မျှော်နေဟန်ရှိသည်။ ထိုသူကို ဖိတ်ခေါ်ထား ပြီး သူက မလာသေးဘဲရှိနေသည်။ ထိုပုဂ္ဂိုလ်၏ရှေ့မှ သူတို့ ဖြတ်သွားသောအခါ အစောင့်က ဂါစတက်ကာကို ပြောသည်။

"သူက ပင်ရော်ဂါပဲ"

ဂါစတက်ကာက ခေါင်းညိတ်လိုက်ပြီး

"သူ ဒီကိုမလာတာ အတော်ကလေး ကြာသွားပြီ"

"သိပ်မကြာသေးပါဘူး"

အစောင့်က ပြန်ပြောလိုက်သည်။

နောက်ဆုံးတွင် သူတို့သည် တံခါးတစ်ခုရှေ့တွင် ရပ်လိုက်ကြသည်။ ထို တံခါးသည် အခြားတံခါးများနှင့် သိပ်မထူးခြားလှပေ။ ထို့ကြောင့် အစောင့် က အာလင်ဂါ၏ တံခါးဖြစ်ကြောင်း ပြောလိုက်ရသည်။ အစောင့်က ကေကို ဆွဲမပြီး တံခါးပေါက်ကြားကနေ အခန်းထဲကို ကြည့်စေသည်။

"သူ ခုတင်ပေါ်မှာ လှဲနေတယ်။ သူ့အဝတ်အစားတွေနဲ့ပဲ။ ဒါပေမဲ့ သူ အိပ် နေတာအမှန်ပဲ။ သူ အဲဒီလိုပဲ ပင်ပန်းနွမ်းနယ်ပြီး အိပ်ပျော်နေတတ်တယ်။ ရွာထဲမှာ

ဒီလိုပဲ အိပ်ပျော်နေလေ့ရှိတယ်။ ကျွန်တော်တို့ စောင့်နေကြရ မယ်"

အစောင့်က ပြောလိုက်သည်။

"သူနိုးရင် သူ ဘဲလ်တီးလိမ့်မယ်။ ရွာထဲမှာနေတုန်း သူ ဒီလိုပဲ အိပ်နေ လိမ့်မယ်။ အိပ်ရာကနိုးရင် ရဲတိုက်ကြီးကို သူချက်ချင်းပဲ သွားလိမ့်မယ်။ သူက လုပ်အားပေးတဲ့ အနေနဲ့ ဒီမှာအလုပ်တွေကို လုပ်ပေးတာပဲ"

ဂါစတက်ကာက

"သူအိပ်နေရင် ကောင်းတယ်။ သူ နိုးလာလို့ရှိရင် သူ့မှာ အလုပ်ချိန် နည်းနည်းကလေး ရမယ်။ သူ အိပ်ပျော်သွားတဲ့အတွက် သူ တော်တော်ကလေး ကသိကအောက် ဖြစ်သွားမယ်။ အဲဒီတော့ အလုပ်တွေကို ကမန်းကတန်း လုပ်ရမယ်။ အဲဒီတော့ သူ့မှာ စကားပြောချိန် နည်းနည်းကလေးပဲ ရမယ်"

ခင်ဗျားက အဆောက်အအုံသစ်အတွက် ကန်ထရိုက် ရလို့ လာတာမဟုတ်လား" ပစ္စည်းတွေရအောင်

အစောင့်က မေးလိုက်သည်။ ဂါစတက်ကာက ခေါင်းညိတ်သည်။ အစောင့်ကို ဘေးသို့ ဆွဲဖယ်၊ ခပ်တိုးတိုးလေး ပြောသည်။ သို့သော် အစောင့်က နားထောင်မနေတော့ဘဲ ဂါစတက်ကာကို ကျော်ပြီး ကြည့်သည်။ သူက ဂါစတက်ကာထက် ခေါင်းတစ်လုံး ပိုမြင့်သည်။ သူ့ဆံပင်ကို ခပ်ဖြည်းဖြည်းနှင့် အလေးအနက် ပွတ်သပ်လျက် ရှိသည်။

ထို့နောက် ဘာရယ်လို့မဟုတ်ဘဲ ပတ်ဝန်းကျင်ကို ကြည့်လိုက်ရာ ဖရီဒါကို ခပ်လှမ်းလှမ်း စကြံလမ်းထောင့်တစ်နေရာတွင် ကေ တွေ့မြင်ရသည်။ သူမက သူ့ကို မမှတ်မိသလိုမျိုးနှင့် သူ့ကို ဂရုမထားဟန်ဖြင့် ငေးစိုက်ပြီး ကြည့်နေသည်။ သူမက လက်တစ်ဖက်တွင် ပန်းကန်လွတ်တွေ တင်ထားသော လင်ပန်းတစ်ချပ်ကို ကိုင်ထားသည်။ အခိုင်းအစေ တစ်ယောက်ကို သူက ပြောသည်။ သို့သော် ထိုသူသည် သူဘာပြောပြော စိတ်ဝင်စား ဟန်မပြချေ။ နောက်ဆုံးတွင် သူ အခုပဲ ပြန်လာခဲ့မည်ဆိုပြီး ဖရီဒါထံသို့ ပြေးသွားသည်။

သူမထံသို့ရောက်ရှိသော မိမိပိုင်ပစ္စည်းကို ပြန်လည်ရရှိသည့်အလား သူမ၏ ပခုံးကို ဖက်လိုက်သည်။ ထို့နောက် သူမကိုကြည့်ရှုရင်း အရေးမ ကြီးသော မေးခွန်းကို မေးကြားသည်။ သို့သော် သူမ၏ တောင့်တောင့်ကြီးရှိ နေသော ကိုယ်ခန္ဓာက ပျော့ပျောင်း သွားမည့်ပုံစံ မရှိချေ။ သူမ၏ ရှုပ်ထွေး နေသော စိတ်အခြေအနေကို ဖုံးကွယ်ကာ လင်ပန်းပေါ်မှ ပန်းကန်များကို ပြန်စီရင်း ပြောလိုက်သည်။

"ရှင် ကျွန်မဆီက ဘာလိုချင်လို့လဲ။ သူများတွေဆီကို ပြန်သွားပါ။ အို... ဘယ်သူတွေဆိုတာ ရှင်သိပါတယ်။ ရှင် သူတို့ဆီက လာတယ်ဆိုတာ ကျွန်မ သိပါတယ်"

ကေ ချက်ချင်းပင် နည်းဗျူဟာ ပြောင်းလိုက်သည်။ ရှင်းလင်းချက်များကို ချက်ချင်း ပြုလုပ်ရန် အသင့်။ အဆိုးဆုံးအခြေအနေမှ စတင်ရန် အသင့်။

"ညီမ ယမကာဆောင်ထဲမှာ ရှိနေမယ်လို့ထင်တာ"

ကေက ပြောလိုက်သည်။ ဖရီဒါက သူ့အား အံ့အားသင့်စွာ ကြည့်လိုက်သည်။ ထို့နောက် အားနေသော လက်တစ်ဖက်နှင့် သူ့မျက်ခုံးနှင့် ပါးများကို ပွတ်သပ် လိုက်သည်။ သူ၏ပုံပန်းသဏ္ဍာန် မည်သို့ရှိနေသည်ကို မေးနေသည့်အလား ဖြစ်သည်။ သူ၏ မူလ ရုပ်သွင်ကို ပြန်လည် အမှတ်ရနေဟန် ဖြစ်သည်။

"ညီမကို ယမကာဆောင်ကို ပြန်ခေါ်ထားပြီ"

သူမက ဖြည်းလေးစွာ ပြန်ပြောလိုက်သည်။ သူမ ပြောသည်မှာ အရေးမ ကြီး သကဲ့သို့ ဖြစ်သည်။ သို့သော် နောက်ထပ်ပြောသော စကားများက ကေ အတွက် အထူးအရေးကြီးသော စကားများဖြစ်သည်။

"ညီမကို ယမကာခန်းကို ပြန်ခေါ်ကြတယ်" နောက်ဆုံးတွင် သူမက ဖြည်း လေးစွာ၊ သူပြောသည်မှာ ဘာမှ အရေးမကြီးသလို ပြောသည်။ သို့သော် သူမ၏စကားတွေက အရေးကြီးသည်။ "ဒီအလုပ်က ညီမလုပ်ရမယ့် အလုပ် မဟုတ်ဘူး။ သန့်ရှင်းရေး အလုပ်သမတစ်ဦး ဘယ်သူမဆို လုပ်နိုင်တယ်။ ဒါပေမဲ့ ယမကာခန်းမှာက အရေး ကြီးတယ်။ တည်းခိုခန်းပိုင်ရှင်က ညီမကို

ပြန်ခေါ်ရတဲ့အတွက် ဝမ်းသာနေတယ်။ ညီမက ဒီမှာ ယာယီပဲ။ ပက်ပီက တောင်းပန်တယ်။ သူမက ယမကာခန်းက ချက်ချင်းထွက်သွားပြီး အရှက်မ ကွဲပါရစေနဲ့တဲ့။ ဒါနဲ့ ညီမတို့ သူ့ကို ၂၄ နာရီ အချိန်တိုးပေးထားတယ်"

"ဒါ အင်မတန်ကောင်းတဲ့ အစီအစဉ်ပဲ။ ဒါပေမဲ့ ညီမဟာ ယမကာခန်းကို တစ်ကြိမ် စွန့်လွှတ်ခဲ့ပြီ။ အခုလည်း မကြာခင် အစ်ကိုနဲ့ လက်ထပ်တော့မ ယ့် ညီမဟာ ယမကာခန်းမှာ ပြန်လုပ်နေပြီလား"

ကေက ပြောလိုက်သည်။ ဖရီဒါက

"လက်ထပ်စရာအကြောင်း မရှိတော့ဘူး"

"ဘာလဲ၊ အစ်ကိုက ညီမအပေါ်မှာ သစ္စာမရှိလို့လား"

ကေက မေးလိုက်သည်။

ဖရီဒါက ခေါင်းညိတ်သည်။

ဒါဆိုရင် ဒီမှာ ဖရီဒါ၊ ညီမဟာ အစ်ကို သစ္စာမရှိတဲ့အကြောင်း အမြဲတမ်း“ ပြောတယ်။ ဒါပေမဲ့ နောက်ဆုံးကျတော့ ညီမရဲ့စွပ်စွဲချက်ဟာ မမှန်ကန်ဘူးဆိုတာ ဝန်ခံရတာပဲ မဟုတ်လား။ အခုလည်း အစ်ကို့ဘက်ကတော့ ဘာမှ မပြောင်းလဲပါဘူး။ အစ်ကိုဟာ ပထမအကြိမ်ကအတိုင်း အပြစ်ကင်းစင်ပါတယ်။ အမြဲတမ်းလည်း ဒီအတိုင်း ရှိနေမှာပဲ။ ဒါပေမဲ့ ညီမဘက်က တစ်ခုခု အပြောင်းအလဲရှိရင် သူစိမ်းတစ်ယောက်ယောက်က ဖြစ်စေ၊ ဒါမှမဟုတ် တခြား တစ်ယောက်ယောက်က ပြောလာလို့ရှိရင်၊ အစ်ကို ဒီမိန်းကလေး နှစ်ယောက်နဲ့ ဘယ်လို ဆက်ဆံတယ်လို့ပြောရင် ညီမ မှားတာပဲ။ ညီမနဲ့ ပတ်သက်ပြီး အစ်ကို့မှာ ရှင်းစရာတွေ အများကြီးရှိတယ်။ ဒါပေမဲ့ ညီမက ရှင်းခွင့်မပေးဘူး။ ညီမနဲ့ ပတ်သက်လာရင် ညီမ မကျေနပ်သလို အစ်ကိုလည်း မကျေနပ်ဘူး။ သူနဲ့ပတ်သက်ပြီး အစ်ကို တတ်နိုင်သမျှ ဝေးဝေးနေတယ်။ သူက "ခပ်ဝေးဝေးနေပါတယ်။ သူ့ဘာသာသူ ခပ်ဝေးဝေးနေပါတယ်

"အခိုင်းအစေတွေကတော့ တစ်မျိုး ပြောကြတယ်"

"အခိုင်းအစေတွေ သဘောကျတဲ့အတိုင်း ပြောမှာလား ဖရီဒါ"

ဖရီဒါ နှုတ်ဆိတ်နေသည်။ ကေက လင်ပန်းကို သူမ၏လက်ထဲမှ ယူပြီး ကြမ်းပြင်ပေါ်တွင် ချထားလိုက်သည်။ ထို့နောက် လက်ချင်းတွဲချိတ်ပြီး စကြံလမ်း ထောင့်တစ်နေရာတွင် ဖြည်းလေးစွာ ခေါက်တုံ့ခေါက်ပြန် လျှောက်နေကြသည်။

"သစ္စာစောင့်သိမှုဆိုတာ အစ်ကို နားမလည်ဘူး။ အစ်ကိုနဲ့ အမျိုးသမီးရဲ့ဆက်ဆံရေးက ဒါလောက် အရေးမကြီးဘူး။ အစ်ကို သူတို့အိမ်ကိုသွားပြီး အစ်ကို့ရဲ့ အဝတ်အစားတွေပေါ်မှာ သူတို့ရဲ့ မီးဖိုချောင်နံ့တွေ စွဲပြီး ပြန်လာ တာကို ညီမ ဘယ်လိုမှ သည်းမခံနိုင်ဘူး။ ပြီးတော့ အစ်ကိုက အပြေးအလွှား ထွက်သွားတာကို ဘာတစ်ခွန်းမှ ပြောမသွားဘူး။ နောက်ပြီးတော့ သူတို့နဲ့ ညဝက်လုံးလုံး နေတယ်။ နောက်ပြီးတော့ အစ်ကို့ကိုမေးတဲ့ အခါကျတော့ သူတို့က မရှိဘူးလို့ ငြင်းတယ်။ အထူးသဖြင့် ဘာသိ ဘာသာ နေတဲ့ အမျိုးသမီးက

ပိုငြင်းတယ်။ အိမ်ထဲကနေပြီး လှျို့ဝှက်လမ်းကနေ တိတ်တိတ်ကလေးထွက်တယ်။ အမျိုးသမီးတွေ နာမည်မပျက်အောင်ပေါ့။ ဒီအကြောင်း တွေ မပြောကြပါနဲ့"

"ဟုတ်တယ်။ ဒီအကြောင်းတွေ မပြောကြပါနဲ့ဦး" ကေက ပြောလိုက်သည်။

"တခြားအကြောင်းတွေ ပြောကြရအောင် ဖရီဒါ။ နောက်ပြီးတော့ ဒီအကြောင်းတွေနဲ့ ပတ်သက်ပြီး ဘာမှလည်း ပြောစရာမရှိတော့ဘူး။ အဲဒီကို အစ်ကို ဘာကိစ္စနဲ့ သွားတယ် ဆိုတာ ညီမ သိတယ်မဟုတ်လား။ ကနေ့ည ဆိုရင် ကိုယ် အဲဒီကိုသွားတာ ဗာနေဗက် ပြန်လာလားဆိုတာ သိရအောင် တစ်မိနစ်လောက်ပဲ သွားတာ။ သူ့မှာ ကိုယ့်အတွက် အရေးကြီးတဲ့ သတင်း တစ်ခု ယူလာဖို့ရှိတယ်။ သူ ရောက်မလာဘူး။ ဒါပေမဲ့ သူ မကြာခင်မှာပဲ လာလိမ့်မယ်။ လာဖို့ရှိတယ်။ သူ ဒီကို လိုက်မလာစေချင်ဘူး။ သူလာတဲ့ အတွက် ညီမကို စော်ကားရာ ရောက်မှာစိုးလို့ပဲ။ ဒါပေမဲ့ စောင့်ရင်းစောင့် ရင်း အချိန် တွေက ကြာသွားပြီး သူ ရောက်မလာဘူး။

"ဒါပေမဲ့ နောက်တစ်ယောက်တော့ လာတယ်။ အစ်ကိုမုန်းတဲ့ လူတစ်ယောက်ပဲ။ သူက အစ်ကို့ကို စုံစမ်းထောက်လှမ်းမှာကို အစ်ကို မကြိုက်ဘူး။ အဲဒါကြောင့် တစ်ဖက် ခြံကနေ ကိုယ် ထွက်လာတာပဲ။ ဒါပေမဲ့ ကိုယ် သူ့ကို ပုန်းနေဖို့ စိတ်မကူးဘူး။ လမ်းမပေါ်ရောက်တဲ့ အခါမှာ ကိုယ် သူ့ကို ပွင့်ပွင့်လင်းလင်းပဲ သွားတွေ့တယ်။

အင်း... ကိုယ့်မှာ သစ်အယ်သား ကိုင်းတစ်ကိုင်းတော့ ပါသွားတယ်ဆိုတာ ဝန်ခံပါတယ်။ ဒီအကြောင်းနဲ့ပတ်သက်လို့ အကုန်ပဲ။ နောက်ထပ် ဘာမှပြောစရာ မရှိတော့ဘူး။ ဒါပေမဲ့ တခြား အကြောင်းတွေ ပြောစရာတော့ အများကြီးပဲ။

"လက်ထောက်တွေကိစ္စ။ သူတို့နာမည်ကိုပြောရင် ဟိုမိသားစုနာမည် ညီမ ကြားရတဲ့ အတိုင်းပဲ၊ အော့နှလုံးနာတယ်။ သူတို့နဲ့ ညီမဆက်ဆံရေး၊ အစ်ကိုနဲ့ ဟိုမိသားစု ဆက်ဆံရေး နှိုင်းယှဉ်ကြည့်ပါ။ ဗာနေဗက်မိသားစုကို ညီမ မနှစ်မြို့တာ အစ်ကို နားလည်လို့ရတယ်။ ဒါက သူတို့ဆီကို အစ်ကို သွားလည်တဲ့အတွက်ပဲ။ ဒါပေမဲ့ ညီမနဲ့ လက်ထောက်နှစ်ယောက်ကိစ္စ။ သူတို့က ညီမကို အနိုင့်အထက် ဆက်ဆံတယ် ဆိုတာကို ညီမ တစ်ခါမှမငြင်းဘူး။ ဒါပေမဲ့ ညီမက သူတို့ကို ဆွဲဆောင်မှုရှိတယ် ဆိုတာကို ဝန်ခံတယ်။

"အဲဒီအတွက် ညီမကို အစ်ကို စိတ်မဆိုးပါဘူး။ အဲဒါတွေကို ညီမ တွန်းလှန် နိုင်တယ်လို့ အစ်ကို ယူဆတယ်။ ညီမဘက်က အစ်ကို ကာကွယ်တယ်။ ညီမကို ယုံကြည်တဲ့အတွက် သူတို့နဲ့ နာရီအနည်းငယ်ပဲ ထားခဲ့တယ်။ အိမ်ကိုလည်း သေသေချာချာ သော့ခတ်ထားခဲ့တယ်။ ဒါပေမဲ့ လက်ထောက်တွေက ထွက်ပြေးကြတယ်။ ဂျာရီမီယာဆိုရင် သူ့ကို သေသေချာချာကြည့်ရင် ကျန်းမာရေးမကောင်းတဲ့ လူကြီး တစ်ယောက် ဖြစ်တယ်။ ပြတင်းပေါက်ကို ဖောက်ထွက်တယ်။ အဲဒီအတွက် အစ်ကို ညီမ ကို ဆုံးရှုံးရတယ်။ {လက်ထပ်ဖို့ကိစ္စ မဖြစ်နိုင်ဘူး} ဆိုတဲ့စကားကို ကြားရတယ်။ အစ်ကိုဟာ မကျေနပ်စရာကောင်းတဲ့ လူတစ်ယောက်မို့လား။ အစ်ကို အဲဒီလိုမျိုး မလုပ်ခဲ့ပါဘူး"

ကေသည် ဖရီဒါ၏စိတ်ကို ပြောင်းလဲသည့် အနေဖြင့် သူ့အား စားစရာ တစ်ခုခု ယူလာပေးရန် သူမကို ပြောသည်။ သူ နေ့ခင်းကတည်းက ဘာမှမစားရသေးပါ။ ကေ၏တောင်းဆိုမှုကြောင့် စိတ်အနည်းငယ် သက်သာရာရ သွားဟန်ဖြင့် ဖရီဒါ ခေါင်းညိတ်ပြီး တစ်ခုခုယူရန် ပြေးသွားသည်။ စကြံ လမ်းအတိုင်း အဝေးကြီးမသွားရပါ။ ကေ ခန့်မှန်းထားသည့်အတိုင်း မီးဖိုချောင်ရှိရာ လက်ဝဲဘက်သို့ အနည်းငယ်မျှသာဖြစ်သည်။

အမဲသားအလွှာ အနည်းငယ်နှင့် ဝိုင်တစ်ပုလင်း ဖြစ်သည်။ သို့သော် ယင်းတို့သည် စားကြွင်းစားကျန်များ ဖြစ်သည်။ အမဲလွှာများကို ဖုံးကွယ်သည့်အနေဖြင့် ပြန်ကြော်ထားသည်။ ဝိုင်ပုလင်းက လေးပုံတစ်ပုံခန့်သာရှိသည်။ သို့သော် ကေ ဘာမျှမပြောပါ။ ယူလာသော အစားအစာများကို မြိန်ရေရှက်ရေ စားသောက်သည်။

"မီးဖိုချောင်မှာ နေသလား"

ကေက မေးလိုက်သည်။

"ဟင့်အင်း၊ ညီမအခန်းထဲမှာ နေတယ်။ ဒီမှာ ညီမရဲ့အခန်းရှိတယ်"

"ညီမအခန်းကို ခေါ်သွားပါလား။ အစ်ကို အခုသွားမယ်။ အဲဒါဆိုရင် စားရင်းသောက်ရင်း ခဏထိုင်ရတာပေါ့"

"ညီမ ကုလားထိုင်တစ်လုံး သွားယူခဲ့မယ်"

ဖရီဒါက ယင်းသို့ပြောပြီး ထသွားမည်ပြုသည်။

"နေပါစေ၊ ကိုယ် အခန်းကိုလည်း မသွားဘူး၊ ကုလားထိုင်တစ်လုံးလည်း မလိုအပ်ဘူးပေါ့"

ဖရီဒါက ခေါင်းညိတ်လိုက်ပြီး နှုတ်ခမ်းကို တင်းတင်းစေ့လိုက်ကာ

"သူ အခု အခန်းထဲမှာ ရှိနေတယ်။ သူက ညီမအိပ်ရာပေါ်မှာ လှဲနေတယ်။ သူက အအေးမိနေတယ်။ သူ ခိုက်ခိုက်တုန်နေတယ်။ သူ ဘာမှမစားဘူး။ အဲဒါ အရင်းစစ်လိုက်တော့ အစ်ကို့အပြစ်ပဲ။ အစ်ကိုသာ သူ့ကို အစ်ကို့လူတွေဆီ အသွား မခိုင်းဘူးဆိုရင် သူဟာ အခုဆို ကျောင်းခန်းထဲမှာ သက် သောင့်သက်သာ ရှိနေမယ်။ ညီမတို့ရဲ့ပျော်ရွှင်မှုကို အစ်ကို ဖျက်ဆီးတာပဲ။ ဂျာရီမီယာဟာ အလုပ်ထဲမှာရှိနေရင် ညီမကို ခေါ်သွားရဲပါ့မလား။ ဒီမှာဖြစ် နေတာတွေကို အစ်ကို နားလည်မှု လွဲတာပဲ။

"သူ ညီမကို လိုချင်တယ်။ သူ့ကိုယ်သူ ညှဉ်းပန်းတာပဲ။ သူ ညီမကို စောင့် ကြည့်နေတယ်။ ဒါပေမဲ့ ဆာလောင်ငတ်မွတ်နေတဲ့ ခွေးတစ်ကောင်ဟာ စားပွဲပေါ်ကို ခုန်ပြီး ဟပ်ရဲပါ့မလား။ ညီမလည်း ဒီအတိုင်းပဲ။ ညီမက သူ့ကို သံယောဇဉ် ရှိနေတယ်။ သူဟာ ညီမနဲ့ ကလေးဘဝကတည်းက ကစားဖော် ကစားဖက်ပဲ။ ညီမတို့ဟာ ရဲတိုက်ကြီးရဲ့ တောင်ခြေလျှောပေါ်မှာ ဆော့ ကစားကြတယ်။ အင်မတန် ပျော်စရာကောင်းတဲ့ အချိန်တွေပဲ။ အစ်ကိုဟာ ညီမရဲ့ နောက်ကြောင်းကို ဘာတစ်ခုမှ မစုံစမ်းခဲ့ဘူး။ ဒါပေမဲ့ ဂျာရီမီယာကို သူ့လုပ်ငန်းတာဝန်က ဟန့်တားခဲ့တာ မဟုတ်ဘူး။ ညီမဟာ အစ်ကိုနဲ့ လက်ထပ်မယ့် ရည်းစားတစ်ယောက်

ဆိုတာ သိခဲ့တယ်။ ဒါပေမဲ့ အစ်ကို ဟာ..လက်ထောက်တွေကို မောင်းထုတ်ခဲ့ပြီး အစ်ကိုဟာ ညီမအတွက် တစ်ခုခုလုပ်ခဲ့တဲ့ ပုံစံပဲ။ တစ်နည်းပြောရရင်တော့ အဲဒါဟာ မှန်ပါတယ်။

အစ်ကိုရဲ့စီမံကိန်းဟာ အာသာနဲ့ ပတ်သက်သမျှအထိတော့"
"အောင်မြင်ပါတယ်။

"ဒါပေမဲ့ လောလောဆယ်ပဲ။ သူက ပျော့ညံ့တတ်တယ်။ နောက်ပြီးတော့ ဘာကိုမှ မကြောက်တဲ့ ဂျာရီမီယာရဲ့ စွဲလမ်းမှုမျိုး မရှိဘူး။ နောက်ပြီးတော့ အဲဒီညက အစ်ကို ကျွေးလိုက်တဲ့ ညစာကြောင့် သူ့ရဲ့ကျန်းမာရေး အတော်ထိခိုက်သွားတယ်။ အဲဒါဟာ ညီမရဲ့ပျော်ရွှင်မှုကိုလည်း အနှောင့် အယှက် ပေးလိုက်တာပဲ။ ဒါကြောင့်မို့ သူ ရဲတိုက်ကြီးကို တိုင်တန်းရအောင် ထွက်လာတာပဲ။ တကယ်လို့ သူပြန်လာလို့ ရှိရင်လည်း တစ်ခါ ပြန် ထွက်ပြေးဦးမှာပဲ"

"ဒါပေမဲ့ ဂျာရီမီယာကတော့ ရှိနေဦးမှာပဲ။ သူက ဝန်ထမ်းဘဝမှာရှိနေရင် သူ့ဆရာကို သူ ကြောက်နေဦးမှာပဲ။ ဒါကြောင့် သူ လာပြီး ညီမကို ခေါ်တာပဲ။ အစ်ကိုက စွန့်ပစ်ထားတဲ့အတွက် ညီမရဲ့ မိတ်ဆွေဟောင်းကို ညီမ မ ငြင်းဆန်နိုင်တော့ဘူး။ ကျောင်းတံခါးကို ညီမ သော့ဖွင့်မပေးပါဘူး။ သူက ပြတင်းပေါက်ကို ရိုက်ခွဲပြီး ညီမကို သယ်ထုတ်တာပဲ။ ညီမတို့ ဒီကို ပြေး လာကြတယ်။ တည်းခိုခန်းပိုင်ရှင်က သူ့ကို ကြည့်တယ်။ သူ့လို စားပွဲထိုး တစ်ယောက်ကို မငြင်းဆန်နိုင်ဘူး။ ညီမတို့ကို လက်ခံတယ်။ သူ ညီမနဲ့ အတူမနေဘူး။ ဒါပေမဲ့ ညီမတို့ တစ်ခန်းတည်းမှာ နေကြတယ်"

ကေက...

"အားလုံးခြုံပြီး ပြောရရင်တော့ လက်ထောက်နှစ်ယောက်ကို အလုပ်က ထုတ်ပစ်လိုက်တဲ့ အတွက် ကိုယ် ဝမ်းမနည်းဘူး။ ညီမပြောတဲ့အတိုင်း ညီမ ရဲ့ သစ္စာ ရှိမှုကို လက်ထောက်နှစ်ယောက်ကို အခိုင်းအစေတွေနဲ့ ဆုံးဖြတ်ခဲ့ ရင် အဲဒါ နိဂုံးချုပ် သွားတဲ့အတွက် ကောင်းတဲ့အလုပ်ပဲ။ အိမ်ထောင်ရေး ဘဝတစ်ခု ပျော်ရွှင်မှုအတွက် တိရစ္ဆာန်နှစ်ကောင်ကို ကိုယ့်ရဲ့ကြာပွတ်နဲ့ ထိန်းကျောင်းရတာဟာ အရေးမကြီးပါဘူး။ ဒီမိသားစုဟာ ကိုယ်တို့ကို မ ရည်ရွယ်ဘဲနဲ့ ခွဲပေးတဲ့အတွက် ကျေးဇူးတောင် တင်ရဦးမယ်"

သူတို့ နှုတ်ဆိတ်သွားကြသည်။ သူတို့နှစ်ယောက် ဘေးချင်းယှဉ်ပြီး ခေါက်တုံ့ခေါက်ပြန် လျှောက်ကြပြန်သည်။ ကေ၏အနီးတွင် ရှိနေသော်လည်း ကေက လက်မောင်းချင်း မတွဲချိတ်တော့သဖြင့် ဖရီဒါ အနှောင့် အယှက် ဖြစ်နေသည်။

ကေက...

"အဲဒီတော့ အားလုံး နေသားတကျဖြစ်သွားပြီပေါ့။ ကိုယ်တို့ ခွဲခွာကြပြီပေါ့။ ညီမဟာ ဂျာရီမီယာဆီကို သွားပေါ့။ ကိုယ် သူ့နောက်ကို ဥယျာဉ်ထဲမှာလိုက်ကတည်းက သူ အအေးမိတာပေါ့။ ညီမက သူ့ကို

တစ်ယောက်တည်း ပစ်ထားခဲ့တာပေါ့။ ကိုယ်ကတော့ ဗလာကျင်းနေတဲ့ ကျောင်းခန်းကို ပြန်သွားရုံပေါ့။ ညီမ မရှိတော့တဲ့နေရာကို ပြန်သွားရမှာပေါ့။ ဒါမှမဟုတ် ကိုယ့်ကိုလက်ခံတဲ့ တစ်နေရာရာကိုပေါ့"

"ဂျာရီမီယာဟာ လုပ်ငန်းထဲမှာ ရှိနေဦးမယ်ဆိုရင်တော့ ညီမနောက်ကို တကောက်ကောက် ပါနေရမှာပေါ့။ ဒါပေမဲ့ သူဟာ လုပ်ငန်းက ထွက်လိုက် ပြီဆိုရင်တော့ ဒါဟာ တစ်မျိုး ဖြစ်သွားတာပေါ့။ ညီမဟာ သူ့ဆရာရဲ့ ရည်းစားတစ်ယောက် မဟုတ်တော့ဘူးပေါ့။ ညီမဟာ သူနဲ့ ငယ်သူငယ်ချင်းတွေ ဖြစ်ပေလိမ့်မယ်။ ဒါပေမဲ့ ကိုယ်ကတော့ ညက သူနဲ့ ခဏကလေးပဲ စကားပြောမှ သိရတယ်။ သူ့ကို ဘာဖြစ်လို့ ညီမအနေနဲ့ သံယောဇဉ်ငြိတွယ် ရတာလဲ။ ကူညီနေရတာလဲ။ ကိုယ့်အမြင်မှာတော့ ဆန့်ကျင်ဘက်ပဲ"

ဖရီဒါက သူမ၏လက်သီးဆုပ်နှစ်ခုကို စားပွဲပေါ်သို့ ထုလိုက်ရင်း

"အစ်ကို ဘာလို့ သူ့ကို မဟုတ်တမ်းတရမ်း သိက္ခာချနေရတာလဲ"

ကေက…

"သိက္ခာချတယ်၊ ဟုတ်လား။ အစ်ကို သူ့ကို သိက္ခာမချချင်ပါဘူး။ သိက္ခာချရတဲ့ အကြောင်းရင်း တစ်ခုပဲရှိပါတယ်။ ညီမ သူ့ကို ချစ်နေတယ်ဆိုတာ ကို တိုက်ဖျက် ဖို့ပဲ။ အဲဒါဟာ လိုအပ်ပြီး သိက္ခာချတယ်ဆိုတဲ့ စကားလုံးဟာ အသင့်တော်ဆုံးဖြစ်ရင် ကိုယ် သူ့ကို သိက္ခာချဖို့ ဝန်မလေးဘူး။ ဘယ်သူက မှ ကိုယ့်ကို ဒီအတွက် အပြစ်တင်မှာ မဟုတ်ဘူး။ အဲဒီတော့ ညီမရဲ့ လက်သီးဆုပ်တွေကို ပြန်ချထားလိုက်ပါ"

ထို့နောက် ကေက ဖရီဒါ၏လက်များကို ချုပ်ကိုင်လိုက်သည်။ ဖရီဒါက သူ့ လက်များကို ရုပ်သိမ်းရန် ကြိုးစားသည်။ သို့သော် ပြုံးပြုံးကလေးဖြင့် ဖြစ်သည်။

ကေက ဆက်ပြောသည်မှာ

"ကိုယ် သူ့ကို သိက္ခာချဖို့ မလိုပါဘူး။ ဘာဖြစ်လို့လဲဆိုတော့ ညီမ သူ့ကို မချစ်ပါဘူး။ ညီမက ချစ်နေတယ်လို့ ထင်တာပါ။ ညီမအနေနဲ့ ထင်ယောင်ထင်မှား ဖြစ်နေရာကနေ လွတ်ကင်းအောင် လုပ်ပေးတဲ့အတွက် အစ်ကို့ကို ညီမ ကျေးဇူးတင်မှာပါ"

ဖရီဒါက သူမ၏ခေါင်းကို ကေ၏ပခုံးပေါ်တွင် မှီလိုက်သည်။

သူတို့၏ လက်များက တစ်ယောက်ကိုတစ်ယောက် ဖက်ထားကြသည်။ သူတို့သည် တိတ်ဆိတ် စွာပင် ခေါက်တုံ့ခေါက်ပြန် လျှောက်နေကြသည်။

"အဲဒီညကသာ…"

အတန်ကြာသောအခါ ဖရီဒါက ဖြည်းလေးစွာဖြင့်၊ တည်ငြိမ်စွာဖြင့် ပြောသည်။ ကေ၏ ပခုံးပေါ်တွင် ခေါင်းမှီထားရသည်။ အထူးပင် ခံစား နှစ်ခြိုက်ရသည့်အလားပင် ဖြစ်သည်။

"အဲဒီညကသာ ညီမတို့ တစ်နေရာရာကို ဖြုန်းစားကြီး ထွက်သွားလိုက် ကြရင် ညီမတို့ဟာ အခုနေဆိုရင် အင်မတန်ကို ငြိမ်းချမ်းသာယာနေကြပြီ။

အစဉ်ထာဝရ အတူတူရှိနေကြပြီး၊ အစ်ကို့လက်ကို ညီမ အမြဲတမ်း ဆုပ်ကိုင်ထားနိုင်ပြီ။ အစ်ကို့ရဲ့ အဖော်မွန်ဘဝကို ညီမ ဘယ်လောက်တောင် လိုအပ်နေသလဲ။ အခုတော့ အစ်ကို့ရဲ့ ပေါင်းဖော်မှုကို ဆုံးရှုံးရပြီ။ ညီမကို ယုံပါ။ အဲဒါဟာ ညီမရဲ့ တစ်ခုတည်းသော အိပ်မက်ပါ။ ဒါကလွဲလို့ ညီမမှာ တခြားမျှော်မှန်းချက် မရှိပါဘူး"

ထိုစဉ်မှာပင် ဘေးဘက်စင်္ကြံဆီမှ တစ်စုံတစ်ယောက်က ခေါ်လိုက်သည်။ ဂျာရီမီယာ ဖြစ်သည်။ သူက အောက်ဆုံး လှေကားထစ်ပေါ်မှာ ရပ်နေသည်။ သူက ရှပ်အင်္ကျီနှင့် ဖြစ်သည်။ သို့သော် ဖရီဒါ၏တဘက်ကို လည်ပင်းမှာ ပတ်ထားသည်။ သူ့ဆံပင်တွေက ပွယောင်းနေသည်။

မုတ်ဆိတ်မွေးတွေက ရှည်နေသည်။ သူ့မျက်လုံးတွေက တောက်ပပြီး ဖြစ်သည်။ ဖြူရော်နေသော ပါးပြင်က ပျော့တွဲနေသည်။ အဝတ် အစားမရှိသော ခြေထောက်တွေက တုန်ယင်နေသည်။ ဆေးရုံက ထွက်ပြေးလာသော လူနာတစ်ယောက်နှင့် တူသည်။ သူ့ကိုကြည့်ရသည်မှာ အိပ်ရာထဲမှာ ပြန် သိပ်ထားဖို့ ကောင်းသည်။

ဖရီဒါလည်း ယင်းကဲ့သို့ပင် တွေးမြင်ဟန်ရှိသည်။ သူမ၏ကိုယ်ကို ကေ ထံမှ ခွာလိုက်ပြီး ဂျာရီမီယာ အနီးသို့ စက္ကန့်ပိုင်းအတွင်းမှာပင် ရောက် ရှိသွားသည်။ သူမက သူ့လည်ပင်းမှ တဘက်ကို ပိုပြီး တင်းတင်းစည်း ပေးလိုက်သည်။ သူမက သူ့ကို အခန်းတွင်းသို့ ပြန်တွန်းသွင်းသည်။ သူက အားပြန်ပြည့် သွားဟန်ရှိသည်။

သူက ယခုမှ ကေကို မှတ်မိဟန်ဖြင့်

"ဟာ... မြေတိုင်းစာရေးကြီးပါလား" သူက ဖရီဒါ၏ပါးပြင်ကို ပွတ်သပ် ရင်း ပြောလိုက်သည်။ "အခုလို ကြားဖြတ်ရတာ ခွင့်လွှတ်ပါ။ ကျွန်တော် နေ မကောင်း ဖြစ်နေလို့ပါ။ ကျွန်တော် အဖျားတက်နေတယ်နဲ့ တူတယ်။ ကျွန်တော် လက်ဖက်ရည်သောက်ပြီး အချိုကလေး စားလိုက်မှနဲ့ တူတယ်။ ကျောင်းဝင်းထဲမှာနေရတာ အရိုး ခိုက်သွားတယ်နဲ့တူတယ်။ အဲဒီနောက် ကျွန်တော် တစ်ညလုံး ပြေးရလွှားရတယ်။ ဒါပေမဲ့ မြေတိုင်းစာရေးကြီး ကျွန်တော့်ကြောင့် အနှောင့်အယှက် မဖြစ်ပါနဲ့။ ကျွန်တော် တို့နဲ့အတူ အခန်းထဲကို ဝင်ခဲ့ပါ။ လူမမာ မေးလှည့်ပါဦး။ တစ်ချိန်တည်းမှာပဲ ဖရီဒါကို ဆရာ ပြောစရာတွေရှိတာ ပြောပါ။ တစ်ယောက်ကိုတစ်ယောက် အပြီးအပိုင် နှုတ်ဆက်ကြပါဦး။ ဆရာတို့မှာ နောက်ဆုံးအနေနဲ့ ပြောစရာ တွေ အများကြီး ရှိပါ လိမ့်မယ်။ ဝင်ခဲ့ကြပါ၊ ကျွန်တော် ဘာမှ ဝင်မပြောပါဘူး"

ဖရီဒါက

"တော်လောက်ပါပြီ၊ တော်လောက်ပါပြီ။ သူ အဖျားတက်နေ သူ ဘာ တွေ ပြောနေတယ်ဆိုတာ မသိပါဘူး။ ဒါပေမဲ့ အစ်ကို ကေ၊ အစ်ကို အထဲကို မလိုက်ခဲ့ပါနဲ့။ အစ်ကို မလိုက်ခဲ့ဖို့ ညီမ တောင်းပန်ပါတယ်။ ဒီအခန်းက ညီမနဲ့ ဂျာရီ မီယာတို့ရဲ့အခန်းပဲ။ ဒါမှမဟုတ် ညီမအခန်းနဲ့ ညီမ တစ်ယောက်တည်းရဲ့ အခန်းပဲ။

ညီမတို့နဲ့ အတူလိုက်မလာဖို့ ညီမ တားမြစ် ပါတယ်။ အစ်ကို ညီမအပေါ် အမြဲတမ်း ရက်စက်တယ်။ အို ကေရယ် ဘာ ဖြစ်လို့ ညီမအပေါ် အမြဲတမ်း ရက်စက်ရတာလဲ။ အစ်ကို့ဆီကို ညီမ ဘယ်တော့မှ ဘယ်အခါမှ ပြန်မလာတော့ဘူး။ အဲဒါကို စဉ်းစားရင် ညီမ တစ်ကိုယ်လုံး သိမ့်သိမ့်တုန်သွားတယ်။

"အစ်ကို့အမျိုးသမီးတွေဆီကို ပြန်ပါ။ သူတို့ဟာ အစ်ကိုနဲ့အတူ မီးဖိုရှေ့မှာ အလှည့်ကျ ထိုင်ကြတယ်။ ညီမကို ဒီအတိုင်းပဲပြောကြတယ်။ တကယ်လို့ တစ်ယောက်ယောက်က အစ်ကို့ကို လာခေါ်လို့ရှိရင် ပြင်းပြင်းထန်ထန် ပြောထုတ်တယ်။ အဲဒီမှာက အစ်ကို့အိမ်လိုပဲ။ အဲဒီနေရာကို အစ်ကို သိပ်ပြီး စွဲလမ်းလို့ပဲ။ အစ်ကို အဲဒီနေရာကို မသွားအောင် ညီမ အများကြီး ကြိုးစားတယ်။ ဒါပေမဲ့ မရဘူး။ ဒါပေမဲ့ အမြဲတမ်း တားခဲ့တာပဲ။ အခုတော့ ဒါတွေ ဟာ အတိတ်မှာ ကျန်ရစ်ခဲ့ပြီ။ အစ်ကို အခု လွတ်လပ်သွားပြီ။

"အစ်ကို့ရဲ့အနာဂတ်မှာ အင်မတန် ဖြောင့်ဖြူးသာယာတဲ့ ဘဝခရီးလမ်း ရှိနေတယ်။"

တစ်ယောက်နဲ့ကတော့ နည်းနည်းပါးပါး ကတောက်ကဆဖြစ်တာ ရှိနေတယ်။ ဒါပေမဲ့ နောက်တစ်ယောက်နဲ့ ကတော့ ဘာမှပြဿနာမရှိဘူး။ မငြင်းပါနဲ့ အစ်ကို၊ အစ်ကို ဘယ်လိုမှကို မဟုတ်ဘူးဆိုတာကို မငြင်း နိုင်ပါဘူး။ ဂျာရီမီယာ တစ်ယောက်ပဲ မဟုတ်ဘူးဆိုတာကို သက်သေပြနိုင် တယ်"

သူတို့နှစ်ယောက် သဘောတူစိတ်တူ ဖြစ်သည့်အလား ပြုံးလိုက်ကြသည်။ ဖရီဒါက ဆက်ပြောသည်။

"ဒါပေမဲ့ မဟုတ်ဘူးဆိုတာကို သက်သေပြနိုင်တယ် ထားဦး၊ ကိုယ့်အတွက် ဘာအကျိုး ရှိနိုင်သလဲ။ အဲဒီအိမ်မှာ ဘာတွေဖြစ်နေတယ် ဆိုတာ က သူတို့ပြဿနာပဲ။ သူ့ပြဿနာပဲ။ ကိုယ့်အလုပ်က သူ့ကို နေကောင်း အောင် ပြုစုဖို့ပဲ။ သူဟာ တစ်ကြိမ်မက ကိုယ့်အတွက် အများကြီး အနှိပ် စက် အညှဉ်းပန်း ခံခဲ့ရတယ်"

"ဒါဆိုရင် မြေတိုင်းစာရေးကြီး တကယ်ပဲ လိုက်မလာဘူးလား"

ဂျာရီမီယာက မေးလိုက်သည်။

သို့သော် ယခုအခါ သူ့ကို ဖရီဒါက ဆွဲခေါ်သွားသည်။ သူမက ကေ့အား လှည့်၍ပင် မကြည့်ချေ။

အောက်ဘက်တွင် တံခါးပေါက်ကလေး တစ်ခုရှိသည်။ စင်္ကြံလမ်းက တံခါး ပေါက်ထက် နိမ့်သည်။ ဂျာရီမီယာ မဆိုထားဘိ၊ ဖရီဒါပင် ခေါင်းငုံ့ပြီး ဝင်ရသည်။ အတွင်းဘက်တွင် လင်းနေသည်။ နွေးနေသည်။ တီးတိုးပြော သံတွေ ကြားရသည်။ ဂျာရီမီယာကို ချော့သိပ်သည့်အသံ ဖြစ်သည်။ ထို့နောက် တံခါးပိတ်သွားသည်။

ဤတွင် ရဲတိုက်ကြီးဝတ္ထု ဂျာမန်ဘာသာဖြင့် ပထမအကြိမ်ပုံနှိပ်ခြင်း ပြီးဆုံးချေပြီ။

ဂျာမန်ဘာသာမှ အင်္ဂလိပ်ဘာသာသို့ ဝီလာနှင့် အက်ဒွင်မြူယာတို့ ပြန်ဆိုသည်။

※※※

ယခု ဆက်လက်ဖော်ပြထားသည်မှာ ပထမအကြိမ် ပုံနှိပ်ပြီးနောက် ကပ်ဖကာ၏ စာရွက်စာတမ်းများ ထဲတွင် တွေ့ရှိရသော မူကွဲများ၊ အပိုင်းအစများ၊ စာရေးသူက ချန်ထားခဲ့သော စာပိုဒ်များကို အယ်ဒီတာ မက်ဗရော့က တည်းဖြတ် ထည့်သွင်းဖော်ပြ ထားခြင်းဖြစ်သည်။ အင်္ဂလိပ်ဘာသာသို့ အိုက်သင်ဝီလကင်နှင့် အားနက်ကိုင်ဆာတို့က ပြန်ဆိုသည်။

※ ※ ※

ယခုအခါတွင် ကေ သတိပြုမိသည်မှာ စောစောပိုင်းက ဆူညံနေသော အများပြည်သူတို့ နေထိုင်ရာ အခန်းများဖြစ်သည့် စင်္ကြံလမ်းရှည်ကြီး တစ်လျှောက်လုံး ငြိမ်သက်တိတ်ဆိတ် နေခြင်းပင် ဖြစ်သည်။ လူကြီးမင်း များအားလုံး အိပ်ကုန်ကြပြီ ဖြစ်သည်။ ကေလည်း အတော်ကြီး ပင်ပန်း နွမ်းနယ်နေပြီ ဖြစ်သည်။ အမှန်အားဖြင့်တော့ ဂျာရီမီယာကို ရင်ဆိုင်သင့်ပါ လျက်နှင့် ရင်မဆိုင်ခဲ့သော ပင်ပန်းနွမ်းနယ်မှုကြောင့် ဖြစ်တန်ရာသည်။ ဂျာ ရီမီယာက အရိပ်ပြသည်ကို အကောင်မထင်ခဲ့သော သူ၏ တွေးခေါ် မြော်မြင်ရာ ကျလွန်းခြင်းပင်ဖြစ်သည်။ အမှန်အားဖြင့်တော့ ဂျာရီမီယာသည် ဘယ်လိုမှ ကုသ၍ မရသော ရောဂါဖြစ်သည့် ဝမ်းတွင်းပါရောဂါ ဖြစ်သည်။ ဒါကို အရိပ်ပြရာ အကောင် မထင်ခဲ့သဖြင့် ပင်ပန်းနွမ်းနယ်သွား ရခြင်း ဖြစ်သည်။ တကယ်တော့ ဂျာရီမီယာက ဒါကို အသုံးချပြီး ယှဉ်ပြိုင်မှုတွင် ထောက်ခံစာနာမှုကို အရယူသွားခြင်းဖြစ်သည်။

ကေသည် အထူးပင် ပင်ပန်းနွမ်းနယ်နေသဖြင့် အခန်းတစ်ခုခုကို သွားရလျှင် ကောင်းမလားဟု စဉ်းစားနေသည်။ အခန်းတစ်ခုခုသည် အားနေမည် အမှန်ပင် ဖြစ်သည်။ အိပ်ရာကောင်းကောင်း တစ်ခုပေါ်တွင် ဇိမ်ရှိရှိ အိပ် လိုက်ဖို့ ကောင်းသည်။ ဤအချက်က သူ့အတွက် ထိုက်တန်သော နစ်နာကြေးကို ပေးပေလိမ့်မည်။ သူက အိပ်ရာဝင်ခါနီး တစ်ခွက်လောက် သောက်ရန်လည်း အသင့် ရှိနေသည်။ ကြမ်းပြင်ပေါ်၌ ဖရီဒါ ချထားသောလင်ပန်းပေါ်တွင် ရမ်တစ်ပုလင်း ရှိနေသည်။ သူက ပုလင်းကို တစ်စက်မ ကျန်အောင် မော့ပစ်လိုက်သည်။

သူသည် ယခုအခါ အာလင်ဂါထံ မှောက်သို့သွားရန် အင်အားပြည့်ဖြိုး သွားပြီ ဖြစ်သည်။ အာလင်ဂါ၏ အခန်းတံခါးကို ကြည့်သည်။ သို့သော် ဂါစ တက်ကာနှင့် အခိုင်းအစေများကိုလည်း မတွေ့ရ၊ တံခါးတွေက အားလုံးပင် ခပ်ဆင်ဆင်တွေ ဖြစ်နေသည်။ သို့သော် စင်္ကြံလမ်း၏ တံခါးပေါက် တံခါး ကို သူ မှတ်မိသည်ထင်သဖြင့် တံခါးတစ်ပေါက်ကို ဖွင့်ကြည့်ရန် သူ ဆုံးဖြတ်လိုက်သည်။ ဖွင့်ကြည့်သည့်အတွက် ဘာမှအန္တရာယ်မရှိနိုင်ပါ။ အာ လင်ဂါ၏ အခန်းဖြစ်ခဲ့လျှင် အာလင်ဂါက သူ့ကို လက်ခံ တွေ့ဆုံမည်မှာ အမှန်ပင်ဖြစ်သည်။ အကယ်၍ အခြားတစ်ယောက်ယောက်၏ အခန်း ဖြစ် နေခဲ့လျှင် တောင်းပန်ပြီး အခြားအခန်းသို့ ဆက်သွားရန် ဖြစ်သည်။ အကယ်၍ အခန်းတွင်း၌ ရှိသူသည်

အိပ်ပျော်နေခဲ့လျှင် ကေ ဝင်ရောက်လာ ခြင်းကို သိရှိနိုင်ဖွယ်ရာ မရှိချေ။ အကယ်၍ အခန်းသည် အလွတ်ကြီး ဖြစ် နေခဲ့လျှင်တော့ ကေ့အနေနှင့် အိပ်ရာထဲ ဝင်ပြီး တစ်ကမ္ဘာလောက်ကြာ အောင် အိပ်ပစ်လိုက်ရန် ဖြစ်သည်။

သူသည် စကြံလမ်းတစ်လျှောက်ရှိ လက်ဝဲနှင့် လက်ယာဘက်များသို့ ကြည့်လိုက်သည်။ သူ့ကို သတင်းပေးနိုင်မည့်သူ တစ်ဦးတစ်ယောက်ကိုမျှ မ တွေ့မြင်ရပါ။ ရှည်လျားသော စကြံလမ်းသည် ငြိမ်သက်ပြီး လူသူလေးပါး ရှင်းလျက်ရှိသည်။ ထို့နောက် ကေ တံခါးနားကပ်ပြီး နားထောင်လိုက်သည်။ အခန်းတွင်းမှာမူ လူမရှိပါ။ တံခါးကို ဖြည်းညင်းစွာ ခေါက်လိုက်သည်။ အိပ်နေသူတစ်ယောက်ကို မနှိုးနိုင်ပါ။ ဘာမျှအသံမကြားရသဖြင့် တံခါးကို သတိကြီးစွာထားပြီး ဖွင့်လိုက်ပါသည်။ သို့သော် သူသည် ယခုအခါတွင် တိုးညင်းသော ဟောက်သံနှင့် ကြုံတွေ့ရပါသည်။

အခန်းမှာ သေးသေးကလေး ဖြစ်သည်။ အခန်းတစ်ဝက်လောက်သည် ရောမ ခုတင်ကြီးနှင့် ပြည့်နေသည်။ ညအိပ်စားပွဲပေါ်တွင် လျှပ်စစ်မှန်အိမ် ကို ထွန်းထားသည်။ မှန်အိမ်ဘေးတွင်ကား ခရီးသွား လက်ဆွဲအိတ်တစ်လုံး ရှိသည်။ ခုတင်ပေါ်တွင်ကား လူတစ်ယောက်သည် ဂွမ်းကပ်နှင့် အိပ်ရာခင်း ကြားတွင် မြုပ်ဝင်နေပြီး ခပ်တိုးတိုး ကလေး မေးလိုက်သည်။

"ဘယ်သူလဲ"

ကေသည် ယခုအခါ ဖြုန်းခနဲ ပြန်ထွက်ရန် မလွယ်ဘဲ မေးခွန်းကို ဖြေသည့် အနေဖြင့် သူ့နာမည်ကို ပြောလိုက်သည်။ သူ့နာမည်ကို ပြောလိုက်သည့်အတွက် အခြေအနေက ကောင်းမွန်ဟန်ရှိသည်။

ခုတင်ပေါ်ကလူသည် ဂွမ်းကပ်ကို ခွာလိုက်သည်။ သို့သော် အခြေအနေ တစ်ခုခု ဆိုးဝါးမည် စိုးသည့်အလား ပြန်ခြုံလိုက်သည်။ သို့သော် ဂွမ်းကပ်ကို ခွာလိုက်ပြီး စိုးရိမ်ကြောင့်ကြမှု ကင်းစွာနှင့် ထထိုင်လိုက်သည်။ ထိုလူသည် အာလင်ဂါ မဟုတ်သည်တော့ သေချာသည်။

လူလုံးလူထည် သေးသေးကလေးနှင့် ကြည့်ပျော်ရှုပျော်ရှိသော လူကြီး မင်း တစ်ယောက် ဖြစ်သည်။ သူက ပညာတတ်တစ်ယောက် ဖြစ်သည်။

"ဖရက်ဒရစ်ကို သိသလား"

သူက မေးလိုက်သည်။ ကေက မသိကြောင်း ပြန်ဖြေသည်။

"ဒါပေမဲ့ သူက ခင်ဗျားကို သိတယ်"

လူကြီးမင်းက ခပ်ပြုံးပြုံးနှင့် ပြောလိုက်သည်။ ကေ ခေါင်းညိတ်လိုက်သည်။ သူ့ကိုသိသည့်လူတွေ မနည်းပါ။

"ကျွန်တော်က သူ့အတွင်းရေးမှူးပဲ။ ကျွန်တော့်နာမည်က ဘာဂယ်"

"ခွင့်လွှတ်ပါခင်ဗျာ" ကေက တံခါးလက်ကိုင်ဆီသို့ လှမ်းလိုက်ရင်းပြောသည်။

"ကျွန်တော် တောင်းပန်ပါတယ်။ ကျွန်တော် လူကြီးမင်းရဲ့ အခန်းကို

အာလင်ဂါရဲ့ အခန်းနဲ့ မှားလို့ပါ။ ကျွန်တော့်ကို အတွင်းရေးမှူး အာလင်ဂါက ခေါ်ထားလို့ပါ"

ဘာဂယ်က

"ဖြစ်ရပုံများကတော့၊ ခင်ဗျားကို ဘယ်နေရာကမှ မခေါ်ဘူး။ ဒါပေမဲ့ ခင်ဗျားဟာ အခန်းမှားပြီး ဝင်လာတယ်။ အရေးကြီးတာက ကျွန်တော်က တစ်ခါနိုးလာပြီးရင် ပြန်အိပ်လို့ မရတော့ဘူး။ ဒါပေမဲ့ ဒါအတွက် ခင်ဗျား ဘာမှမဖြစ်ပါနဲ့။ ဒါက ကျွန်တော့်ရဲ့ ပုဂ္ဂလိက ကုသိုလ်ကံဆိုးမှုပဲ။ ဒီတံခါး တွေက သော့ခတ်လို့ မရဘူးလား။ အကြောင်းတစ်ခုတော့ ရှိရမယ်။ ဘာ ဖြစ်လို့လဲဆိုတော့ ဆိုရိုးစကားရှိတာကတော့ အတွင်းရေးမှူးတွေရဲ့ တံခါး တွေဟာ အမြဲတမ်း ပွင့်နေရမယ်။ ဒါပေမဲ့ ဒါကိုလည်း ပုံသေကားကျကြီး ယူလို့တော့ မရဘူး"

ဘာဂယ်က ကေကို လေ့လာသည့်အနေဖြင့်၊ ပျော်ရွှင်ကျေနပ်သည့် အနေဖြင့် ကြည့်နေသည်။ ဘာဂယ်၏ဘဝတွင် ဘယ်တုန်းကမျှ ယခုလောက် ပင်ပန်းနွမ်းနယ် နေခဲ့ဖူးခြင်း မရှိခဲ့ချေ။

"ခင်ဗျား အခု ဘယ်သွားမယ် စိတ်ကူးလဲ" ဘာဂယ်က မေးလိုက်သည်။ လေးနာရီ ထိုးနေပြီ။ ခင်ဗျား တစ်ယောက်ယောက်ဆီကို သွားမယ်ဆိုရင် ခင်ဗျား သူ့ကို နှိုးရမယ်။ တခြားလူတွေက ကျွန်တော့်လို အနှောင့်အယှက် ဖြစ်တာမျိုး ခံနိုင်မှာ မဟုတ်ဘူး။ အတွင်းရေးမှူးတွေက စိတ်ဆိုးတတ်ကြတယ်။ အဲဒီတော့ ဒီမှာပဲ ခဏလောက်နေဦး၊ ငါးနာရီလောက်ဆိုရင် ဒီကလူတွေ နိုးကုန်ကြပြီ။ အဲဒီအခါကျရင် ခင်ဗျားကို ဆင့်ခေါ်တဲ့လူဆီကို သွားနိုင် ပြီ။ အဲဒီတော့ တံခါးလက်ကိုင်ပေါ်က လက်ကို လွှတ်လိုက်ပြီး တစ်နေရာ ရာမှာ ထိုင်ပါ။ ခင်ဗျားအတွက် နေရာထိုင်ခင်း သိပ်မရှိတော့ ဒီခုတင်စွန်းမှာပဲ ထိုင်ရင် ကောင်းမယ်။ ခင်ဗျားအနေနဲ့ အံ့သြမလားတော့ မသိဘူး။ ဒီမှာ ကုလားထိုင်၊ ဒါမှမဟုတ် စားပွဲ မရှိဘူး။ ကျွန်တော့်မှာ ခုတင်သေး သေးကလေးနဲ့ ဟိုတယ်ခန်း ကောင်းကောင်းတော့ မရှိဘူး။ ဒီခုတင်ကြီးနဲ့ မျက်နှာသစ်ကန်တစ်ခုပဲ ရှိတယ်။ ကျွန်တော်က ခုတင်ကြီးကြီးကို ရွေးတယ်။ အိပ်ခန်းတစ်ခုမှာ ခုတင်ဟာ အရေးအကြီးဆုံးပဲ။ ခြေဆန့်လက်ဆန့်နဲ့ ကောင်းကောင်းကြီး အိပ်နိုင်တယ်။ အားရပါးရနဲ့ အိပ်တဲ့သူတစ်ယောက် အဖို့တော့ ဒီခုတင်ဟာ အကောင်းဆုံးပဲ။ ကျွန်တော့်လို ကောင်းကောင်း မ အိပ်ရတဲ့သူတစ်ယောက်အဖို့တော့ ဒီခုတင်ဟာ အကောင်းဆုံးပဲ။ နေ့ခင်း ပိုင်း တစ်ချိန်လုံးလောက်ပဲ ကျွန်တော် ဒီအခန်းထဲမှာ နေတယ်။ အပေးအယူ ကိစ္စတွေ ဒီမှာပဲ လုပ်တယ်။ တွေ့ဆုံချင်တဲ့လူတွေကို ဒီမှာပဲ လက်ခံတွေ့ဆုံတယ်။ အလုပ် ကောင်းကောင်းဖြစ်တယ်။ လာရောက်တဲ့လူ တွေမှာ ထိုင်စရာမရှိဘူး။ ဒါက ပိုပြီးအဆင်ပြေတယ်။ အဲဒီတော့ ကျုပ်ပေး နိုင်တဲ့ နေရာက ဒီခုတင်စွန်းပဲ။ ဒါပေမဲ့ ရုံးသဘောဆန်တဲ့ နေရာတစ်ခုတော့ မဟုတ်ဘူး။ ညဘက်မှာ လာတဲ့လူတွေနဲ့ စကား ပြောဖို့ပဲ ရည်ရွယ်တယ်။ ဘယ့်နှယ်လဲ မြေတိုင်းစာရေးကြီး၊ တိတ်လှချည့်လား"

"ကျွန်တော် သိပ်ပင်ပန်းနေပြီ"

ကေကေ ခုတင်ပေါ်တွင်ထိုင်လိုက်ပြီး ခုတင်တိုင်ကို မှီပြီးနေသည်။ ဘာဂယ်က ရယ်လိုက်ပြီး

"ဒီမှာရှိတဲ့လူတွေ အားလုံးဟာ ပင်ပန်းနေတာပဲ။ ကျွန်တော် တစ်နေ့ တစ်နေ့ လုပ်ရတဲ့ အလုပ်တွေဟာ နည်းနည်းနောနော မဟုတ်ဘူး။ ကျွန်တော် အခု အိပ်ရမယ် ဆိုတာ မေးနေဖို့မလိုဘူး။ ကျွန်တော်အိပ်နေ တုန်းမှာ ခင်ဗျား ငြိမ်ငြိမ်ကလေးနေပါ။ ဒါပေမဲ့ မပူပါနဲ့၊ ကျွန်တော် ခဏကလေးပဲ အိပ်မှာပါ။ ကျွန်တော်ဟာ လျှောက်ထားသူ တွေနဲ့ တွေ့ဆုံနေကျဆိုတော့ ကျွန်တော့်ဘေးမှာ အဖော်ရှိနေလည်း ကျွန်တော် အိပ်တတ်ပါ တယ်"

"အတွင်းရေးမှူးကြီး အိပ်ပါခင်ဗျာ၊ အတွင်းရေးမှူးကြီးနဲ့အတူ ကျွန်တော်လည်း ခဏအိပ်ဦးမယ်"

ကေကေ ဝမ်းသာအားရစွာ ပြောလိုက်သည်။

"ဘယ်ဒီလိုဟုတ်မလဲ၊ ကျွန်တော်က အိပ်လို့ပြောတိုင်း အိပ်လို့ရတဲ့သူမှ မဟုတ်ပဲ" ဘာဂယ် ရယ်မောကာပြောသည်။ "စကားပြောရင်းဆိုရင်းနဲ့မှ ကျွန်တော်က အိပ်တတ်တာပဲ။ ကျွန်တော်တို့က အလုပ်မှာ အကျင့်ပါနေ တာပဲ။ ဥပမာ ကျွန်တော်ဆိုရင် ဆက်သွယ်ရေး အတွင်းရေးမှူး တစ်ယောက်ပဲ။ ဆက်သွယ်ရေး အတွင်းရေးမှူး ဆိုတာ ဘာမှန်း ခင်ဗျား မသိဘူးမဟုတ်လား။ ကျွန်တော်က အထူးဆက်သွယ်ရေး တာဝန်ယူရတယ်" သူက လက်နှစ်ဖက်ကို အားရပါးရ ပွတ်သပ်ရင်း ပြောသည်။ “ဖရက်ဒရစ်နဲ့ ကျေးရွာကြားမှာ ဆက်သွယ်ပေးရတယ်။ ရဲတိုက်ကြီး အတွင်းရေးမှူးတွေနဲ့ ကျေးရွာအတွင်းရေးမှူးတွေ ကြားမှာ ဆက်သွယ်ပေးရတယ်။ အထူးသဖြင့် ကျေးရွာအတွင်းရေးမှူးတွေ ကြားမှာပဲ။ ဒါပေမဲ့ အမြဲတမ်းကြီးတော့ မဟုတ်ဘူး။ ကျွန်တော်က အချိန်မရွေး ရဲတိုက်ကြီးကိုသွားဖို့ အဆင်သင့် ဖြစ်နေရတယ်။ ခရီးဆောင် အိတ်ကို ခင်ဗျား တွေ့တယ် မဟုတ်လား။ အ ငြိမ်မနေရတဲ့ ဘဝပဲ။ လူတိုင်းအတွက် သင့်လျော်တဲ့အလုပ် မဟုတ်ဘူး။ နောက်တစ်နည်း ပြောရင်လည်း ကျွန်တော် ဒီအလုပ်မျိုးက လွဲလို့ မလုပ်တတ်ဘူး။ တခြားအလုပ်တွေကို ကျွန်တော် စိတ်မဝင်စားဘူး။ ဒါနဲ့ မြေတိုင်းတဲ့အလုပ်တွေ ဘယ့်နှယ်နေသလဲ"

ကျွန်တော် အဲဒီအလုပ်တွေ မလုပ်ရပါဘူး။ ကျွန်တော် မြေတိုင်းစာရေး“

"တစ်ယောက်အဖြစ် မလုပ်ရပါဘူး

ကေကေ ပြန်ပြောလိုက်သည်။ သူက ထိုကိစ္စတွင် စိတ်မဝင်စားပါ။ သူက ဘာဂယ် အိပ်ပျော်စေရန် သမ်းဝေလိုက်သည်။ သူက တာဝန်အရ လုပ်လိုက်ခြင်း ဖြစ်သည်။ သို့သော် ဘာဂယ် အိပ်ပျော်ဖို့က အဝေးကြီး လိုသေးသည်။

ဒါက အံ့ဩစရာပဲ" ဘာဂယ်က ခေါင်းကို ဆတ်ခနဲ ညိတ်လိုက်ပြီး မှတ်စု“

ရေးရန် ဂွမ်းကပ်အောက်မှ မှတ်စုစာအုပ်ကလေးတစ်အုပ် ထုတ်ယူရင်း

ပြောလိုက်သည်။ "ခင်ဗျားဟာ မြေတိုင်းစာရေး တစ်ယောက်ဖြစ်ပြီး

"မြေတိုင်းတဲ့အလုပ် လုပ်စရာမရှိဘူး

ကေက အလိုလို ခေါင်းညိတ်လိုက်သည်။ သူက လက်ဝဲဘက် လက်ကို ခုတင်တိုင်ပေါ်သို့ ဆန့်တန်းလိုက်ပြီး ယင်းလက်ပေါ်သို့ ခေါင်းကို တင်လိုက်သည်။ သူ့ကိုယ်သူ သက်သောင့်သက်သာ ဖြစ်အောင် နည်းအမျိုးမျိုးဖြင့် နေ ကြည့်သည်။ ဤအနေအထားက အကောင်းဆုံးပင် ဖြစ်သည်။ သို့ဖြင့် ယခုအခါ ဘာဂယ် ပြောသည်ကို နည်းနည်းအာရုံစိုက်ပြီး နားထောင်နိုင်သည်။ ဘာဂယ် ဆက်ပြောသည်။

"ဒီပြဿနာကို ဆက်ပြီးလုပ်နိုင်ဖို့ ကျွန်တော် အသင့်ပြင်ဆင်ထားတယ်။"

"ကျွမ်းကျင်တဲ့ အလုပ်သမားတစ်ယောက် မသုံးဘဲထားတယ်ဆိုတာ ကျွန်တော်တို့ ဆီမှာတော့ ဒါမျိုးမရှိဘူး။ ခင်ဗျားအတွက်လည်း အတော် အခံရဆိုးမယ်။ ခင်ဗျား ဒီအတွက် စိတ်မဆင်းရဲဘူးလား"

"ကျွန်တော့်မှာ အများကြီး စိတ်ဆင်းရဲရပါတယ်"

ကေက ဖြည်းလေးစွာ ပြန်ပြောလိုက်ပြီး သူ့ဘာသူ ပြုံးလိုက်မိသည်။ သို့သော် ယခုအခါတွင် သူ့အနေနှင့် စိတ်ဆင်းရဲခြင်း မဖြစ်တော့ပါ။ ထို့ အပြင် ဘာဂယ်၏ ကမ်းလှမ်းမှုကလည်း သူ့အဖို့ အနည်းငယ်မျှသာ စိတ်ဝင်စားပါသည်။ တကယ်တော့ လုံးဝ မဝင်စားသလောက်ပင် ဖြစ် ပါသည်။

"ခင်ဗျားဟာ တော်တော်ကလေး စိတ်ပျက်နေလိမ့်မယ်"

ဘာဂယ်က ပြောသည်။ ဤမှတ်ချက်က အင်မတန် လူသားဆန်ပါသည်။ ဤအခန်းတွင်းသို့ ဝင်လာကတည်းက ဘာဂယ်ကို အထင်မသေးဖို့ သတိပြုမိသည်။ သို့သော် သူ့မှာ ပင်ပန်းနွမ်းနယ်နေသဖြင့် အမှန်အတိုင်း မဆုံးဖြတ် နိုင်ဘဲရှိသည်။ ကေ အိပ်ပျော်သွားသည်။ ထိုစဉ်မှာပင် အခန်းဖွဲ့ထားသော နံရံပေါ်တွင် တံခါးခေါက်သံ ပြင်းပြင်း ထွက်ပေါ်လာသည်။ ကေ လန့်သွား ပြီး အခန်းနံရံကို ကြည့်လိုက်သည်။

"မြေတိုင်းစာရေးကြီး ဒီမှာရှိသလား" အသံတစ်သံက မေးသည်။ "ဟုတ်ကဲ့၊ ရှိပါတယ်" ဘာဂယ်က ဖြေလိုက်သည်။ "သူ ဒီကိုလာဖို့ အချိန်တန်နေပြီလို့ သူ့ကို ပြောလိုက်ပါ" ထိုအသံက ဆက်ပြောသည်။

"ဒါ အာလင်ဂါပဲ"

ဘာဂယ်က အသံတိုးတိုးဖြင့် ပြောလိုက်သည်။ တစ်ဖက်ခန်းတွင် အာလင် ဂါ ရှိနေသည်ကို နည်းနည်းမှ အံ့ဩဟန်မပြပါ။

"သူ့ဆီကို ချက်ချင်းသွားလိုက်ပါ။ သူ စိတ်အနှောင့်အယှက် ဖြစ်နေတယ်။ သူနဲ့အဆင်ပြေအောင် လုပ်ပါ။ သူက အားရပါးရအိပ်တတ်တဲ့ လူတစ် ယောက်ပဲ။ ဒါပေမဲ့ ကျွန်တော်တို့ ပြောတဲ့အသံတွေက ကျယ်တယ်။ ကျွန်တော်တို့ဟာ အကြောင်း အရာတစ်ခုကို ပြောကြတဲ့အခါမှာ အသံတွေကို မထိန်းနိုင်ကြဘူး။ ကဲ အခု သွားပေတော့၊ ခင်ဗျား ဒီမှာ ဘာလုပ်နေတာ လဲ။ ခင်ဗျားအိပ်ချင်နေတဲ့အတွက် သူ့ကို တောင်း ပန်စရာမလိုဘူး။ လူတစ်ယောက်ရဲ့ ရုပ်ပိုင်းဆိုင်ရာ ခွန်အားဟာ

အကန့်အသတ်ရှိတယ်။ ကဲ သွားပေတော့။ ဘာဖြစ်လို့ ကျွန်တော့်ဆီကို ကြည့်နေတာလဲ။ ခင်ဗျား အနေနဲ့ပြောရ ရင် အာလင်ဂါ ကျွန်တော့်ကို ဒေါပွလိမ့်မယ်။ ဒါကို ကျွန်တော် ရှောင်ရှား ရ လိမ့်မယ်။ အခုချက်ချင်းပဲ သွားတော့။ ကျွန်တော်လည်း တစ်ရေးလောက် အိပ် လိုက်ဦးမယ်။ အခုမှ ငါးနာရီပဲ ရှိသေးတယ်။ မကြာမီ အသံတွေ ကြား ရတော့မယ်။ ခင်ဗျား အခုသွားတော့"

အာလင်ဂါကသာ ဖွင့်ထားသော တံခါးပေါက်ရှေ့တွင် မတ်တတ်ရပ်နေပြီး သူ့ကို လက်ရိပ်ပြပြီး မခေါ်ခဲ့လျှင် သူသည် ဘာမှမထူးခြားသလိုမျိုးနှင့် အာလင်ဂါ၏ အခန်းကို ကျော်လွန်သွားနိုင်ပေသည်။ လက်ညှိုးနှင့် အရိပ်ပြပြီး ခေါ်သည်။ အာလင်ဂါသည် အပြင်သို့သွားရန် အဝတ်အစားအပြည့်အစုံ ဝတ်ဆင်ပြီးနေပြီ။ သားမွေးကုတ်အင်္ကျီ အနက်၊ ကော်လံကြယ်သီး အမြင့်ကြီး တပ်ထားသည်။ တပည့်တစ်ယောက်က သူ့ကို လက်အိတ်များ ပေးနေ ပြီး သားမွေး လျှာထိုးဦးထုပ်ကို အသင့်ကိုင်ထားသည်။

"ခင်ဗျား အစောကြီးကတည်းက လာဖို့ကောင်းတယ်"

အာလင်ဂါက ပြောလိုက်သည်။

ကေက တောင်းပန်ရန် ကြိုးစားသည်။

ပင်ပန်းနွမ်းနယ်စွာနှင့် သူ့မျက်လုံးများကို မှိတ်ထားသည်။ အာလင်ဂါက တောင်းပန် စကားများကို စိတ်ဝင်စားဟန် မပြချေ။ သူက "ပြဿနာက ဒီလိုရှိတယ်။ စောစောပိုင်းတုန်းက ဖရီဒါဆိုတဲ့ မိန်းကလေး တစ်ယောက်ကို ယမကာခန်းမှာ ခန့်ထားတယ်။ မိန်းကလေးရဲ့ နာမည်ကိုပဲ ကျုပ်သိ။ မိန်းကလေးကို လူကိုယ်တိုင် မသိဘူး။ သူက ကျုပ်နဲ့မဆိုင်ဘူး။ ဒီ ဖရီဒါဆိုတဲ့ မိန်းကလေးက ကလမ်ကို ဘီယာနဲ့ ဝတ်ပြုရတယ်။ အခု သူ့နေရာမှာ တခြားမိန်းကလေး တစ်ယောက် ရောက်နေတယ်။ ဒီအကြောင်းကလည်း ကလမ်က လွဲလို့ တခြား ဘယ်သူနဲ့မှ မဆိုင်ဘူး။ ဒါပေမဲ့ ကလမ်ရဲ့အလုပ်က အလုပ်ကြီးတစ်ခု ဖြစ်တယ်။ ရောမ အလုပ်ကြီး ဖြစ်တယ်။ ဒီကိစ္စမှာ အရေးမကြီးလှတဲ့ အပြောင်းအလဲ တစ်ခုက အများကြီး အနှောင့်အယှက် ဖြစ်နိုင်တယ်။ စာရေးစားပွဲပေါ်မှာ အနေအထား နည်းနည်းကလေး ပြောင်းတာ၊ စားပွဲပေါ်က အစွန်းအထင်းကလေး တစ်ခု ကို ဖယ်ရှားပစ်လိုက်တာဟာ အများကြီး အနှောင့်အယှက် ဖြစ်နိုင်တယ်။ အဲဒီတော့ ယမကာခန်းက မိန်းကလေး ကိစ္စလည်း ဒီအတိုင်းပဲ။ ဒီအပြောင်းအလဲဟာ အခြားလူအတွက် အရေးမကြီးပေမဲ့ ကလမ်အတွက် အရေးကြီးတယ်။ ကျုပ်တို့ဟာ ကလမ်ကျေနပ်ဖို့ အရေးကြီးတယ်။ ဒါကြောင့်မို့လို့ ဒီ ဖရီဒါဆိုတဲ့ မိန်းကလေးကို ယမကာခန်းကို ချက်ချင်းပြန်ပို့ရမယ်။

"သူ့ကို ပြန်ပို့တဲ့ မိန်းကလေးမှာ အနှောင့်အယှက် ဖြစ်ကောင်းဖြစ်မယ်။ နောက်မှ သူ့ကို တခြားကို ပြောင်းချင်ပြောင်းမယ်။ ဒါပေမဲ့ လောလောဆယ်မှာတော့ သူ့ကို သူ့နေရာ သူ ပြန်ပို့ရမယ်။ ဒီနေရာမှာ ကိုယ်ရေးကိုယ်တာ စိတ်ထိခိုက်တာတွေကို စဉ်းစားမနေနိုင်ဘူး။ ဒီကိစ္စကို ကျုပ် နောက်ထပ် မဆွေးနွေးတော့ဘူး။ ခင်ဗျားကို ကျုပ်ပြောစရာ ဒါ အကုန်ပဲ"

သူက ကေ့အား ခေါင်းညိတ်ပြီး သွားခွင့်ပြုလိုက်သည်။ သူ့တပည့်က ပေးသော သားမွေးရှာထိုးဦးထုပ်ကို ခေါင်းတွင် ဆောင်းလိုက်သည်။ ထို့နောက် တပည့် ဖြစ်သူလိုက်ပါလျက် စင်္ကြံဆီသို့ ခပ်မြန်မြန် လျှောက်သွားသည်။ သို့သော်

ခြေထောက် အနည်းငယ် ထော့နင်းထော့နင်း ဖြစ်နေသည်။

မနက် ငါးနာရီဆိုလျှင် စကြံ့လမ်း တစ်ဖက်တစ်ချက်တွင် ညိုးညိုးညံ့ညံ့ အသံတွေ ကြားနေရပြီဖြစ်သည်။ အခန်းတွေထဲမှ ထွက်ပေါ်နေသော ဆူဆူညံညံ အသံများသည် အထူးပင် ပျော်ရွှင်နေကြပုံရသည်။ ကလေးတစ်သိုက် ပျော်ပွဲစား ထွက်ကြတော့မည့် အတိုင်းပင်ဖြစ်သည်။ နေ့တစ်နေ့ဘဂတွင် အသိုက်ထဲမှ ပျော်ရွှင်စွာ ထွက်လာကြသည့် အတိုင်းပင်ဖြစ်သည်။ အမှန်တကယ်ပင် တစ်နေရာတွင်ဆိုလျှင် လူမင်းကြီး တစ်ယောက်သည် ကြက်တွန်သံပင် ပြုလိုက်သည်။

စကြံ့လမ်းသည် လူသူလေးပါးရှင်းလျက် ရှိသော်လည်း တံခါးတွေက ပိတ်လိုက်ဖွင့်လိုက်နှင့် ရှိနေသည်။ မကြာခဏဆိုသလို တံခါးတစ် ပေါက်သည် နည်းနည်းကလေး ဟသွားလိုက်၊ ဖြုန်းခနဲ ပြန်ပိတ်သွားလိုက် နှင့် ရှိနေသည်။ မကြာခဏဆိုသလိုပင် အခန်းဖွဲ့နံရံများရှိ လူတွေ၏ ဦးခေါင်းတွေသည် ပေါ်လာလိုက် ပျောက်သွားလိုက် ရှိနေသည်။ အခန်းဖွဲ့ နံရံများသည် မျက်နှာကြက်များနှင့် မထိကြချေ။

အဝေးတစ်နေရာဆီမှ ဖိုင်တွဲတွေပါရှိသော လက်တွန်းလှည်းတစ်စီးကို အခိုင်းအစေ တစ်ယောက်က တဖြည်းဖြည်း တွန်းလာသည်။ အခိုင်းအစေ တစ်ယောက်က စာရွက်တစ်ရွက်ကို ကိုင်ပြီး ဘေးမှ လျှောက်ရင်း လိုက်ပါ လာသည်။ တံခါးပေါ်မှ နံပါတ်များနှင့် စာရင်းစာရွက်ပေါ်မှ ဖိုင်တွဲနံပါတ် များကို တိုက်ကြည့်လျက် ဖြစ်သည်။

လက်တွန်းလှည်းကလေးသည် တံခါးပေါက် တော်တော်များများရှေ့တွင် ရပ်လိုက်မှ တံခါးပေါက် ပွင့်လာပြီး သင့်လျော်သော ဖိုင်တွဲကို ပေးလိုက်သည်။ သို့သော် ရံဖန်ရံခါတွင် စာရွက်တစ်ရွက်တည်းလည်း ဖြစ် တတ်သည်။ ထိုအခါ အခန်းတွင်းနှင့် စကြံ့လမ်းတို့အကြား အပြန်အလှန် စကားပြောသံများ ကြားရသည်။ အကယ်၍ အခန်း တံခါးပိတ်ထားခဲ့လျှင် ဖိုင်တွဲများကို တံခါးပေါက်ဝတွင် စနစ်တကျ စုပုံပြီး ထားခဲ့ တတ်သည်။

ဤအတွင်းတွင် ကေ သတိပြုမိသည့် အချက်တစ်ခုမှာ ဘာဂယ်၏ အခန်း တံခါးသည် အမြဲတမ်းလိုပင် ပိတ်ထားသည်။ အခိုင်းအစေသည် ဤဘက်ပိုင်း စကြံ့ကို ကျော်ဖြတ် သွားသော်လည်း ဘာဂယ်၏အခန်းသို့ မည်သည့် ဖိုင်တွဲမျှ ပို့မသွားချေ။ သူသည် ယခုအထိ အိပ်ပျော်နေဟန်ရှိသည်။ တကယ် ပင်ဖြစ်သည်။ သူက အအိပ်ကြီးသူတစ်ဦး ဖြစ်သည်။ သို့သော် သူသည် အဘယ့်ကြောင့် ဖိုင်တွဲ တစ်ခုမှ မရရှိလေသနည်း။ အချို့သော အခန်း အနည်းငယ်လောက်သာလျှင်၊ လူမရှိသော အခန်းများ သာလျှင် ဤနည်းဖြင့် ကျော်ဖြတ်သွားလေ့ ရှိပါသည်။ အခြားတစ်နည်းဖြင့် စဉ်းစား ရလျှင် လူကြီးမင်းသည် ညကတည်းကပင် အခန်းမှ ထွက်သွားချေပြီလော။ သို့သော် ဤပုံစံသည် လူကြီးမင်း၏ပုံစံ မဟုတ်ပါ။ ယခု ကေ စောင့်ကြည့် သလိုမျိုး သူသည် ဖိုင်တွဲတွေကို တံခါးပေါက်ဝမှ စောင့်နေရလေသည်။

ကေသည် မကြာခဏဆိုသလိုပင် အလုပ်သမားတွေဆီမှ အာရုံပြောင်းပြီး ကြည့်သည်။ လူကြီးမင်း တံခါးကို သတိကြီးစွာထား၍ ဖွင့်သည်။ အပြင်မှ ဖိုင်တွဲကို ဆွဲယူသည်။ အလုပ်သမားက တံခါးကြားတွင် ခြေထောက်ထိုးခံ ပြီး လူကြီးမင်းနှင့် အပေးအယူ လုပ်သည်။ လူကြီးမင်းက အလုပ်သမား ထံမှ ဖိုင်တွဲကို ယူသည်။ သို့သော် လူကြီးမင်းက အလုပ်သမားကို တွန်း ပစ်လိုက်သည်။

ဤအချိန်တွင် အလုပ်သမားသည် သူ့အလုပ် ပြီးသွားချေပြီ။ ဖိုင်တစ်ခု သာလျှင်၊ တကယ်တမ်း ပြောရလျှင် စာရွက်တစ်ရွက်သာလျှင် လက်တွန်းလှည်းကလေး ထဲတွင် ကျန်တော့သည်။ သူ၏ အကူ အလုပ်သမားကြောင့် သာလျှင် ကျန်ရစ်ခဲ့ခြင်း ဖြစ်သည်။ ယခုအခါ သူ တို့သည် ထိုစာရွက်ကို မည်သူ့အား ပေးရမည် မသိပါ။

"ဒီဖိုင်ဟောင်းရဲ့ ဖိုင်ပဲဖြစ်ရမယ်"

ကေ တွေးလိုက်သည်။

ကျေးရွာဥက္ကဋ္ဌသည် ဤအသေးဖွဲလေးကိစ္စကို အမြဲတမ်း ပြောတတ်သည်။

အခိုင်းအစေအနီးသို့ ကေ တိုးသွားပြီး ကြည့်သည်။ သူက စာရွက်ကလေး ကို ကြည့်နေသည်။ သူက ကျန်စာရွက်ကလေးကို တစ်စုံတစ်ယောက်ကို ပေးရမည်။ သို့သော် သူက စာရွက်ကလေးကို စုတ်ဖြဲပြီး သူ့အင်္ကျီအိတ်ထဲသို့ ထည့်လိုက်သည်။ အလုပ်သမားသည် အလုပ်တွင် အာရုံ မစိုက်တော့ပါ။ သူ့ အလုပ်သည် ပြီးသွားချေ ပြီတည်း။ သို့ဖြင့် သူတို့သည် လှည်းကလေးကို တွန်းပြီး ထွက်သွားကြသည်။ လူကြီးမင်း တစ်ယောက်က ဟစ်အော်လျက် ရှိသည်ကိုပင် သူတို့သည် လှည့်မကြည့်ကြတော့ချေ။

လူကြီးမင်းသည် ဘာကိုဆိုလိုချင်သနည်းဟု သိချင်သဖြင့် ကေ စောင့်ပြီး ကြည့်နေသည်။ သို့သော် လူကြီးမင်းက အော်ဟစ်နေရုံနှင့် မလုံလောက်သ ဖြင့် လျှပ်စစ် ခေါင်းလောင်းကလေး တစ်ခုကို တွေ့ရှိသဖြင့် ယခင်က အကြောင်းကြောင်းကြောင့် မသုံးခဲ့သော ခေါင်းလောင်းကို အဆက်မပြတ် တီးနေတော့သည်။

ထိုအခါတွင် အခြားအခန်းတွေမှလည်း လျှပ်စစ်ခေါင်းလောင်းသံများ မြည်လာတော့သည်။ သည်အဓိပ္ပာယ်က အားလုံးကပင် ထောက်ခံကြသည့် သဘော ဖြစ်သည်။ အစောကြီးကတည်းက လုပ်သင့်သော အလုပ်တစ်ခုကို လူကြီးမင်းက ပြုလုပ်လိုက်ခြင်း ဖြစ်သည်။ အကြောင်း တစ်ခုကြောင့်သာ မပြုလုပ်ခဲ့ကြခြင်း ဖြစ်သည်။

အလုပ်သမားတစ်ယောက် လျှပ်စစ်ခေါင်းလောင်းတီးနေခြင်းလော၊ ဖရီဒါအတွက် ဖြစ်ချေသလော။ ဒီအတိုင်းသာဆိုလျှင်တော့ သူ အကြာကြီး တီး နေရပေမည်။ အကြောင်းမှာ ဖရီဒါက အဝတ်တွေစိုနေသော ဂျာရီမီယာကို စောင်နှင့် ပတ်ပေးနေရသည်။ သို့မဟုတ် သူသည် နေပြန်ကောင်းသွားပြီလည်း ဖြစ်နိုင်သည်။ ယင်းသို့ ဆိုလျှင် သူမက သူ၏ရင်ခွင်ထဲသို့ ရောက်နေပေလိမ့်မည်။

သို့သော် လျှပ်စစ်ခေါင်းလောင်းကို တီးလိုက်ခြင်းက ချက်ချင်းပင် အကျိုးသက်ရောက်မှု ရှိပေသည်။ ဟာရင်ဟော့ တည်းခိုခန်းပိုင်ရှင် ကိုယ်တိုင် ခပ်လှမ်းလှမ်းဆီမှ ကပျာကသီ ရောက်ရှိလာသည်။

ကုတ်အကျႌအနက်နှင့် ကြယ်သီးများကို ခါတိုင်း ကဲ့သို့ပင် တပ်ထားသည်။ သို့သော် သူသည် ဣန္ဒြေသိက္ခာရှိရမည်ကို သတိမေ့လျော့ပြီး ပျာယီးပျာယာ ဖြစ်နေသည်။ လက်နှစ်ဖက်ကို တစ်ဝက်လောက် ဆန့်တန်းထားပြီး တစ်စုံတစ်ခုသော ကပ်ဘေးဒုက္ခကြီး ခေါ်ယူသကဲ့သို့ ယင်းကို ရင်မှာ ချက်ချင်းပင် ပိုက်ထွေး ထားရန် ပြင်ဆင်ထားသည်။ လျှပ်စစ်ခေါင်းလောင်းသံ ပေါ်ထွက်လာတိုင်း သူသည် လေထဲတွင် ခုန်ပျံဝဲပြီး ပိုပြီး မြန်ဆန်လာဟန် ရှိသည်။

ယခု သူ၏မိန်းမလည်း ရောက်လာသည်။ သူ့နောက်ဘက် အတော် လှမ်းလှမ်းမှ ဖြစ်သည်။ သူမကလည်း လက်နှစ်ဖက်ကို ဆန့်တန်းပြီး ပြေး လာသည်။ သို့သော် သူမ၏ ခြေလှမ်းတွေက နှေးကွေးသည်။ သူမ အတော် ကြီး နောက်ကျနေပြီဟု ကေ တွေးလိုက်သည်။ တည်းခိုခန်းပိုင်ရှင်က လိုအပ်တာတွေအားလုံးကို လုပ်ပြီးနေပြီ ဖြစ်သည်။ ကေသည် ပြေးလွှားနေ ရင်းနှင့် ပိုင်ရှင်ကို နေရာပေးသည့် အနေဖြင့် နံရံကို နံရံကို ကျောမှီပြီး ရပ်နေလိုက်သည်။ သို့သော် ပိုင်ရှင်သည် ကေ၏ရှေ့တွင် ရပ်လိုက်သည်။ ကေသည် သူ၏ပန်းတိုင်ဖြစ်သည့်အလား ဖြစ်သည်။ နောက် ခဏအကြာတွင် ပိုင်ရှင် ကတော်သည် သူတို့အနီးသို့ ရောက်ရှိလာသည်။ နှစ်ယောက်စလုံးကပင် ကေ့အား မနှစ်မြို့သော မျက်လုံးများဖြင့် ကြည့်နေကြသည်။ ကေက ဖြုန်းခနဲဆို အံ့အားသင့် သွားပြီး ယင်းအဖြစ်ကို နားမလည်နိုင် ရှိသည်။ လူကြီးမင်း၏ လျှပ်စစ်ခေါင်းလောင်းသံသည် အခြားခေါင်းလောင်းသံများနှင့် ပေါင်းစပ်သွားကြပြီး သူတို့သည် ခေါင်းလောင်းကို အရေးပေါ်ကိစ္စအတွက် နှိပ်နေခြင်းမျိုး မဟုတ်ဘဲ ပျော်ရွှင်မှုအနေနှင့် နှိပ်နေကြခြင်းသာ ဖြစ်တော့သည်။

ကေသည် အလွန်အမင်း ပတ်သက်နေပြီး သူ့အဖြစ် ဘာဆိုသည်ကို အတိအကျ သိရှိလိုသဖြင့် တည်းခိုခန်းပိုင်ရှင်က သူ့လက်မောင်းကို ဆွဲကိုင် ပြီး ဆူဆူညံညံ အသံတွေထဲမှ ဝေးရာသို့ ဆွဲခေါ်သွားသည်ကို လိုက်ပါသွားသည်။ ကေက နောက်ဘက်သို့ပင် လှည့်မကြည့်ပါ။ နောက်ပြီးတော့ ပိုင်ရှင် ကတော်ကလည်း အရေးတကြီး ပြောဆိုနေသောကြောင့်ဖြစ်သည်။ ယခုအခါ တံခါးတွေအားလုံး ပွင့်နေကြသည်။ စင်္ကြံလမ်းသည် အသက်ဝင် လှုပ်ရှားလျက်ရှိချေပြီ။ လူသွားလူလာတွေ ရှိနေပြီး လူဟွေ ကလည်း မြန် မြန်သွားစေချင်နေကြသည်။ သို့မှသာ အောင်ပွဲခံသလို လျှပ်စစ် ခေါင်းလောင်းအား နှိပ်နေသော လူကြီးမင်းကို ရပ်တန့်စေနိုင်မည် ဖြစ်သည်။

သူတို့သည် ယခုအခါ ငြိမ်သက် တိတ်ဆိတ်နေသော ခြံဝင်းဖြူဖြူထဲသို့ ရောက်ရှိ နေကြသည်။ ထိုနေရာတွင် စွတ်ဖားအချို့က စောင့်ဆိုင်းလျက် ရှိသည်။ ကေသည် အခြေအနေမှန်ကို ရိပ်စားမိလာသည်။ ကေ ဒီအလုပ်မျိုး လုပ်ခဲ့သည်ကို

တည်းခိုခန်းပိုင်ရှင်ရော တည်းခိုခန်းပိုင်ရှင် ကတော်ပါ နား မလည်နိုင်ကြပါ။ သို့သော် ဘာတွေလုပ်ခဲ့သနည်း။ ကေ ထပ်တလဲလဲ မေးနေမိသည်။ သူ ကျူးလွန်သော အမှုက သူတို့နှစ်ယောက်အတွက် ကြီးမား လွန်းလှသည်။ ဒီအဖြစ်မျိုး သူတို့နှစ်ယောက်အတွက် မဖြစ်နိုင်။

အခြေအနေမှန်ကို ကေ တဖြည်းဖြည်းချင်း သဘောပေါက်လာသည်။ ဤစကြံ လမ်းကို သူ လာခွင့်မရှိပါ။ ယေဘုယျအားဖြင့် ဤနေရာသည် ယမကာခန်းဖြစ်သည်။ ဤနေရာသို့ အခွင့်အရေး ရှိသူများသာ လာရောက် နိုင်သည်။ သူ့ကို လူကြီးမင်း တစ်ယောက်က ဆင့်ခေါ်လျှင် သူသည် ဆင့်ခေါ်သည့် နေရာတွင်သာ ရှိရပေမည်။

သူ့ကို စုံစမ်းမေးမြန်းဖို့ ဆင့်ခေါ်ခဲ့လျှင် သူသည် မေးမြန်းသည်ကို မြန်မြန် ဖြေပြီး ထိုနေရာမှ မြန်နိုင်သမျှ မြန်မြန်ထွက်ခွာ သွားရပေမည်။ သို့သော် သူသည် ဤနေရာမှာ စားကျက်မြေထဲတွင် လှည့်လည်နေသော နွားတစ် ကောင်ကဲ့သို့ ရှိနေသည်။ သူ့ကို ညအချိန်တွင် စစ်ဆေးမေးမြန်းရန် ခေါ် လေသလော။ အဘယ့်ကြောင့် ညအချိန်မှာ စစ်ဆေးမေးမြန်းရန် ခေါ်သည် ကို သူ မသိချေသလော။ ညအချိန် စစ်ဆေး မေးမြန်းခြင်းသည် နေ့အချိန်တွင် တွေ့ဆုံမေးမြန်းခြင်း မပြုလုပ်နိုင်သူများ အတွက်သာ ဖြစ်သည်။

ထိုအချိန်တွင် သူတို့သည် ယမကာဆောင်သို့ ရောက်ရှိလာပြီဖြစ်သည်။ ဒေါသ ဖြစ်နေသော တည်းခိုခန်းပိုင်ရှင် အဘယ်ကြောင့် ဤနေရာအထိ ခေါ်လာရသည်ကို မသိချေ။ ကေ၏ လက်ရှိ ပင်ပန်းနွမ်းနယ်နေသော အခြေအနေသည် တည်းခိုခန်းတွင်းမှ ထွက်ခွာသွားနိုင်သော အခြေအနေ မျိုး မရှိသည်ကို သိ၍လည်း ဖြစ်ဟန်တူသည်။

ထိုင်ပါဟု ပြောရန်ကိုပင် စောင့်မနေတော့ဘဲ နောက်တစ်ခဏ အတွင်းမှာ ပင် ကေသည် အရက်စည် တစ်ခုပေါ်သို့ ပုံလဲကျသွားတော့သည်။ အမှောင် ထဲမှာမို့ သူ့အတွက် အဆင်ပြေသည်။ အခန်းထဲတွင် လျှပ်စစ်မီး နီကြင်ကြင် ကလေးတစ်ပွင့်သာ ရှိသည်။ အပြင်ဘက်တွင်ကား မှောင်နေဆဲ ဖြစ်သည်။ အပြင်ဘက်တွင် ဆီးနှင်းတွေ ကျနေဆဲဖြစ်သည်။ ဤအခန်းတွင်၌ကား နွေးထွေးလျက် ရှိသည်။

"သူ ဘာဖြစ်လို့ ကျွန်မကို ငေးကြည့်နေရတာလဲ။ သူ့ကို အခု မောင်းထုတ် လိုက်မယ်"

ပိုင်ရှင်ကတော်က ပြောသည်။

ဤတွင် ကေက "ကျွန်တော် ခင်ဗျားကို ကြည့်နေတာ မဟုတ်ဘူး။ ခင်ဗျားရဲ့ အဝတ်တွေ ကို ကြည့်နေတာ"

"ဘာဖြစ်လို့ကျွန်မအဝတ်တွေကို ကြည့်နေရတာလဲ" ပိုင်ရှင်ကတော်က စိတ်လှုပ်ရှားစွာနှင့် မေးလိုက်သည်။ ကေ ပခုံးတွန့်လိုက်သည်။

ပိုင်ရှင်ကတော်က ပိုင်ရှင်ကို

"ရှင် တွေ့တယ်မဟုတ်လား။ သူ မူးနေတယ်။ သူ ဒီမှာအိပ်နေရင် ပစ်ထား လိုက်ပါ"

ထို့နောက် သူမက ပက်ပီကို ခေါ်သည်။ သူမက အမှောင်ထဲမှ ထွက်လာသည်။ သူမ၏ လက်ထဲတွင် ကူရှင်တစ်ခုကို ညှပ်ပြီး တံမြက်စည်း တစ်ချောင်း ပါလာသည်။

ကေ အိပ်ရာမှနိုးလာသောအခါ ပထမ ထင်မိတာ ကောင်းကောင်း မအိပ်ရသေးဘူး ထင်သည်။ အခန်းက စောစောကအတိုင်းပင် ရှင်းပြီး နွေး နေသည်။ နံရံတွေအားလုံးက မှောင်နေသည်။ ဘီယာငှဲ့ခွက်ပေါ်က မီးလုံး ကို ငြိမ်းထားသည်။ အပြင်ဘက် ပြတင်းပေါက်များ အားလုံးသည် ညအ မှောင်ပင် ဖြစ်သည်။ သို့သော် သူ့ခြေထောက်ကို ဆန့်လိုက်သောအခါ ကူရှင် အောက်သို့ ပြုတ်ကျသွားပြီး အိပ်ရာနှင့် အရက်စည်ပိုင်းများ ကျိုးကျိုးကျဲကျဲ မြည်လာကြသည်။ ချက်ချင်းဆိုသလိုပင် ပက်ပီ ဝင်ရောက်လာသည်။ ထိုအခါတွင်မှ ညနေခင်း ရောက်နေပြီကို သူ သိရသည်။ သူ ၁၂ နာရီလုံးလုံး အိပ်ပျော် သွားသည်။

နေ့ခင်းဘက်တွင် ပိုင်ရှင်ကတော်က ခဏခဏ မေးသည်။ ထို့အတူ ဂါစတက် ကာကလည်း မေးသည်။ သူက ဘီယာသောက်ရင်း အမှောင်ထဲတွင် စောင့်နေရသည်။ မနက်ပိုင်းတွင် ပိုင်ရှင်ကတော်နှင့် စကားပြောနေစဉ်တွင် ဖြစ်သည်။ သို့သော် သူက ကေ့အား အနှောင့်အယှက် မပေးရဲပါ။ ဖရီဒါလည်း တစ်ခေါက် ရောက်လာပြီး ကေ၏အနီးတွင် ရပ်နေသည်။ သို့သော် သူက ကေအတွက် လာခြင်း မဟုတ်ပါ။ သူ့မှာ အခြားလုပ်စရာ အလုပ်တွေ အများအပြား ရှိသောကြောင့် ဖြစ်သည်။ သူမက ညနေဘက်ကျလျှင် သူမ၏အလုပ်တာဝန်ဟောင်းကို ပြန်လည်ထမ်းဆောင်ရမည် ဖြစ်သည်။

"သူက အစ်ကို့ကို နည်းနည်းမှ သဘောမကျဘူးနဲ့တူတယ်"

ပက်ပီက ကော်ဖီနှင့် မုန့်ပန်းကန်များကို ယူလာရင်း မေးလိုက်သည်။

သို့သော် သူမက ဤမေးခွန်းကို မလိုမုန်းတီးသည့် စိတ်ဖြင့် မေးလိုက်ခြင်း မဟုတ်ပါ။ လူတွေ၏ မလိုမုန်းတီးမှုကို နားလည်သည့်သဘောဖြင့် ကြေကွဲစွာ မေးလိုက်ခြင်းဖြစ်သည်။ သူမက ကေ့အား သူမလို ခံစားနေရသူတစ်ဦး အဖြစ် မေးလိုက်ခြင်းဖြစ်သည်။

ကေက ကော်ဖီကို သောက်လိုက်သောအခါ အချိုပေါ့နေမှန်းသိသဖြင့် သူမက အပြေးသွားပြီး သကြားအိုး အပြည့်တစ်လုံး ယူလာပေးသည်။

သူမ၏ ကြေကွဲဝမ်းနည်းမှုများက ကနေ့အဖို့ အခါတိုင်းထက် အလှပြင်ဆင်ထားသည်ထက်ပိုပြီး လျော့မသွားပါ။ သူမ၏ခေါင်းတွင် ဆံပင် အခွေအလိပ်ကလေးများနှင့် ဖြစ်သည်။ သူမ၏ လည်ပင်းတွင် ဆွဲထားသော ဆွဲကြိုးလေးတစ်ကုံးက လည်ဟိုက်ဘလောက် အင်္ကျီတွင်းသို့ ကျနေသည်။

ကေသည် အားရပါးရ အိပ်လိုက်ရကာ အားပြည့်သွားပြီ။

ကော်ဖီတစ်ခွက် အားရပါးရ သောက်နိုင်သွားသည်။ သူ လက်နှစ်ဖက်ကို ဆန့်တန်းလိုက်ပြီး ဖဲပြားပုံ လည်စည်းတစ်ခုကို ဖြုတ်သည်။

"ညီမဘာသာ ညီမ နေပါရစေ"

ပက်ပီက ပင်ပန်းနွမ်းနယ်စွာနှင့် ပြောလိုက်ပြီး အရက်စည်တစ်စည် ပေါ်ရှိ

သူ့ဘေးတွင် ထိုင်ချလိုက်သည်။ သို့သော် ကေက ဘာအကြောင်းကြောင့် ဆိုသည်ကို မေးနေစရာ မလိုပါ။ ကေ၏ ကော်ဖီခွက်ကို ငေးစိုက်ကြည့်ရင်း သူမဘာသာ သူမ ဇာတ်လမ်းကို စတင်ပြောတော့သည်။ သူမ၏ ခံစားနေရ ပုံများကို ဖွင့်အန်ထုတ်သွားသည်။

ပထမဆုံး ကေ နားလည်ရသည်ကတော့ ပက်ပီ၏ ကံမကောင်း အကြောင်း မလှမှုများ၌ ကေ့တွင် တာဝန်ရှိနေခြင်းပင်ဖြစ်သည်။ သို့သော် ယင်းအတွက် သူ့အပေါ် အာဃာတ မထားရှိပါ။ ကေက တစ်စုံတစ်ရာ ကန့် ကွက်ပြောဆိုခြင်း မပြုနိုင်စေရန် သူမစကားပြောနေစဉ်အတွင်း ခေါင်းကိုအားရပါးရ ညိတ်နေသည်။

ပထမတွင် သူသည် ဖရီဒါကို ယမကာခန်းမှ ခေါ်ဆောင်သွားခြင်းဖြင့် ပက်ပီ၏အခြေအနေကို တိုးတက်စေသည်။ ကောင်းပြီ။ ပက်ပီ၏ပြဿနာ ကကော ဒီအခြေအနေမျိုး ရောက်ရှိလိမ့်မည်ဟု သူမက မျှော်လင့်ထား သလား။ သူမဟာ သန့်ရှင်းရေး အလုပ်သမတစ်ဦး ဖြစ်သည်။ သူမတွင် မျှော်လင့်ချက် အနည်းအပါးသာ ရှိသော အရေးမကြီးသူတစ်ဦး ဖြစ်သည်။ သူမသည် အခြား မိန်းကလေးတစ်ယောက် ကဲ့သို့ အိပ်မက် မက်နေရသူ တစ်ဦး ဖြစ်သည်။ သို့သော် သူမ၏ အိပ်မက်သည် တကယ် ဖြစ်လာလိမ့်မည်ဟု မမျှော်လင့်ဘဲ ရှိရင်းစွဲ လုပ်ငန်းတစ်ခုထဲတွင်သာ နေထိုင်နေရသူ တစ်ဦးဖြစ်သည်။

သို့သော် ယခုအခါတွင် ဖရီဒါသည် ယမကာခန်းမှ ရုတ်တရက် ပျောက်ကွယ်သွားသည်။ တည်းခိုခန်းပိုင်ရှင်သည် လောလောဆယ် အခြေအနေတွင် လူစား ရှာ၍ မရပါ။ ယခုအခါ သူသည် ပက်ပီကို တွေ့ရှိသွားသည်။ သည်အချိန်တွင် သူမက ကေကို ချစ်ကြိုက်နေသည်။ သူမ၏ဘဝသည် တစ်သက်လုံး သည်လိုပင် ရှိနေတော့မည့် အနေအထားတွင် ကေက ရုတ်တရက်ကြီး ပေါ်လာသည်။ ဒုက္ခရောက်နေသော မိန်းကလေးတစ် ယောက်ကို ကယ်တင်မည့် သူရဲကောင်းကြီးတစ်ယောက် ဖြစ်သည်။

ကေက သူမအကြောင်း ဘာမှမသိပါ။ သူမအတွက် ဘာမှလုပ်ပေးခြင်း မရှိပါ။ သို့သော် သူမတွင် သူ့ကျေးဇူးတွေ ရှိနေသည်။ သူမကို မခန့်ခင် တညက သူမက သူနှင့် နာရီပေါင်းများစွာ စကားပြောခဲ့ရသည်။ သူက ဖရီဒါ ကို သူ၏ အပျော်မိန်းမ ပြုလုပ်ရန် သူ့အတွက် လမ်းဖွင့် ပေးလိုက်သည်။

သို့သော် ထိုအချိန်က ပက်ပီအတွက် အောက်ပါအခြေအနေများ ဖြစ်ပေါ်သည်။ ကေက ဖရီဒါကို တကယ်ချစ်နေတာလား၊ သူ့ကိုယ်သူ လိမ်လည်လှည့်ဖြား နေတာလား သို့မဟုတ် ဖရီဒါကို လိမ်လည် လှည့်ဖြားနေတာ လား။ သို့သော် သည်အခြေ အနေများက ပက်ပီကို တွန်းတင် ပေးလိုက်သည်။ ကေသည် ဖရီဒါနှင့် မတွေ့လိုတော့ပါ။ ပက်ပီနှင့်သာ တွေ့ချင်သည်။ ကေသည် သူ့အား မေတ္တာစကား ဖွင့်ဟလိမ့်မည်ဟု ပက်ပီ ထင်ခဲ့သည်။ သူ့ အား အချစ်စစ်ဆိုတာကို သင်ပြလိုက်မည်ဟု စိတ်ကူး ထားသည်။

သို့ရာတွင် အခြေအနေများကို အချိန်က တစ်မျိုးတစ်ဖုံ ဖြစ်ခဲ့သည်။

သည့်အတွက် မည်သူ့ကို အပြစ်တင်ရမည်နည်း။

ပထမဆုံးကတော့ ကေ ဖြစ်သည်။ ဒုတိယကတော့ ဖရီဒါ၏ ပါးနပ်လိမ္မာမှု ဖြစ်သည်။ အရင်ဆုံးပြောရလျှင် ကေက ဘာကို လိုချင်သနည်း။ သူက ဘယ်လို လူထူးလူဆန်း တစ်ယောက်နည်း၊ သူက ဘာကိုလိုချင်သနည်း။ သူ အလုပ်များနေသည်မှာ ဘယ်လိုအရေးကြီးသည့် ကိစ္စနည်း။ ဘယ်ကိစ္စ ကြောင့် သူနှင့် အနီးကပ်ဆုံး ကိစ္စတွေကို မေ့လျော့နေရသနည်း။ အကောင်းဆုံး အရာတွေကို မေ့လျော့နေရသနည်း၊ အလှပဆုံးအရာတွေကို မေ့လျော့နေရသနည်း။

ပက်ပီ အနစ်နာခံသည်။ အားလုံး မိုက်မဲသည်။ အားလုံးကို ဆုံးရှုံးရသည်။ တကယ်လို့သာ ဟာရင်ဟော့ကို ပြာကျအောင် မီးရှို့ပစ်လိုက်နိုင်သည့် စွမ်းအားရှိခဲ့လျှင် သူသည် ကနေ့ ပက်ပီ၏ချစ်သူ ဖြစ်ရပေမည်။

ယင်းသို့ဖြင့် ယနေ့အရင် လေးရက်က ယမကာခန်းသို့ ပက်ပီ လာသည်။ နေ့လယ်စာ မစားမီ အချိန်ကလေးတွင်ဖြစ်သည်။ ဤတွင်လုပ်ရသော အလုပ်တွေက မလွယ်ပါ။ သေလုလောက်အောင် ပင်ပန်းသည့် အလုပ်များ ဖြစ်သည်။ သို့သော် အလုပ်တွေကို ပြီးပြတ်အောင် လုပ်နိုင်ပါသည်။ ပက်ပီသည် အရင်က ဒီမှာ တစ်ရက်သာ နေခဲ့ဖူးသည်မဟုတ်။ သူမက ဒီအလုပ် တွေကို ကြိုတင်လေ့လာခဲ့ဖူးသည်။ ဒီအလုပ်တွေ ဘာဆိုသည်ကို သူ မသိခဲ့။ ဒီအလုပ်တွေကို ကြိုတင် လေ့လာခဲ့ခြင်းမရှိလျှင် ပထမဆုံး လေးနာရီ အတွင်းမှာပင် အလုပ်ပြုတ် သွားနိုင်သည်။ ဒီမှာ အလုပ်လုပ်ခဲ့လျှင် သန့်ရှင်းရေး အလုပ်သမား လုပ်သည့်အတိုင်း လုပ်ရပေမည်။

သန့်ရှင်းရေးအလုပ်သမတစ်ယောက်သည် သတ္တုတွင်းတစ်ခုမှာလုပ်သလို လုပ်ရသည်။ အထူးသဖြင့် အတွင်းရေးမှူးများ နေထိုင်သော စင်္ကြံတွင် ဖြစ်သည်။ လာရောက်တွေ့ဆုံသူ တစ်ဦး နှစ်ဦးမှ အပ သန့်ရှင်းရေး အလုပ်သမ သုံးလေးယောက်သာ ရှိသည်။ သူတို့ကလည်း ကျေနပ်ကြသည့် ပုံစံမျိုး မရှိချေ။ မနက်ပိုင်းတွင် မည်သူမျှ အခန်းထဲမှ ထွက်ခွင့်မရှိပါ။ အတွင်းရေးမှူး များသည် သူတို့ဘာသာ သူတို့ နေလိုကြသည့်အတွက် ဖြစ်သည်။ သူတို့အတွက် အစားအစာများကို ယောကျ်ား အလုပ်သမားများက မီးဖိုချောင်ကနေ သယ်ယူပေးကြသည်။

သန့်ရှင်းရေး အလုပ်သမားများက ဒီအလုပ်ကို လုပ်ပိုင်ခွင့် မရှိပါ။ စားသောက်ချိန်များတွင်လည်း သည်အတိုင်းပင် ဖြစ်သည်။ စင်္ကြံလမ်းပေါ်တွင် သွားရောက်ခွင့် မရှိပါ။ လူကြီးမင်းများ အလုပ်လုပ်နေသည့် အချိန်များတွင်သာ သန့်ရှင်းရေး အလုပ်သမားများသည် အခန်းများထဲတွင် သန့်ရှင်းရေးအလုပ်ကို လုပ်ကိုင် ခွင့် ရှိသည်။ လူရှိနေသော အခန်းများတွင် လုပ်ခွင့်မရှိပါ။ လူမရှိသော အခန်းများထဲတွင်သာ လုပ်ကိုင်ခွင့်ရှိသည်။ အလုပ်ကိုလည်း တိတ် တိတ်ဆိတ်ဆိတ်ကလေး လုပ်ကြရမည်။ သို့မှသာလျှင် လူကြီးမင်းများ အလုပ်ကို အနှောင့်အယှက်ပြုရာ မကျမည်။

သို့သော် လူကြီးမင်းတစ်ယောက်သည် သူ့အခန်းထဲတွင် ရက်ပေါင်းများစွာ ဆက်တိုက် နေခဲ့လျှင်၊ ယောကျ်ား အလုပ်သမားတွေကလည်း ပေရေညစ်ပတ်နေခဲ့လျှင်ကား သန့်ရှင်းရေး အလုပ်သမတစ်ယောက် ဝင်ရောက်နိုင်သည်။ သို့သော် ထိုအခန်းကို ရှင်းလင်းရသည့် အလုပ်မှာ မလွယ်ကူပါ။ သန့်ရှင်းရေး အလုပ်သမတစ်ယောက်သည် ပင်ပန်းခက်ခဲလှသည်။ ဘယ်တော့မှ ချီးကျူးသည့်စကား မကြားရပါ။ အမြဲတမ်းလိုပင် အပြစ်တင် ခြင်းသာ ခံရသည်။ အထူးသဖြင့် အခန်းများအတွင်း အလုပ်လုပ်နေစဉ် အတွင်း ဖိုင်တွဲများ ပျောက်သွားခဲ့လျှင် ဖြစ်သည်။

အမှန်တကယ်တွင်တော့ ဘာတစ်ခုမျှမပျောက်ပါ။ စက္ကူစုတ်ကလေးတစ် ခု ရတိုင်း တည်းခိုခန်းပိုင်ရှင်ကို ပေးရသည်။ သို့သော် အမှန်တကယ်တွင်တော့ ဖိုင်များ ပျောက်လျက် ရှိပါသည်။ ဤသည်မှာ သန့်ရှင်းရေး အလုပ်သမများ၏ အပြစ်မဟုတ်ပါ။ သည်အခါ စုံစမ်းရေးကော်မရှင် ဝင် လာသည်။ သန့်ရှင်းရေးအလုပ်သမများကို သူတို့ အခန်းတွေမှ ထွက် စေသည်။ စုံစမ်းရေးအဖွဲ့ဝင်တွေက အိပ်ရာတွေကို မွှေနှောက်ရှာဖွေ ကြသည်။ သန့်ရှင်းရေး အလုပ်သမတွေတွင် သူတို့ပိုင်ပစ္စည်းများ မရှိပါ။ ပစ္စည်းပစ္စယ နည်းနည်းပါးပါးလောက်ကို ခြင်းတောင်း တစ်ခုထဲတွင် စုပြီး ထည့်ထားကြသည်။ သို့သော် ကော်မရှင်အဖွဲ့ဝင်များက နာရီပေါင်းများစွာ ကြာအောင် ရှာကြသည်။ သူတို့ ဘာမျှရှာမတွေ့ပါ။ ဖိုင်တွေက ဘယ်လိုလုပ် ပြီး ဒီကိုရောက်လာကြသနည်း။ မိန်းကလေးတွေက ဘယ်လိုလုပ်ပြီး ဖိုင် တွေကို စိတ်ဝင်စားကြမည်နည်း။ သို့သော် အဖြေက သည်အတိုင်းပင် ဖြစ်သည်။ စိတ်ပျက်လက်ပျက် ဖြစ်နေသော ကော်မရှင်က မကျေနပ်မှုများ နှင့် ခြိမ်းခြောက်မှုများကို ပြောပြသည်။ သည်စကားတွေက တည်းခိုခန်း ပိုင်ရှင်က တစ်ဆင့် ရောက်လာသည်။

နေ့ရော ညပါ အေးအေးဆေးဆေး မနေရပါ။ ညမှာလည်း အသံတွေ ကြားနေရသည်။ နံနက် အရုဏ်တက်သွားလည်း ကြားနေရသည်။ သန့်ရှင်းရေး အလုပ်သမ အလုပ်က သူတို့မှာသော အစားအစာများကို မီးဖိုဆောင်က သွားယူပေးရသည်။ ယင်းကို ယောကျ်ားအခိုင်းအစေက သွားပို့ရသည်။

သည့်ထက် ပိုဆိုးသည်ကတော့ ညအချိန် အိပ်ပျော်နေကြစဉ်တွင် သန့်ရှင်းရေး အလုပ်သမ၏ အခန်းရှေ့မှ ခြေသံဖွဖွကြားရသည်။ ထိုအခါ မိန်းကလေးအိပ်ရာမှ ထရသည်။ အိပ်စင်တွေက အဆင့်ဆင့်ဖြစ်သည်။ အခန်းတွေက နေရာကျဉ်းသဖြင့် သူတို့သည် ကြောင်အိမ်ကြီး တစ်ခုလို အထပ်ထပ် အိပ်ကြရသည်။

အခန်းတွင်းရှိ မိန်းကလေးများ တထိတ်ထိတ် ရှိနေကြရသည်။ ပက်ပီသည် ဤဘဝသို့ ပြန်သွားရမည် ဖြစ်သည်။ ယနေ့ညနေမှာပင် သန့်ရှင်းရေး အလုပ်သမများ အခန်းသို့ သူမ ပြန်သွားရပေမည်။

အဘယ်ကြောင့်နည်း။

ကေနှင့် ဖရီဒါတို့ကြောင့်ပင် ဖြစ်သည်။ ဖရီဒါမရှိသောအခါ ပက်ပီ ဤနေရာသို့ ရောက်ခဲ့ရသည်။ သို့သော် ဤနေရာမှာ သူ မပြေပါ။ ဖရီဒါက ယမကာဆောင် အမျိုးသမီး တစ်ယောက်အနေနှင့် တကယ်လှပါသည်။ ယင်းကြောင့်လည်း ကလမ်၏ အပျော်မယ် ဖြစ်ခဲ့ရသည်။ ဖရီဒါသည် ကေနှင့် ထွက်ပြေးသောအခါ ပက်ပီ ဤနေရာသို့ ရောက်ခဲ့ရသည်။ သို့သော် ဖရီဒါ ပြန်လာမည်ဆိုသောအခါ ပက်ပီ၏ဘဝ မလုံခြုံတော့ပါ။

ပက်ပီသည် ယမကာဆောင် မိန်းကလေးတစ်ယောက်လို လှပအောင် ပြင်ခဲ့သည်။ တည်းခိုခန်းပိုင်ရှင် ကတော်က သူမ၏ဆံပင် ပြုပြင်ပေးရန် လူ လွှတ်ပေးခဲ့သည်။ လူအများကို ဆွဲဆောင်နိုင်သော အဝတ်အစားများ ရှိ ပါသည်။ သို့သော် ပက်ပီမှာ မရှိပါ။

ယခုအခါ ဖရီဒါ မရှိပြီ။ ဖရီဒါသည် ကေ၏ လက်ထောက်တစ်ယောက်နှင့် သွားချေပြီ။ ဖရီဒါသည် ကေ့အား စွန့်ခွာသွားချေပြီ။

ပက်ပီက

"တကယ်လို့ အစ်ကိုဟာ ဖရီဒါပြန်လာဦးမယ်လို့ ထင်နေရင် အစ်ကိုဟာ တစ်နေရာမှာတော့ နေရလိမ့်မယ်။ ရာသီဥတုက သိပ်အေးတယ်။ အစ်ကို မှာ အလုပ်လည်း မရှိဘူး။ အိပ်စရာလည်း နေရာမရှိဘူး။ အဲဒီတော့ အစ်ကို ညီမတို့နဲ့အတူ လာနေပါ။ ညီမရဲ့ မိန်းကလေး မိတ်ဆွေတွေကို အစ်ကို သဘောကျပါလိမ့်မယ်။ အစ်ကို့ကို အဆင် ပြေအောင် ထားပါ့မယ်။ ညီမတို့ အလုပ်တွေမှာ အစ်ကို ကူညီနိုင်ပါလိမ့်မယ်။ ဒီအလုပ် တွေကို ညီမတို့ မိန်းကလေးတွေ အနေနဲ့ လုပ်ရတာ ပင်ပန်းပါတယ်။ ညီမတို့ဟာ ကိုယ့် ကိုယ်ကိုယ် အားကိုးကြရပါတယ်။ ညအချိန်မှာ မကြောက်မလန့်ကြပါဘူး။

"ညီမတို့ဆီမှာ လာနေပါ။ ညီမရဲ့ မိန်းကလေးသူငယ်ချင်းတွေက ဖရီဒါကို သိကြပါတယ်။ ဖရီဒါအကြောင်း အစ်ကို ပျင်းရိငြီးငွေ့သွားတဲ့အထိ ပြောပြ ပါ့မယ်။ အစ်ကို လာခဲ့ပါ။ ဖရီဒါရဲ့ ဓာတ်ပုံတွေလည်း ညီမတို့မှာ ရှိပါတယ်။ အစ်ကို့ကို ညီမတို့ ပြပါ့မယ်။ အဲဒီတုန်းက ဖရီဒါက ရိုးရိုးကလေးပဲ။ အစ်ကို မှတ်မိမှာတောင် မဟုတ်ဘူး။ မျက်လုံးတွေလောက်သာ မှတ်မိမယ်။ ကဲ ဘယ်လိုလဲ၊ အစ်ကို လာမယ်မဟုတ်လား"

"ဒါပေမဲ့ ခွင့်ပြုပါ့မလား။ မနေ့ကပဲ အစ်ကိုဟာ ညီမနဲ့ စင်္ကြံလမ်းမှာ တွေ့သွား သေးတယ်"

"အစ်ကိုတွေ့သွားတာ အမှန်ပဲ။ ညီမတို့နဲ့နေရင် အစ်ကို့ကို ဘယ်လိုမှ တွေ့မှာ မဟုတ်ဘူး။ အစ်ကို့အကြောင်း ဘယ်သူမှသိမှာ မဟုတ်ဘူး။ ညီမတို့ သုံး ယောက်ပဲ သိမယ်။ အို... ဘယ်လောက် ပျော်စရာ ကောင်းလိုက်သလဲ။ ညီမ တို့သုံးယောက်ဟာ တကယ်ပဲ တတွဲတွဲရှိကြပါတယ်။ အစ်ကိုက ဟင်နရီ ယက်တီကို အထူးပဲ သဘောကျ လိမ့်မယ်။ ဒါပေမဲ့ အင်မလီကိုလည်း သဘောကျမှာပဲ။ အစ်ကို့အကြောင်း သူတို့ကို ညီမ ပြောပြထားတယ်။

"ညီမဟာ သူတို့အတွက် တစ်ခုခုလုပ်ပေးရမယ်။ ညီမရဲ့ ဘဝ အခြေအနေကလည်း မလုံခြုံဘူး။ တည်းခိုခန်းပိုင်ရှင်ကို ဟင်နရီယက်တီနဲ့ အင်မလီ အကြောင်း ပြောပြထားပြီးပြီ။ ဟင်နရီယက်တီနဲ့တော့ ပြဿနာ မရှိဘူး။ ဒါပေမဲ့ အင်မလီနဲ့တော့ စိတ်မချရဘူး။ သူက ညီမတို့ထက် ကြီးတယ်။ ဖရီဒါလောက် အသက်ကြီးတယ်။ သူ့အတွက် မျှော်လင့်ချက် မပေးဘူး။

အစ်ကိုရယ်... ညီမတို့ဆီ လာခဲ့ပါ။ အစ်ကိုဟာ ညီမတို့နဲ့ တစ်သက်လုံး“ ညီမတို့အခန်းမှာ နေစရာမလိုပါဘူး။ ညီမတို့အခန်းမှာ ညီမတို့နေ သလောက် နေဖို့ တာဝန်မရှိပါဘူး။ နွေဦးပေါက်လာလို့ရှိရင် အစ်ကိုဟာ တစ်နေရာမှာ အခန်းရှာရ လိမ့်မယ်။ အစ်ကိုဟာ ညီမတို့နဲ့ မနေချင်တော့ဘူးဆိုရင် အစ်ကို သွားနိုင်ပါတယ်။ အဲဒီအချိန်မှာ အစ်ကိုဟာ လျှို့ဝှက်ချက် တွေကို ထိန်းထားပြီး ညီမတို့ကို သစ္စာ "မဖောက် ဖို့ပဲ။ အဲဒီတော့ အစ်ကို လာမယ်မဟုတ်လား

"နွေဦးရောက်ဖို့ ဘယ်လောက်လိုသေးသလဲ"

ကေက မေးလိုက်သည်။

"နွေဦးရောက်ဖို့ ဟုတ်သလား။ ဒီမှာက ဆောင်းရာသီရှည်တယ်။ ဆောင်းက အရှည်ကြီးပဲ။ ပျင်းစရာကြီးပဲ။” “ဒါပေမဲ့ ဒါကို ဒီမှာ အပြစ်မတင်ကြဘူး။ ညီမတို့ဟာ ဆောင်းရာသီက လွတ်မြောက်ကြတယ်။ တစ်နေ့ကျရင် နွေဦး ရောက်လာမှာပဲ။ နွေလည်း ရောက်လာမှာပဲ။ အဲဒီအတွက် အချိန်တွေ ရှိပါတယ်။”

“ဒါပေမဲ့ မှတ်ဉာဏ်ထဲမှာတော့ သူတို့ဟာ အင်မတန် တိုတောင်းကြတယ်။ သူတို့ဟာ ဒီနှစ်ရက်ထက်ပိုပြီး တိုတောင်းကြတယ်။ လှပတဲ့ ဒီရက် တွေမှာ တစ်ခါတစ်ခါမှ ဆီးနှင်းတွေ ကျကြတယ်။

ဒီအချိန်တွင် တံခါးပွင့်သွားသည်။ ပက်ပီ လန့်သွားသည်။ သူ့အထင်မှာ သူ တို့သည် ယမကာခန်းနှင့် အဝေးကြီးလို့ ထင်သည်။ သို့သော် တံခါးဖွင့်သူမှာ ဖရီဒါမဟုတ်ပါ။ တည်းခိုခန်း ပိုင်ရှင်ကတော် ဖြစ်သည်။ သူမက ကေ့ အား ဒီမှာတွေ့ရသည့်အတွက် အံ့အားသင့်ဟန် ဆောင်လိုက်သည်။

ကေက သူမကို စောင့်နေခြင်းဖြစ်ကြောင်း၊ တစ်ချိန်တည်းမှာပင် ဒီမှာ တစ်ည နေခွင့်ပြုသည့် အတွက် ကျေးဇူးတင်ကြောင်း ပြောလိုက်သည်။

ကေက သူမအား အဘယ်ကြောင့် စောင့်နေသည်ကို ပိုင်ရှင်ကတော် သဘော မပေါက်ပါ။ သူမက သူ့အား တွေ့ချင်နေသည်ဟု ထင်ကြောင်း၊ အကယ်၍ သူထင်တာ မှားလျှင် တောင်းပန်ပါကြောင်း၊ နောက်ပြီးတော့ ဘာပဲဖြစ်ဖြစ် သူ အခု သွားတော့မည် ဖြစ်ကြောင်း ပြောလိုက်သည်။ သူ စာသင်ကျောင်းမှ ထွက်ခဲ့ကြောင်း၊ ထိုမှာ သူ ကျောင်းစောင့်တစ်ယောက် ဖြစ်ကြောင်း၊ ထိုသို့သွားရမှာ အဝေးကြီးဖြစ်ကြောင်း၊ ယမန်နေ့က ဆင့်ခေါ် ခြင်းအတွက် အားလုံးကို အပြစ်တင်ရမှာဖြစ်ကြောင်း၊ ဤကိစ္စ မျိုးတွင် သူ့မှာ အတွေ့အကြုံ နည်းပါးကြောင်း၊ နောင်ကို ဒီလိုမျိုး မဖြစ်စေရပါ ကြောင်း၊ ပိုင်ရှင်ကတော်ကြီးကို မနေ့ကလိုမျိုး အနှောင့်အယှက် မဖြစ်စေရ ပါကြောင်း ပြောကြားသည်။ ထို့နောက် သူသည်

သွားတော့မည့် အနေအထားဖြင့် ဦးညွှတ် အလေးပြုသည်။

ပိုင်ရှင်ကတော်ကြီးက သူ့ကို အိပ်မက် မက်နေသည့်အလား ကြည့်နေသည်။ သည်အကြည့်က ကေ့အား ထင်ထားသည်ထက် ပို၍ အချိန်ကြာ မြင့် သွားစေသည်။

ယခုအခါ ပိုင်ရှင်ကတော်ကြီး အနည်းငယ် ပြုံးလိုက်သည်။ ယင်းအပြုံးကြောင့် ကေ အံ့ဩရသည်။ အမျိုးသမီးကြီး အိပ်ရာမှ နိုးလာသည်ဟု ကေ ထင်လိုက်သည်။ သူမ၏အပြုံးအတွက် အဖြေတစ်ခုကို မျှော်လင့်ဟန်ရှိသည်။ သို့သော် ဘာအဖြေမှ မရသည့်အတွက် သူမ နိုးကြားလာသည်။

"မနေ့က ရှင်ဟာ ကျွန်မအဝတ်နဲ့ ပတ်သက်ပြီး ပြောတာ အင်မတန်ရိုင်းပျတာပဲ။ သတ္တိနည်းရာလည်း ရောက်တယ်"

သူ မနေ့က အင်မတန် ပင်ပန်းနွမ်းနယ်နေသဖြင့် ပြောမိကြောင်း၊ အဓိပ္ပာယ် မရှိသည့် စကားတစ်ခုကို ပြောမိသည်ဟု ထင်ကြောင်း၊ ယခု ပြန် စဉ်းစား၍ မရတော့ကြောင်း၊ ပိုင်ရှင်ကတော်ကြီးနှင့် ပတ်သက်ပြီး ဘာများ ပြောမိပါသလဲ၊ သူ့ဘဝတွင် မြင်ရသမျှ အဝတ်တွေထဲတွင် အလှဆုံး ဖြစ်သည်ဟု ထင်ကြောင်း၊ မည်သည့်ပိုင်ရှင် တစ်ယောက်မှ အလုပ်ချိန်တွင် ဤမျှလှပသော အဝတ်ကို ဝတ်ဆင်သည်ကို မတွေ့ဖူး ပါကြောင်း ပြောဆိုသည်။

"ဒီမှတ်ချက်တွေဟာ တော်လောက်ပါပြီ" ပိုင်ရှင်ကတော်က လျင်မြန်စွာ ပြောလိုက်သည်။ "ကျွန်မအဝတ်အစားနဲ့ ပတ်သက်ပြီး ရှင့်ဆီက ဘာစကားမှ မကြားချင်တော့ကြောင်း၊ ကျွန်မအဝတ်တွေဟာ ရှင့်အလုပ်မဟုတ်ပါဘူး။ ဒီအကြောင်းတွေ နောက်ထပ်မပြောဖို့ ကျွန်မ ပိတ်ပင်တားမြစ်တယ်"

ကေ ဦးညွှတ်လိုက်ပြန်ပြီး တံခါးဆီသို့ လျှောက်သွားသည်။

ဘယ်ပိုင်ရှင်ကတော်တစ်ယောက်မှ အလုပ်လုပ်တဲ့ အချိန်မှာ ဒီလို“

"အဝတ်မျိုးတွေ ဝတ်ပြီး လုပ်တာ မဟုတ်ဘူးဆိုတာ ဘာကိုဆိုလိုတာလဲ

ပိုင်ရှင်ကတော်က သူ့နောက်မှ လှမ်းအော်ပြီး မေးလိုက်သည်။ သူမက ဆက်၍...

"ဘာဖြစ်လို့ ဒီလိုအဓိပ္ပာယ်မရှိတဲ့စကားတွေကို ပြောရတာလဲ။ ဘယ်လိုမှ အဓိပ္ပာယ်မရှိဘူး။ ရှင် ဘာကိုဆိုလိုတာလဲ"

ကေ နောက်ဘက်သို့လှည့်ပြီး သိပ်ပြီးမှစိတ်မလှုပ်ရှားဖို့ တောင်းပန် လိုက်သည်။ အမှန်ပင် သူ၏မှတ်ချက်သည် အဓိပ္ပာယ်မရှိပါ။ တကယ်တော့ အဝတ်အစားတွေအကြောင်း သူ ဘာမျှမသိပါ။ သူ့အသိတွင် အဝတ်အစားတစ်ခုသည် သန့်ရှင်းပြီး အစင်းအကွက်တွေ ရှိမနေလျှင် ကောင်းမွန်သည်ပဲ ဖြစ်သည်။ သူ အံ့ဩသည်က ညအချိန် စင်္ကြံလမ်းမတွင် ယောက်ျားတွေက သာမန်အဝတ်တွေ ဝတ်ထားပြီး အဘယ်ကြောင့် သူမက လှပသော ညနေခင်းဝတ်စုံကို ဝတ်ဆင်ထားရသနည်း ဖြစ်သည်။

"အင်း... မနေ့ကပြောတဲ့"

ကေက တိတ်ဆိတ်စွာ လှည့်ထွက်သွားမည်ရှိစဉ် သူမက မေးလိုက်သည်။

"ဒါနဲ့ အဝတ်အစားတွေနဲ့ပတ်သက်တဲ့ အသိပညာကို ရှင် ဘယ်က ရသ လဲ"

ကေ ပခုံးတွန့်လိုက်ပြီး သူ့မှ အသိပညာမရှိပါကြောင်း ပြောလိုက်သည်။ ပိုင်ရှင်ကတော်က

"ရှင့်မှာမရှိဘူး၊ ဟုတ်လား။ ဒါဖြင့်ရင် ကောင်းပြီ၊ ရှိတယ်လို့ မတွက်ကြနဲ့ စို့၊ ကျွန်မရုံးခန်းကို လိုက်ခဲ့ပါ။ ရှင့်ကို ပြစရာတစ်ခု ရှိတယ်။ ရှင့်ရဲ့ ရိုင်းပျတဲ့ အပြုအမူတွေကို တစ်ခါတည်း စွန့်လွှတ် လိုက်လိမ့်မယ်လို့ ကျွန်မထင် တယ်"

သူမက သူ့ကိုရှေ့ကနေပြီး တံခါးဆီကို လျှောက်သွားသည်။ ပက်ပီက ဘီ လ် ရှင်းရန်ဟန်ဆောင်ပြီး ကေ ဆီသို့ တိုးသွားသည်။ သူတို့စီမံကိန်းကို လျှင်မြန်စွာ ဖော်ကြသည်။ အင်မတန်လွယ်ကူသည့် ကိစ္စဖြစ်သည်။ လမ်းသွယ်လေးသို့ ထွက်သော အပေါက်ရှိသည့် ခြံဝင်းကို ကေ သိသည်။ တံခါးပေါက်ကြီးဘေးတွင် တံခါးပေါက် ကလေး ရှိသည်။ ထိုနေရာတွင် ပက်ပီ ရပ်နေသည်မှာ သုံးနာရီ ရှိသည်။ တံခါးခေါက်သံ သုံးချက် ကြားသောအခါ တံခါးကို ဖွင့်လိုက်သည်။

သီးသန့်ရုံးခန်းမှာ ယမကာခန်းနှင့် မျက်နှာချင်းဆိုင်တွင် ဖြစ်သည်။ သူတို့အိမ်ရှေ့ ခန်းမဆောင်ကြီးကို ဖြတ်သွားရသည်။ ပိုင်ရှင်ကတော်သည် မီး လင်းနေသော အခန်းကလေးရှေ့တွင် ရပ်နေပြီး ကေ့အား စိတ်မရှည်စွာ စောင့်နေသည်။

သို့သော် အနှောင့်အယှက် တစ်စုံတစ်ခုက ရှိနေပြန်သေးသည်။ ဂါစတက်ကာက ခန်းမဆောင်ကြီးထဲတွင် ရပ်နေပြီး ကေနှင့် စကားပြောချင်နေဟန် ရှိသည်။ သူ့ကို ဖယ်ထုတ်ဖို့ မလွယ်ကူပါ။ ပိုင်ရှင်အမျိုးသမီး ရောက်လာပြီး ဂါစတက်ကာကို မကျေမနပ် ဖြစ်နေသည်။

"ရှင် ဘယ်သွားမလို့လဲ။ ရှင် ဘယ်သွားမလို့လဲ"

တံခါးကို ပိတ်လိုက်သည့်တိုင် ဂါစတက်ကာသည် အသံတွေကို ကြားနေရ ဆဲ ဖြစ်သည်။

အတော်ပူအိုက်သော အခန်းသေးသေးကလေးဖြစ်သည်။ ထိပ်ဘက် နံရံတွင် မတ်ရပ် စားပွဲတစ်လုံးနှင့် မီးခံသေတ္တာတစ်လုံး ရှိသည်။ ဘေးနံရံများတွင် အဝတ်ဗီရို တစ်လုံးနှင့် ထိုင်ခုံတစ်လုံး ရှိသည်။ အဝတ်ဗီရိုသည် အခန်း တစ်ခုလုံးကို နေရာယူ ထားသည်။ ဗီရိုသည် တံခါးသုံးရွက်တပ်ဖြစ်သည်။

ပိုင်ရှင်ကတော်က ကေ့အား ထိုင်ခုံရှည်ကြီးတွင် ထိုင်ရန် ညွှန်ပြပြီး သူမ က စာရေးစားပွဲရှိ ဆုံလည် ကုလားထိုင်တွင် ဝင်ထိုင်သည်။

"အဝတ်ချုပ်သည့်ပညာကို ရှင် မလေ့လာဖူးဘူးလား" ပိုင်ရှင်ကတော်က မေးလိုက်သည်။ "ဟင့်အင်း၊ ဘယ်တုန်းကမှ မလေ့လာဖူးပါဘူး" ကေက ဖြေလိုက်သည်။ "ရှင်က အမှန်တကယ် ဘယ်သူလဲ"

"မြေတိုင်းစာရေး"

"အဲဒါက ဘာလဲ"

ကေ ရှင်းပြသည်။ ကေ ရှင်းပြစဉ် သူမက သမ်းဝေသည်။

"ရှင်ဟာ အမှန်ကို ပြောမပြဘူး။ ဘာဖြစ်လို့ အမှန်ကိုပြောမပြရတာလဲ"

"ပိုင်ရှင်ကတော်ကြီးလည်း အမှန်ကို ပြောမပြဘူး"

"ကျွန်မက မပြောဘူး၊ ဟုတ်လား။ ရှင်ဟာ ရိုင်းပျတဲ့ စကားတွေကို ပြောလာ ပြန်ပြီ။ ကျွန်မက အမှန်ကို ပြောမပြဘူးဆိုရင် ရှင့်ကို အမှန်အတိုင်း ပြောပြရမှာလား"

"ခင်ဗျားဟာ ဟန်ဆောင်နေတာ၊ ပိုင်ရှင်ကတော်ကြီး မဟုတ်ဘူး"

"ဒီမှာ နားထောင်စမ်းပါ၊ အားလုံးကို ရှင်သိသွားပြီလား။ ဒါဆိုရင် ကျွန်မ က ဘာလဲ"

ခင်ဗျားဘာလဲဆိုတာတော့ ကျွန်တော် မသိဘူး။ ကျွန်တော်သိတာကတော့“ ခင်ဗျားဟာ ဟိုတယ်ပိုင်ရှင်ကတော် တစ်ယောက်ပဲ။ ဒါပေမဲ့ ဝတ် ထားတဲ့ အဝတ်တွေ ကတော့ ပိုင်ရှင်ကတော် တစ်ယောက်နဲ့ မသင့်လျော်တဲ့ အဝတ်တွေပဲ။

"ကျွန်တော် သိသလောက်တော့ ရွာထဲမှာ ဒီအဝတ်မျိုးတွေ မ ဝတ်ကြဘူး

"အင်း... အခုမှ ကျွန်မတို့ လိုရင်းကို ရောက်လာတယ်။ ရှင်ဟာ ရိုင်းပျတာ အမှန်ပဲ။ အပြောအဆို မလိမ္မာတာ အမှန်ပဲ။ ရှင်ဟာ ကလေးတစ်ယောက် လို မသိနားမလည်တာ အမှန်ပဲ။ ကဲ အဲဒီတော့ ပြောစမ်းပါ။ အဝတ်တွေ ဟာ ဘာ အထူးတလည် ဖြစ်နေသလဲ"

"ကျွန်တော်ပြောရင် ခင်ဗျား စိတ်ဆိုးလိမ့်မယ်"

"မဆိုးပါဘူး။ ကျွန်မ ရယ်မိမှာအမှန်ပဲ။ ဒါက ကလေးကလားဆန်တဲ့ ကိစ္စ တစ်ခုပဲ။ အဲဒီတော့ ဘယ်လို အဝတ်အစားမျိုးတွေ ဖြစ်နေသလဲ"

"ခင်ဗျားက သိပ်ကြွားချင်နေတယ်။ အစကောင်းကောင်းတွေကို ချုပ်ထားတယ်။ အင်မတန် တန်ဖိုးကြီးမယ်။ ဒါပေမဲ့ သူတို့က ရှေးဆန်တယ်။ ဇီဇာကြောင်တယ်။ ခင်ဗျား အသက်အရွယ်နဲ့ မလိုက်ဘူး။ ခင်ဗျား ကိုယ်လုံးကိုယ်ထည်နဲ့ မလိုက်ဘူး။ ခင်ဗျားအဆင့်အတန်းနဲ့ မလိုက်ဘူး။ ခင်ဗျားကို ပထမအကြိမ် မြင်ကတည်းက ကျွန်တော် သတိပြုမိတယ်။ လွန် ခဲ့တဲ့ တစ်ပတ်လောက်ကပဲပေါ့။ ဒီရွာထဲမှာ မြင်မိတာပဲပေါ့"

"ဟုတ်ပြီ။ ကျွန်မတို့ သိပြီ။ ရှေးဆန်တယ်။ ဇီဇာကြောင်တယ်။ နောက် ကော ဘာပြောဦးမလဲ။ ရှင် ဒါတွေကို ဘယ်လိုဆုံးဖြတ်သလဲ"

"ကျွန်တော့်ဘာသာ မြင်တာပဲ။ လူတစ်ယောက်အနေနဲ့ ဘာမှ လေ့လာ ထားစရာ မလိုပါဘူး"

"ဒါဖြင့်ရင် ရှင် မဆိုင်းမတွပဲ မြင်လိုက်တာပေါ့။ ရှင် ဘယ်မှာမှ လေ့လာ နေစရာမလိုဘူး။ ဖက်ရှင်နဲ့ပတ်သက်ပြီး ရှင် ချက်ချင်း သိလိုက်တာပဲ။ ဒါ ဆိုရင် ရှင်ဟာ ကျွန်မအတွက် မရှိမဖြစ်တဲ့လူပဲ။ ကျွန်မ ဝန်ခံပါတယ်။ ကျွန်မ ဝတ်ကောင်းစားလှတွေနဲ့ ပတ်သက်ပြီး အားနည်းတယ်။ အဝတ်ဗီရို တွေမှာ အဝတ်တွေနဲ့ ပြည့်နေတယ်ဆိုရင် ရှင်က ဘာပြောမလဲ။ တွန်း တံခါးတွေကို တွန်းဖွင့်ပြီး ကြည့်ပါ။ အထည်တွေ တစ်ခုပြီး တစ်ခု ထပ်ထား တာပဲ။ ဗီရိုတစ်ခုလုံး

အလျှားရော အနံရော ပြည့်နေတာပဲ။ သူတို့တွေဟာ များသောအားဖြင့် အနက်ရောင်တွေ၊ မီးခိုးရောင်တွေ၊ အညိုရောင်တွေ၊ အနက်မှောင်တွေပေါ့။ အားလုံး ရှေးဆန်တယ်။ ဇီဇာကြောင်တယ်။ ဒါပေမဲ့ လို့ မဆုံတော့တဲ့ အဝတ်တွေပဲ။ ကျွန်မမှာ နောက်ထပ် အဝတ်ဗီရို နှစ်လုံးရှိ သေးတယ်။ တစ်လုံးတစ်လုံးဟာ ဒီဗီရိုတွေလောက်ပဲ ကြီးတယ်။ ရှင် အံ့သြ သလား"

"မအံ့သြဘူး။ ဒီအတိုင်း ကျွန်တော် မျှော်လင့်ထားပြီးပါပြီ။ ကျွန်တော်ပြောခဲ့တယ် မဟုတ်လား။ ခင်ဗျားဟာ ဟိုတယ်ပိုင်ရှင်ကတော် တစ်ယောက်ဖြစ်တယ်။ ပြီးတော့ တခြားတစ်ခုကိုလည်း မျှော်လင့်နေတယ်"

"ကျွန်မဟာ လှလှပပကလေးဝတ်ဖို့ မျှော်လင့်နေတာပဲ။ ရှင်ဟာ လူမိုက် တစ်ယောက်၊ ဒါမှမဟုတ် ကလေးတစ်ယောက်၊ ဒါမှမဟုတ် အင်မတန် ကောက်ကျစ်တဲ့ လူတစ်ယောက် ဖြစ်ရမယ်။ သွားတော့၊ အခုသွားတော့"

ကေသည် ခန်းမဆောင်ကြီးထဲသို့ ရောက်ရှိသွားပြီး ဂါစတက်ကာက သူ့ အင်္ကျီလက်ကို ဆုပ်ကိုင် ထားလိုက်သည်။ ထိုအချိန်တွင် ပိုင်ရှင်ကတော်က နောက်မှ အော်ပြောလိုက်သည်။

"မနက်ဖြန်ကျရင် ကျွန်မ အဝတ်အသစ်တစ်စုံ ချုပ်မယ်။ ရှင့်အတွက် ကျွန်မ ပို့ချင် ပို့လိုက်မယ်"

ပြီး

Whisper Of Words